# နုနုရည် အင်းဝ

## ပြုံး၍လည်း ကန်တော့ခံတော်မူပါ
## ရယ်၍လည်း ကန်တော့ခံတော်မူပါ



မှန်လှပါဘုရား

အရှင်နှစ်ပါး ခြေတော်ရင်း ဆံခင်းလို့ ခြေတော်စုံ ဆံပုံပါတယ်ဘုရား။ မြို့၅ျလည်း ကန်တော့ခံတော်မူပါ၊ ရယ်၍လည်း ကန်တော့ခံတော်မူပါ၊ သားတွေသမီးတွေကို ဝအောင်လည်း ကျွေးလိုက်ပါ၊ လှအောင်လည်း ဆင်လိုက်ပါ ဘုရား။ စီးပွားလာဘ်လာဘများလည်း ဒီရေအလား တိုးလို့ နှစ်စဉ်နှစ်တိုင်းလည်း အခစား ဝင်နိုင်အောင် ခေါ်တော်မူပါ ဘုရား။



## ပထမနေ့ကန်တော့ခံ
## ဝါခေါင်လဆန်း (၁) ရက်

စုလို ပွဲတော်ချိန် ရောက်ပြီဆိုလို့ရှိရင် တောင်ပြုန်းလမ်းခွဲကလေးပတ်ဝန်းကျင်ဟာ မှိုင်းဝေရီပြာလို့ လွှမ်းတော တောင်းနေတတ်တယ်။ မန္တလေး - မဟာမုနိဘုရားလမ်းကနေ ခွဲထွက်တဲ့ တောင်ပြုန်းလမ်းခွဲကလေးပေါ်မှာ ရောင်စုံကားတန်းကြီး ရှည်လျားစပြုပြီ။

လူရောင်စုံတွေနှင့်လည်း စည်ကားစပြုပြီ။

လမ်းခွဲကလေးပေါ်မှာ တိုက်ခတ်နေတဲ့ ဝါဆို ဝါခေါင်လေက လည်း ရမ်းကားမြူးကြွလှတယ်။

ရေတိုးစေတဲ့ ဝါဆိုဝါခေါင်လေရမ်းကားကြောင့် လမ်းခွဲကလေး ဘေးက တူးမြောင်းတစ်လျှောက်မှာ ညှိုဝါရောင်ရေတွေ ပြည့်လျှံစီးဆင်းနေတယ်။ ရေရိပ်မိုးရိပ် ပွဲတော်ရိပ်ဟာ လမ်းခွဲလေးပေါ်က

လူတွေရဲ့စိတ်ကို လှုပ်ရှားစေတယ်။ မြူးကြွစေတယ်။ လွတ်လပ်ပေါ့ပါးစေတယ်။

ခရီးသည်တင် ဘတ်စ်ကားခေါင်မိုးပေါ်က လူငယ်တချို့ရဲ့ မြူးတူးအော်ဟစ်သံတွေကို ကြားရသလို ကျပ်ညပ်ပြွတ်သိပ်နေတဲ့ ဘတ်စ်ကားအတွင်းထဲက မိန်းမကြီးငယ်တို့ရဲ့ အားကိုးတကြီး တီးတိုးတိုင်တည် ဆုတောင်းသံတွေကိုလည်း ကြားရတယ်။

ကိုယ်ပိုင် ကားငယ်လေးတွေထဲမှာ သက်သောင့်သက်သာ ထိုင်လိုက်လာရတဲ့ မိန်းမကြီးငယ်တွေကတော့ လက်အုပ်ကလေးကိုတောင် ချီပြီး ရော်ရမ်းမှန်းဆ ရှိခိုးတိုင်တည်လို့။

လမ်းဘေးဝဲယာမှာတော့ ကားတန်းကြီးကို ကြိုဆိုနေသလို ကလေးလူတန်းရှည်ကြီး ရှိတယ်။

သူတို့ဟာ နေလောင်အသားအရေလေးတွေ ကိုယ်စီနဲ့။

မည်းညစ်ညစ် အဝတ်အစားလေးတွေကို ကိုယ်စီဝတ်ဆင်လို့။

ကျည်းတဲ့ အသံတစာစာလေးတွေနဲ့ အဆက်မပြတ် အော်ဟစ်နေကြတာက "ပိုက်ဆံကြဲပါဗျို့" တဲ့။

သူတို့မျက်နှာလေးတွေဟာ မျှော်လင့်ချက်တွေအပြည့်နဲ့ ကားတန်းကြီးပေါ်က လူတွေကို ကြည့်နေကြတယ်။

ကားတန်းပေါ်က လွှင့်ပျံကျလာမယ့် ပိုက်ဆံစက္ကူလေးတွေကို အလစ်မပေးတဲ့ မျက်လုံးမြူးလေးတွေနဲ့ စောင့်မျှော်နေကြတယ်။ ကားတစ်စီးစီးပေါ်ကနေ ပိုက်ဆံစက္ကူလေးတွေ ဝဲခနဲကျလာတာနဲ့ ဝိုင်းအုံလုယက်ကောက်ကြတော့တယ်။

အဲဒီအချိန်မှာတော့ ဖုန်လုံးတွေဟာ လမ်းခွဲကလေးကို မှုံမွှမ်းသွားတော့ပြီး ကားဘီးတိတ်အုပ်သံနဲ့ အထိတ်တလန့် အော်ဟစ်သံတွေလည်း ပေါ်လာတတ်သေးတယ်။

ကြွေမွနေတဲ့ ပိုက်ဆံစက္ကူရွက်ကို တင်းတင်းဆုပ်ရင်း ကားဘီးအောက်ရောက်ဖို့ သီသီကလေးလိုတော့တဲ့ ကလေးတချို့ကတော့ ဘာမှမဖြစ်သလို ရယ်ဖြဲဖြဲနဲ့။ ဒါပေမယ့် သူတစ်ကိုယ်လုံးမှာ ပွန်းပဲ့ရာတွေ ရှိတယ်။ မျက်လုံးလေးတွေကလည်း ကြောက်လန့်နေပါတယ်။

ကလေးတွေနှင့် အတူတူရောနှောအော်ဟစ်ပိုက်ဆံတောင်းနေကြတဲ့ လူကြီးတချို့လည်း ရှိသေးတယ်။ အရက်မူးနေတဲ့ အမူးသမားတွေနဲ့ လမ်းခွဲလေးဘေး လယ်ကွင်းထဲက ထွက်လာကြတဲ့ မိန်းမတစ်စုပေါ့။

အမူးသမားတွေက ကားလမ်းလယ်မှာ လက်ညှိုးနှစ်ချောင်း တထောင်ထောင်နဲ့ မျက်လုံးမှိတ်ယိမ်းယိုင်ကရင်း ကားတွေကို တားသလို မိန်းမတစ်စုကလည်း သူတို့ထဘက်ကို ကြိုးလိုဆက်ပြီး ကားကို တားတယ်။ ကားအရှိန်နှေးလိုက်တာနဲ့ "ပိုက်ဆံကြွေပါရျို့"ကို ဆိုင်းအော်ကြရင်း လက်ခုပ်သံဖြိုင်ဖြိုင်နှင့် ကခုန်ကြတော့တယ်။

ကလေးလူတန်းရှည်ကြီးဟာ တောင်ပြန်းလမ်းခွဲကလေးဆုံးတဲ့အထိ မဆုံးနိုင်အောင် ရှိနေတုန်းပဲ။

လမ်းခွဲကလေးအဆုံးမှာ တောင်ပြန်းရွာရှိတယ်။ ပွဲတော်ကွင်းကြီး ရှိတယ်။

ဒါပေမယ့် ပွဲတော်လာသူတွေနဲ့ ပွဲတော်ဆိုင်တွေက တောင်ပြန်းရွာကလေးကို ဖုံးအုပ်ပစ်လိုက်တယ်။ တောင်ပြန်းရွာကလေးဟာ ပွဲတော်ကွင်းကြီး ဖြစ်သွားခဲ့ပြီ။

လမ်းခွဲလေးပေါ်မှာ တအိအိမောင်းနှင်လာခဲ့ရတဲ့ ကားတန်းကြီးက ကိုယ့်နေရာကိုယ် အသီးသီးဝင်သွားခဲ့ကြတယ်။ ကိုယ်ပိုင်ကားငယ်ကလေးတွေက ကားအပ်ရန် မြေဝင်းကျယ်ကြီးတွေထဲကို မောင်းဝင်သွားကြပြီး ခရီးသည်တင် ဘတ်စ်ကားကြီးတွေက ကားဂိတ်ကွင်းကျယ်ကြီးတွေထဲကို မောင်းဝင်သွားကြတယ်။

ကားပေါ်က ဆင်းတာနဲ့ လှမ်းမျှော်ကြည့်လိုက်ရင် ပြွတ်သိပ်ကျပ်ညပ်နေတဲ့ ပွဲတော်ဆိုင်ခန်းတွေအလယ်က ဆုတောင်းပြည့်ဘုရားစေတီတော်ရဲ့ထီးတော်ကို ဖူးတွေ့နိုင်ပေမယ့် ကြောက်စရာကောင်းအောင် ခုတ်ကျက်ချည်နေတဲ့ ပွဲတော်အသံဗလံစုံတွေကြားမှာ စေတီတော်ရဲ့ ဆည်းလည်းသံသာကိုတော့ ကြားရနိုင်မယ် မဟုတ်ဘူး။

ပုဂံအနော်ရထာမင်း တည်ထားကိုးကွယ်ခဲ့တဲ့ ဒီဆုတောင်းပြည့်ဘုရားတည်ရာမှာ ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ် ညီနောင်နှစ်ဦး အမှုတော်အုတ်နှစ်ချပ် လစ်လပ်ပျက်ကွက်တဲ့အတွက် အနော်ရထာမင်းရဲ့ ကွပ်မျက်ခြင်းကို ခံခဲ့ရသတဲ့။

ကွပ်မျက်ခြင်းခံခဲ့ရတဲ့ ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ် မင်းညီနောင်ဟာ အနော်ရထာမင်း ဖောင်တော်နဲ့ စုန်လာတဲ့အခါ ဖောင်တော်ကို သွားမရအောင် ဆွဲထားခဲ့ပြီး အမှုတော်ကိုသာ ထမ်းရသော်လည်း တစ်စုံတစ်ရာ အကျိုးမခံစားရသောကြောင့် ဆွဲထားခြင်း ဖြစ်ပါတယ်လို့ လျှောက်တင်ကြတော့ အနော်ရထာမင်းကြီးက တောင်ပြုန်းအရပ် ဆုတောင်းပြည့်ဘုရားအနီးမှာ နတ်ကွန်းနတ်နန်း ဆောက်လုပ်ပေးပြီး လူအများကို ပူဇော်ပသစေခဲ့သတဲ့။

ဆုတောင်းပြည့် ဘုရားစေတီအတွင်းမှာ ရွှေချထားတဲ့ အုတ်နှစ်ချပ် လစ်လပ်ရာ ကွက်လပ်လေးနှစ်ခု ရှိတယ်၊ ဒီနေရာလေးကို ရှိခိုးပူဇော်ကန်တော့ဖို့အတွက် လူအများကြီး တိုးဝှေ့နေကြတယ်။

တောင်ပြုန်းရွာကလေးရဲ့အလယ် လမ်းမဘေးဝဲယာ တစ်လျှောက်မှာ ပွဲတော်ဆိုင်တွေနဲ့ ပြွတ်သိပ်ကျပ်ညပ်နေတယ်။ ပွဲတော်မှာ ရောင်းလေ့ရှိတဲ့ ကာရေကာရာ၊ လှေမုန့်၊ အနှစ်ဆုပ်ဆိုင်တွေဆီက မွှေးပျံ့လာတဲ့ မုန့်အနံ့ဟာ ဈေးသည်မလေးရဲ့ မိတ်ကပ်နံ့၊ နွားချေးနံ့၊ ရေမွှေးနံ့တွေနှင့် ရောနှောထွက်ပေါ်နေတယ်။

နာမည်တွေကို ဖတ်ရတာနဲ့တင် မူးနောက်သွားစေနိုင်တဲ့ အမိန့်ရ အရက်ဆိုင်တန်းကြီးကိုလည်း တွေ့နိုင်တယ်။

မန္တလေးရှည် မူးမူးလေး။ ယစ်ထုပ်ကြီး။ ကမြှားမလေး၊ ဂိုယာရမ်၊ ရှာချာလည်၊ ရီဝေဗီလင် အမျှားကြီးပါပဲ။

အရက်ဆိုင်တန်းကာအကျော် မီးရထားသံလမ်းကို ဖြတ်တဲ့နေရာ ရောက်ရင်တော့ လူအုပ်ကြီးက ရှေ့မရအောင် ကျပ်ညပ်နေတော့တယ်။ မီးရထားလာနေပြီမို့ သံလမ်းတံခါးတွေဘေးနားမှာ စုပြုံရပ်နေကြရတော့ တယ်။ ရုတ်တရက်ပွလာတဲ့ နေမှုရှိန်အောက်မှာ ရပ်တန့်နေရတဲ့ လူအစုအပြုံကြီးရဲ့ရှေ့မှာ ချောင်းပေါက်လေးတစ်ခုတော့ ဖြစ်သွား နိုင်တယ်။ လမ်းခွဲကလေးတစ်လျှောက်လုံးလိုက်လာတဲ့ ပါမိုပါခေါင် လေရမ်းကားတော် ပွဲတော်လူအုပ်ကြီးကို ကြောက်လို့ လမ်းခွဲကလေး ဆီ ပြန်ပြေးပြီထင်ရဲ့၊

မီးရထားကိုယ်ထည်ကို မမြင်ရလောက်အောင် လူတွေနဲ့ ဖုံးလွှမ်း ထားတဲ့ မန္တလေး-မဏ္ဍလေးမီးရထားဟာ တအိအိ တရွေ့ရွေ့နဲ့ တောင် ပြန်းဘုတာကို ဝင်လာနေတယ်။ ရထားခေါင်မိုးပေါ်မှာ၊ ရထားတမ်း ထဲမှာ၊ ခြေနင်းခုံပေါ်မှာ ပြွတ်သိပ်လိုက်လာတဲ့ လူတွေရဲ့အော်သံ၊ ဗေါသံတွေက ပွဲတော်သံတွေထဲမှာ ရောနှောပေါင်းစည်းလိုက်ကြ တယ်။

ရထားကျော်သွားတာနဲ့ လူအုပ်ကြီးက ပွဲတော်လမ်းမတစ်လျှောက် မှာဆက်ပြီး ရွေ့လျားကြပြန်တယ်။ ထူးခြားတာတစ်ခုက ရွေ့လျားနေ တဲ့ လူအုပ်ကြီးထဲမှာ ဟိုရှေးကလို ယောကျ်ားလေးတွေက မိန်းကလေး တွေကို သားပြော၊ မယားပြော၊ သမီးရည်းစားပြောတွေနဲ့ ကြေ နောက်ကြတာတွေ မရှိတော့ဘဲ ဟိုတုန်းကလို ကလေးရှုပ်ကြီးတွေ အဟောင်းလိုက်ထိုးပေးတာမျိုးတွေ ဘာတွေ မရှိတော့ဘူး။ ယောကျ်ား

လေးနဲ့ မိန်းကလေး သမီးရည်းစားဖြစ်ဖို့၊ မျက်လုံးချင်းဆုံ ရင်ခုံဖို့ အင်မတန်စက်ခဲတဲ့ ခေတ်တုန်းက မက်မောခဲ့ကြတဲ့ ပါးစပ်အရသာကို သည်နေ့ခေတ်မှာ မမက်မောကြတော့ဘူးနဲ့ တူပါရဲ့၊ ဟိုရှေး တောင်ပြုန်းကို မီလိုက်တဲ့ ဘိုးတော်အရွယ် လူပျော်ကြီးတွေလောက်ပဲ ခပ်ကြောင်ကြောင်နှင့် နောက်နေကြတယ်။

ချုပ်ပြီးသား အကျီအဝတ်အထည်ဆိုင်ကြီးတွေရဲ့ အလှအယက် ရှေးဝယ်ကြိုသံ၊ ခေါ်သံတွေက လူတွေကို ခြေလှမ်း မှားစေတယ်။ ရွှေရောင်ငွေရောင်တလက်လက်ဝင်းနေတဲ့လက်ဝတ်ရတနာအတုဆိုင်တွေမှာတော့ လူတွေ ကြိတ်ကြိတ်တိုးနေတယ်။

တောင်ပြုန်းပွဲတော်ရဲ့ အစဉ်အလာ အိမ်မြုပ်လက်ဆောင်ဖြစ်နေတဲ့ ဆွဲကြိုးလေးတွေ၊ လက်ကောက်လေးတွေ၊ နားဆွဲလေးတွေ၊ လက်စွပ်လေးတွေကို ပွဲတော်လာသူတိုင်း ဝယ်ကြတယ်။ အိမ်မြုပ်လက်ဆောင်ဝယ်သလို ပွဲတော်ထဲမှာလည်း အပျော်ဝတ်ဆင်ထားကြတယ်။ ဆွဲကြိုးတစ်ကုံး ငါးကျပ်၊ လက်ကောက်တစ်ရံလေးကျပ်၊ နားဆွဲတစ်ရံ ငါးကျပ် ဝယ်စမ်းပါလေ့၊ ဝယ်စမ်းပါလေ့၊

လက်ကောက်၊ ဆွဲကြိုးအတုလေးတွေနဲ့အတူ လူအုပ်ထဲမှာ အများဆုံး တွေ့နေရတာက မိန်းမအတုကလေးတွေပေါ့၊ မိန်းကလေးအစစ်နဲ့မခြား ပြင်ဆင်ဝတ်စားထားတဲ့ မိန်းမလျာတွေလေ။ ပွဲတော်ရဲ့ ဘယ်နေရာကို ကြည့်ကြည့် သူတို့ကို တွေ့ရမယ်၊

စားသောက်ဆိုင်တန်းတွေရဲ့ဘက်ကနေ တအုံးအုံး ထွက်လာနေတဲ့ အသံတွေကတော့ ဂီတသံလို့ ပြောလို့မရနိုင်တော့တဲ့ ကက်ဆက်ဖွင့်သံတွေပေါ့၊ ခေါင်းသောက်အကြီးကြီးတွေနဲ့ တစ်ဆိုင်နဲ့တစ်ဆိုင် အပြိုင်အဆိုင် ဖွင့်ထားရင်း စားသောက်မယ့်လူတွေကို ကြိုနေကြတယ်၊

စားသောက်ဆိုင်တန်းတွေကို ကျော်ခဲ့ရင်တော့ နတ်ကတော်တို့ရဲ့

ကနားတဲ့ခန်းလေးတွေကို အစီအရီ မြင်ရပြီ၊ အုန်းသီး၊ ငှက်ပျောသီး ဆိုင်လေးတွေနဲ့ အသင့်ပြင်ပြီးသား ကန်တော့ပွဲ ဆိုင်လေးတွေကို လည်း တွေ့ရပြီ၊ တောင်းတော်(ပဝါ)ဆိုင်လေးတွေကလည်း အရွယ် အစားစား ရောင်းနေကြလို့၊

ရှည်မျောမျော ကနားတဲ့ခန်းလေးတွေအားလုံး အတတ်နိုင်ဆုံး တောက်ပြောင်လက်နေအောင် ပြင်ဆင်ထားကြတယ်၊ ရွှေရောင်ဝင်း လက်နေတဲ့ နတ်ပုံတော်တွေဟာ မီးလုံးဝါအောက်မှာ အသက်ဝင် လှုပ်ရှားလာတော့မလိုဘဲ၊ ပုံတော်တွေရှေ့မှာ သစ်သီးမျိုးစုံ၊ ပန်းမျိုးစုံ၊ မုန့်မျိုးစုံ၊ ဘီယာဘူး၊ ရမ်ပုလင်း၊ ပက်စီ၊ ဆဲဗင်းအပ် စတဲ့ စတဲ့ စားတော်စားပွဲတွေကို တခမ်းတနား ပြင်ထားတယ်၊ လှလှပပ ဖြီး လိမ်းပြင်ဆင်ထားတဲ့ နတ်ကတော်ကလည်း ကတ္တီပါခင်း ကလပ်လေး ပေါ်က ကြွေကလေးတွေကို ဆကာ ဆကာနဲ့ ကြွေခေါက် နတ်မေးဖို့ အဆင်သင့်ပြင်လို့၊

ဟော…ဟိုမှာ လူအုပ်ကြီး ဦးတည်တိုးဝှေ့နေတဲ့ တောင်ပြန်နန်း နှစ်ပါးရဲ့ ရွှေနန်းတော်ကြီးကို လှမ်းလို့ မြင်ရပါပကော၊

အုတ်ကျက်ဆူညံလှတဲ့ အသံဗလံတွေရဲ့အလယ်မှာ နန်းတော်ကြီး က ဣန္ဒြေသိက္ခာကြီးမားစွာနဲ့ ငြိမ်သက်လို့နေတယ်၊

နန်းတော်ကြီးနား ရောက်လာကြတဲ့ လူအပေါင်းကို ရုတ်တရက် စိတ်လှုပ်ရှားသွားအောင် သင်းပျံ့လာတဲ့ အနံ့ကတော့ တခြားဟုတ်ပါ ကိုးလား၊ စွန်ပန်းနံ့လေး၊ ဒီရာသီမှာပွင့်တဲ့ စွန်ပန်းရဲ့မွှေးရနံ့ဟာ စိတ်ကို လှုပ်ရှားကြည်နူးသွားအောင် ထူးခြားတဲ့အနံ့ပေပဲ။

နန်းတော်ကြီးရဲ့ ပတ်ပတ်လည်ကို ပန်းဆိုင်တွေက ဝိုင်းရံထားကြ တယ်၊ စွန်ပန်းနံ့၊ သဇင်နံ့၊ နှင်းဆီနံ့၊ ပန်းညိုပန်းနံ့၊ ရွှေပန်းနံ့တွေနဲ့ ပန်းသည်တွေရဲ့အသံဟာ နန်းတော်ကြီးပတ်ဝန်းကျင်မှာ လွှင့်ပျံနေတဲ့

တယ်။

လူအုပ်ကြီးက ပန်းဆိုင်တွေမှာ ပန်းစုံစည်းထားတဲ့ ပန်းတော်ပန်းစည်းတွေကို ဝယ်လိုက်ကြပြီး ပန်းစည်းထိပ်မှာ ဖောင်းတော်ပဒါစလေးကို အထွတ်အမြတ် ရစ်ပတ်လိုက်ကြတယ်၊

မင်းနှစ်ပါးကို ကန်တော့ကြမယ်လေ၊ သည်နေ့ဟာ ကန်တော့ခံပထမနေ့။ မင်းနှစ်ပါး စတင်ပြီး ကန်တော့ခံတဲ့နေ့။ လူအုပ်ကြီးက ဖိနပ်တွေကို ချွတ်လိုက်ကြတယ်။

လူအုပ်ကြီးရဲ့ ခြေဖဝါးတွေဟာ ရေစိုရွှဲနေတဲ့ နန်းတော်ကြီးခြေရင်းက ရွှံ့အိုင်လေးတွေထဲမှာ နစ်မြုပ်သွားကြတယ်။ သည်ရေတွေဟာ နန်းတော် အဝင်ဝ တစ်ဖက်တစ်ချက်မှာရှိတဲ့ မင်းနှစ်ပါးရဲ့ စီးတော်ကျားရုပ်နှစ်စီးကို လူတွေ ကျားရေတိုက်ရာက စီးဆင်းလာတဲ့ ရေတွေပေါ့။

မင်းနှစ်ပါးကို ကန်တော့ပြီးတာနဲ့ နန်းတော်က အဆင်းမှာ မင်းနှစ်ပါးရဲ့ စီးတော်ကျားတွေကို ကျားရေတိုက်ကြရတယ်။ ကျားစာကျွေးကြရတယ်လေ။ နန်းတော်ကြီးခြေရင်းမှာ ကျားရေ၊ ကျားစာဆိုင်လေးတွေ ရှိတယ်။

နန်းတော်ကြီးပေါ်ကို ရောက်လာကြတဲ့ လူအုပ်ကြီးက မင်းနှစ်ပါးရဲ့ မျက်နှာတော်တွေကို အနီးကပ်ဖူးရအောင် သူ့ထက်ငါ ရှေ့ကိုတိုးကြတယ်။

နန်းတော်ကြီးထိပ် ပလ္လင်ပေါ်မှာတော့ မင်းခမ်းမင်းနား အပြည့်အစုံနဲ့ ရွှေဖျဉ်းကြီး၊ ရွှေဖျဉ်းငယ်၊ ကိုယ်တော်ကြီး။ ကိုယ်တော်လေး မင်းနှစ်ပါး ပုံတော်ရုပ်တုနှစ်ခု စံပယ်နေတယ်။

အောက်ခံ ရွှန်းရှိုးပလ္လင်ပြန့်ပေါ်မှာ လက်ယာရှုးတောင်၊ လက်ဝဲရှုးလှဲ၊ လက်ယာလက်က ဓားထမ်း၊ လက်ဝဲလက်က ပေါင်ပေါ်

ထောက်ထားတဲ့ ဟာန်နဲ့တောင်း၊ နားဒရောင်း၊ လက်ကောက်တန်ဆာ အပြည့်အစုံ ဆင်ယင်ထားတယ်။ မင်းနှစ်ပါးပုံတော်နှစ်ခုကို တစ်ဆောင်တည်း ထုလုပ်ထားပေမယ့် မင်းလေးပုံတော်ကို အရွယ်နည်းနည်း ငယ်ပြီး ထုထားတယ်။

မင်းနှစ်ပါး ပလ္လင်ဘေးမှာ နန်းထိန်းမျိုးတွေက လူတွေဆက်တဲ့ ပန်တော်ပန်းတွေ၊ တောင်းတော်တွေကို ယူပြီး မင်းနှစ်ပါးရဲ့ ပန်တော်ကျပန်းကို လူတွေဆီ ပြန်ပေးတဲ့အလုပ်ကို လက်မလည်အောင် လုပ်နေရတယ်။

မင်းနှစ်ပါးရဲ့ ပန်တော်ကျပန်းကို မရဘဲနဲ့ ဘယ်လူတစ်ယောက်မှ မပြန်ဘူး။ မင်းနှစ်ပါးရဲ့ ပန်တော်ကျပန်းကို တစ်နှစ်လုံး ဆောင်ထားကြမယ်လေ။

ပန်တော်ပန်းကို ဆောင်ထားခြင်းဖြင့် အန္တရာယ်ကင်းသတဲ့၊ ဘေးရှင်းသတဲ့၊ စီးပွားလာဘ်လာဘ တိုးတက်သတဲ့။ ကြံတိုင်းအောင်၊ ဆောင်တိုင်းမြောက်သတဲ့။

အထူးသဖြင့် သည်နေ့သည်ရက် မင်းနှစ်ပါး တောင် ကန်တော့ခံတဲ့ ရက်ဦးနေ့ဦးမှာ လာရောက်ပူဇော်ကန်တော့ရင်ဖြင့် မင်းနှစ်ပါးက ပိုလို့သာ ရွှေစိတ်တော် ကျေနပ်ပြီး ပိုလို့သာ "မ" သတဲ့။

လူအုပ်ကြီးက နန်းကြမ်းပြင်ပေါ်မှာ တစ်ဦးနှင့်တစ်ဦး တိုးဝှေ့နေရာယူ ထိုင်လိုက်ကြတယ်။

ရှိနိုးသေသေ ပုဆစ်တုပ်လို့ ပန်တော်ပန်းကို ရင်မှာထားရင်း လက်အုပ်တွေကို ကိုယ်စီ ချီလိုက်ကြတယ်။

ပြီးတော့ မျက်ဝင်ဦးနှိမ်ပြီး မင်းနှစ်ပါးကို ရှိခိုးဦးခိုက် ကန်တော့လိုက်ကြတယ်။



## ဒုတိယနေ့ ကန်တော့ခံ
## ဝါခေါင်လဆန်း ၉ ရက်

ရက်ဦးပါဘုရား၊ နေဦးပါဘုရား၊ ကျေးတော်မျိုး ကျွန်တော်မျိုးမကြီး အစစားရောက်ပါပြီ ဘုရား၊ လာဘ်ဦး၊ လာဘ်ထူးများကို ပေးသနားတော်မူပါ၊ စောင့်ရှောက်တော်မူပါ၊ ကြည့်ရှုတော်မူပါ၊ ကိုယ်တော်တို့အပါးကို နစ်စဉ်မပျက် အစစားဝင်ပါတယ် ဘုရား။ ကျေးတော်မျိုး ကျွန်တော်မျိုးမကြီးမှစ၍ သားသမီး မြေးမြစ်တီကျွတ်မှမကျန် "မ"တော်မူပါ၊ "စ"တော်မူပါ၊ ဘုန်းကောင်း၊ လာဘ်ကောင်းများလည်း ပေးသနားတော်မူပါ ဘုရား"

ဘွားရွှေအိမ်ရဲ့ ကိုယ်လုံးသေးသေးလေးက နန်းကြမ်းပြင်မှာ ပြားကပ်လို့နေတယ်။ တတွတ်တွတ် ဆုတောင်းရွတ်ဖတ်နေတဲ့ ဘွားရွှေအိမ်ရဲ့ပါးနစ်ဖက်က ချိုင့်ဝင်နေပြီး လက်အုပ်ချီထားတဲ့ လက်အစုံက

လည်း ပိန်လိုသေးငယ်ပြီး အရေတွေ အလိပ်လိုက် တွန့်လိပ်နေကြပြီ။ ဒါပေမယ့် အဘွားအိုရဲ့ ပါးရေတွန့်မျက်နှာမှာ သနပ်ခါးအဖွေးသား လိမ်းကျံထားတယ်။ ဖြူဆွတ်နေတဲ့ ဆံပင်ဖုထုံးလေးမှာ ဇွန်ပန်းကုံးလေး တစ်ကုံးကို ရစ်ပတ်ထားတယ်။ အကျီအဖြူ တစ်နှစ်လုံး ခေါက်ထားတဲ့ ခေါက်ချိုးရာတွေနှင့် (အဘွားတို့ အမျိုးပေါ်က) ဖဲတရိုကိတ် ထဘီအပွင့်ကို ဝတ်ထားပြီး ပိုးဖောက်ထားတဲ့ ပါညစ်ညစ် ပိုးပဝါကို လည်မှာရစ်လို့။

အသက် ရှစ်ဆယ်ကျော် ဘွားရွှေအိမ်ရဲ့ခေါင်းက တဆတ်ဆတ် တုန်ပြနေပြီ၊ သွားတွေလည်း ကျွတ်ပြုပြီ။ မျက်လုံးတစ်စုံသာ မှုန်ရုံ မှုန်ပြီး လူလုံးကွဲအောင် ဘွားရွှေအိမ် ကြည့်နိုင်သေးတယ်။

အရှင်နှစ်ပါး မျက်နှာတော်တွေကိုတော့ ရှေ့မတိုးနိုင်လို့၊ လူတွေကို မတိုးနိုင်လို့ ပြတ်ပြတ်သားသား မမြင်ရတော့၊ မဖူးရတော့ပြီ။ စိတ်နဲ့သာ ဖော်ရမ်းဖူးခဲ့ရတာ ဘယ်နှနှစ် ရှိခဲ့ပြီလဲ၊ ဪ… ဟိုတုန်းကတော့ ဒီလိုမဟုတ်ပေါင်။ ကိုယ်တော်တို့အနား ရောက်အောင်သွားပြီး မျက်နှာတော်ကို တစိမ့်စိမ့်ဖူးပြီး စားခဲ့တာချည်းပဲ။ ဘယ်လိုလူအုပ်မျိုး တိုးရမလဲ လာခဲ့ပါ၊ ဘယ်လိုအတားအဆီးမျိုး ကျော်ရမလဲ လာခဲ့ပါ။ ခုတော့ ဒီလိုမဟုတ်တော့ပြီ၊ ရွှေအိမ် ငယ်ငယ်တုန်းက အားတွေ ဘယ်များရောက်ကုန်ပါလိမ့်တုန်း။

ဟိုတုန်းက သည်လိုလည်း လူမများသေးပါဘူး။ ကိုယ်တော်တို့နားရောက်ဖို့ တိုးစရာ၊ ဝေ့စရာလည်း မလိုပါဘူး။ အေးအေးသက်သာ ကန်တော့ပြီး ပန်းတော်ကျလေးယူ၊ ခေါင်းမှာပန်ပြီး နန်းထဲမှာ စိမ်ပြေနပြေထိုင်နေလို့ရသေးတယ်၊ ကိုယ်တော်တို့ခြေတော်ရင်းမှာ ပါလာတဲ့ ထမင်းအိုးတောင်း၊ ဟင်းအိုးတောင်း ဖွင့်ပြီး ထမင်းစားနေလို့ရသေးတယ်။

ခုတော့ ကျေးရှူးရှင်များ ဘုန်းသမ္ဘာတော်ကလည်း ကြီးတော်မူပေတာကိုး။ တစ်ပြည်လုံးက လာပြီး စားကုန်ကြပြီ။ ကိုယ်တော်တို့ကို "ပ" လိုက်၊ "သ" လိုက်ကြတာကလည်း နည်းရော့လား။ ကျေးတော်ရင်း ကျွန်တော်ရင်း ကျွန်တော်မျိုးမကြီးတောင် ကောင်နစ်ပါးရဲ့ ပန်တော်ကျကို ယူဖို့စက်နေပြီ။ ပန်တော်ကျပန်း တစ်ပွင့်တစ်စက်မှ မရလို့ကတော့ ကျွန်တော်မျိုးမကြီး ပျော့ ဘုရား။ ကိုယ်တော်တို့ခြေတော်ရင်းမှာ ကျောက်ချနေမယ်၊

အင်း... ပန်တော်ပန်းကလည်း ဈေးကြီးလိုက်တာ ဘုရား။ ဟိုတုန်းကနှင့်များ ကွာလှချည်ရဲ့။ ဟိုတုန်းက ပန်တော်ပန်းတစ်စည်းမှ တစ်မတ်ရယ်။ သပြေပါတယ်၊ ပန်းညိုပါတယ်၊ ခွန်ကဲ့လေးလည်း ပါတယ်။ အစည်းကြီးတစ်စည်းမှ တစ်မတ်၊ အခုတစ်စည်း ငါးကျပ်တဲ့ ဘုရား။ သပြေလေး နည်းနည်းနှင့် ရွှေပန်းတွေ နည်းနည်းပဲပါတယ်။ ပန်းညိုတို့ ဘာတို့ဆိုတာ ကြားတောင်ကြားဖူးတော့ဘူး ထင်ပါရဲ့။ "ရွှေပြုးက ပန်းနဲ့သာ ညိုမွှေးလှတယ်" ဆိုတဲ့ တဆိုတောင် ရှိသေး၊ မပြောလိုက်ချင်ဘူး၊

သားတွေ သမီးတွေက အမေရယ်၊ တစ်နှစ်တလေ မသွားပါနဲ့လား။ အိမ်ကပဲ ရည်မှန်းကန်တော့ပေါ့၊ အမေ အသက်ကြီးပြီတဲ့၊ ပြောလိုက်ရတယ်၊ နင်တို့ ဘာနားလည်လို့လဲ။ အရှင်နစ်ပါးကို ပေးထားတဲ့ ကတိမဖျက်ကောင်းဘူး၊ မဖျက်ရဘူး၊ ငါ တစ်သက်လုံး အရှင်နစ်ပါးကို မွဲတော်ချိန်မှာ အစားဝင်ပါ့မယ်လို့ ကတိထားခဲ့ပြီးသား။ မင်းရာဇမာန် ရှူတယ်ဆိုတာ တယ်ကြောက်ဖို့ ကောင်းတယ်။ ဟိုတစ်နှစ်က ဖျားပြီး အိပ်ရာထဲ လဲနေလို့ အစားမဝင်လိုက်ဘဲ နေလိုက်ရပါရောလား။ ခါတည်း အိပ်မက်တွေပေး။ တစ်နှစ်လုံးလည်း ထူထောင်တယ်မရှိဘဲ ချူချာနေတော့တာ၊ အစားမဝင်လို့ မဖြစ်ဘူး

ဟဲ့လို့ ပြောရတယ်။

မြေးတွေကို အဖော်သဟဲ ထည့်ပြန်တော့လည်း တုန်ချည် တုန်ချည် ဘွားအေနှင့် မြေးတွေက မလိုက်ချင်ကြဘူး။ နေဟဲ့။ ကိုယ့်ဟာကိုယ်သွား၊ ဘာဖြစ်တုန်း။ တောင်ဝေးတစ်ချောင်းပါပြီးတာ ကို၊ သည်တောင်ပြန်းနဲ့ ကျုပ်တို့ရွာကလည်း ကပ်နေတာ။ မြေးတွေ သည်ရွာစပ်ထိ ပါလိုက်ပို့၊ နေအေးရင် ရွာစပ်က လာစောင့်လို့၊ သည်ရွာထဲက မရသမပျောက်သေးတဲ့ ပေါင်းဟောင်းသင်းဟောင်း တွေနဲ့လည်း တွေ့ချင်သေးလေ၊

တွေ့မယ်သာဆိုရ သူတို့အိမ်ရှာဖို့ကလည်း ကိုယ်အမယ်ကြီး ခပ်ခက်ခက်ရယ်။ ကိုယ်ငယ်ငယ်က သည်တစ်ရွာလုံး ဘယ်နား ဘာရှိတယ်ဆိုတာ အကုန်သိတာပေတဲ့၊ ခုပွဲတော်ချိန်ဆို မျက်စိလည် ကုန်ပါလေရော၊ တစ်ရွာလုံး နန်းတွေချည်းပဲ ဖြစ်ကုန်တာကိုး၊

အရင်တော့ သည်နန်းကြီး ဘေးနားတစ်ဝိုက်မှာ နည်းနည်းပါးပါး ပါ။ နတ်ကတော်တိုင်းလည်း ကနားထိုးပြီး စုနစ်ရက် ရနစ်လီ မနေပါ ဘူး။

ကန်တော့ပြီးပြန်တဲ့သူ ပြန်တာပဲ၊ ကိုယ်တော်တို့ သည်နန်းက လည်း သည်လို စုလစ်မွမ်းချွန်တွေနဲ့ တခမ်းတနား နန်းတော်ကြီး မဖြစ်သေးပါဘူး။ ရှေးက နန်းလေးပဲ ရှိသေးတယ်။

စုလို သံဆွဲတံခါးတွေ၊ ဘာဂျာတံခါးတွေလည်း ရှိသေးပေါင် ဘူး။ ခုတော့ ရွာထဲမှာ နတ်ကတော်တွေရဲ့ နန်းတွေ၊ နန်းတွေ နည်းတာမှ မဟုတ်ဘဲလား။ နန်းကြီးက ထိုးပေးပြီး ကိုယ်တော်တို့ကို အစွန်ဘဏ္ဍာဆက်ရတဲ့ ကနားတဲတွေနဲ့မလောက်လို့ ရွာထဲက အိမ်ခြံ ဝင်းတွေထဲမှာ ဆောက်ပြီး ငှားကြပါရောလား၊

အိမ်ဝိုင်းတိုင်းမှာ ကနားတဲတွေ၊ လူတွေနဲ့ အပြည့်၊ ရေစက်တူးပြီး

ရေချိုးလေလည်း ယူကြသတဲ့၊ အိမ်လေလည်း ယူကြသတဲ့။ ကိုယ်တော်တို့ ပေးတာပေါ့။

ကိုယ့်ကျေးရွာ၊ ကျွန်ရွာကို ကိုယ်တော်တို့က ကျွေးတာပေါ့။ ကိုယ်တော်တို့ ကျေးဇူးကြီးပါပေတယ်။

ပြီးတော့ အရင်ကဆို သည်လိုရှစ်ရက်၊ ကိုးရက် ဘာစည်သေး မတုန်း။ ရွာနေရွာတိုင်တွေပဲ ရှိးရာလာကန်တော့ကြ၊ ပန်းဆက်၊ နတ်ကတော်တွေလည်း ပုံတော်လှည်းကြီးတွေနဲ့ ပုံတော် လှည်းပေါ် တင်ပြီး တဖွဲဖွဲလာကြတုန်း၊ မန္တလေးက မီးရထားက လဆန်းရှစ်ရက်နေ့မှ ထွက်ပေးတာ။

မန္တလေးသူ မန္တလေးသားတွေက သည်ရက် ကိုးရက်ကျမှ လာကြတယ်၊ မန္တလေးသူ၊ မန္တလေးသားထုံးစံက မန္တလေးကာနေ လှည်းတွေနဲ့ လာကြတယ်။

လှည်းတွေနဲ့လာပြီး ကပိုင်ရွာ ဘုန်းကြီးကျောင်း ညောင်ပင်ကြီးတွေအောက်က ဇရပ်ကြီးတွေမှာ တစ်ထောက်နား။ အဲသည်မှာ မနက်စာ ချက်ပြုတ်စားသောက်ကြပြီး နေလေးချိတော့မှ တောင်ပြုန်းအရောက် မောင်းလာကြတာ။

လွမ်းပါသေး၊ လွမ်းပါသေး။ အိမ်က အဘိုးကြီးဖြစ်မယ့် သွားလေသူကြီး ဘိုးသာမောင်က မန္တလေးက သူဌေးဦးဘခင်တို့ လှည်းကို မောင်းရတဲ့ လှည်းသမားကြီးပေါ့တော်။ သူဌေးရဲ့လူယုံလည်း လူယုံပေါ့။

တောသူ ရွှေအိမ်ကို သူဌေးနဲ့ သူဌေးကတော်ကိုယ်တိုင် လိုက်တောင်းပေးတာ။ မင်္ဂလာဆောင်ပြီးတော့ သည်နန်းပေါ်မှာ အရှင်နှစ်ပါးကို လာကန်တော့ကြသေးတယ်။

ခြော်... အဘိုးကြီးနှယ် အသက်တိုရှာပေတယ်။

ဘွားရွှေအိမ်က နန်းကြမ်းပြင်ကနေ တောင်ဝှေးကလေးကို ထုပ် ကိုင်ရင်း မတ်တတ်ရပ်ဖို့ ကြိုးစားတယ်။ တောင်ဝှေးလေးကို အားပြုဖို့ ဘွားရွှေအိမ် ကြိုးစားနေတုန်းမှာပဲ သန်မာတဲ့ လက်တစ်ဖက်က ဘွားရွှေအိမ်ကို တွဲထူပေးလိုက်တယ်။

အလို... ဘယ်သူလေးပါလိမ့်၊

"အဘွား၊ အောက်ဆင်းမလို့လား၊ ကျွန်တော် တွဲပို့ပေးရမလား"

အော်... ဘုန်းကြီးမယ့် သူငယ်ကလေးပဲ၊ သွက်လက်ဖျတ် လတ်တဲ့ သူငယ်ကလေးကို ဘွားရွှေအိမ် သဘောကျ ခေါင်းညိတ် တုန်းမှာ သူငယ်ကလေးက သူ့အလုပ်ကို သွက်သွက်လက်လက် လုပ်ရှားလိုက်တယ်။ အဘွားကြီးရဲ့ ရေရှင်ဖုံးအိတ်၊ ဘော်လီအိတ် ထောင် အားလုံးကို အသာစမ်းသပ် လှုပ်ရှားလိုက်တယ်။

အို... အလကားပဲ။ စိုးလွင် တော်တော်စိတ်ပျက်သွားတယ်။ ချိတ်အပ်ကြီးကြီးနှင့် တွယ်ထားတဲ့ ဘော်လီအိတ်ထောင်ထဲမှာ ကျပ်တန်အသစ် မာခေါက်ခေါက်လေးတွေပဲ ပါတယ်။

တော်ပါပြီ၊ မလိုချင်ပါဘူး။ ကျပ်တန်တော်ဆိုတာ ကုန်ပြီ အဘွားရဲ့၊ နတ်ဆက်ဖို့ဆိုလည်း အဘွားမျက်နှာငယ်ရမယ်။ ခေါင်းပေါင်းတွေ၊ ခြေသိုတွေကြားမှာ မျက်နှာငယ်ရမယ်၊ ဘော်လီအိတ်ထောင်ထဲမှာ၊ ရေရှင်ဖုံးအိတ်ထဲမှာ တခြား အဘွားကြီးတွေလို ရွှေကြယ်သီးစုံတို့၊ ကျောက်ကြယ်သီးစုံတို့ကို ချိတ်နဲ့ချိတ်လာပါလား အဘွားရဲ့၊ သည်လို အဘွားကြီးမျိုးတွေဆီက ရွှေကြယ်သီးတစ်စုံ၊ ကျောက်ကြယ်သီးတစ်စုံ၊ မနစ်ပွဲတော်မှာတုန်းက စိုးလွင် ရဖူးပြီ၊ ခါးပိုက်နှိုက် သက်တမ်းတစ်လျှောက်မှာ သည်လိုအဘွားကြီးမျိုးတွေကို စိုးလွင် သဘောအကျဆုံးပေါ့၊

ကပ်ဖို့လည်း အင်မတန်လွယ်၊ နှိုက်ဖို့လည်း အင်မတန်လွယ်ပဲ။

လွှယ်ကလည်း လွယ်သေး၊ သူတို့ဆီကရတဲ့ ပစ္စည်းလေးတွေကလည်း အကောင်းလေးတွေရယ်၊ ရွှေဆိုလည်း ရေးရွှေအရည်ပီ အရည်ပြည့် လေးတွေ။ ကျောက်ဆိုလည်း ဥဿဖယား အကောင်းစားလေးတွေ။

"ဘုန်းကြီးပါစေ၊ သက်ရှည်ပါစေ၊ အန္တရာယ်မျိုး ကိုးဆယ့် ခြောက်ပါးနဲ့ ကင်းဝေးပါစေ၊ ထိမယ့်လေုတ် ဆုတ်ပါစေ၊ လာမယ့် ဘေး ဝေးပါစေ၊ တစ်ကြာ ကြာလို့ ဆယ်ကြာအောင်ပါစေ"

အဘွားကြီးက တတွတ်တွတ်ဆုတောင်းရင်း လက်ကားပေါ်ကနေ တရွေ့ရွေ့ ဆင်းသွားလေရဲ့။

အန္တရာယ်မျိုး ကိုးဆယ့်ခြောက်ပါးတော့ မကင်းဝေးချင်ပါဘူး အဘွားရယ်၊ ဘုန်းလည်း မကြီးပါရစေနဲ့။ အသက်လည်း မရှည်ပါ စေနဲ့ (ဘုန်းကြီးမှာ မဟုတ်တဲ့တူတူ အသက်ရှည်မှာ မဟုတ်တဲ့ တူတူလေ)

ဟဲဟဲ... ကိုယ်တတ်တဲ့ လက်မှုပညာလေးနဲ့ လှုပ်ရှားတိုင်း လှုပ်ရှားတိုင်းတော့ ခဲခဲဖတ်ဖတ် မိုမိုမိုမိုလေး ရပါရစေဗျား၊ ကိုယ်တော်ကြီး ကိုယ်တော်လေးတို့ကလည်း ညီမှားကို စောင့်ရှောက် တော်မူပါ၊ နန်းတော်ကြီးပေါ်ကိုလည်း ညီမှား နေ့တိုင်း အစားဝင် မှာပါ၊

အောင်မယ်... မင်းအလုပ်နဲ့မင်း အမဲရှာရင်း နန်းပေါ်လာတာ မဟုတ်လားကွလို့လည်း ဟုတ်တာတွေနဲ့ အပြစ်တင်တော့ မမူပါနဲ့။

ဘုရားလည်း ဖူးရင်း လိပ်ဥလည်း တူးရင်းပေါ့ ဘုရား။ ကိုယ် တော်တို့လည်း ဖူးရင်း အမဲလည်း ရှာရင်းပေါ့ ဘုရား။

အမဲကလည်း သည်နှစ်မရပါဘူး ဘုရား။ အရင်နှစ်တွေဆို မန္တလေး-မဏ္ဍလာ မီးရထားပေါ်မှာ တောင်ပြုန်းပွဲတော် မစခင်က တည်းက စိုးလွင်တို့ တောကြောသိနေပြီ။ စိုးလွင်တို့ လက်ဖျားမှာ

ရွှေရော၊ ငွေရော သီးနေပြီ။ ပွဲမစခင်မှာ ရထားပေါ်က စိုးလွင်တို့ရဲ့ အပဲက နတ်ကတော်တွေလေ။ သူတို့နတ်ရုပ်တောင်းတွေ၊ သေတ္တာတွေနဲ့ ရှုပ်ယှက်ခတ်ပြီး တွဲပေါ်တက်တဲ့အချိန်ဟာ စိုးလွင်တို့အတွက် အလွန်ပျော်စရာကောင်းတဲ့ အချိန်ပေါ့။ မိန်းမလျာ နတ်ကတော်တွေဆို ပိုတောင် ကပ်လို့ကောင်းသေး။ နောက်သလို ပြောင်သလိုနဲ့ နည်းနည်းပါးပါး ကပ်ညှိုလိုက်ရင် ပြီးပြီ။ သည်ထက် ဆက်လုံးရင် ခါးပိုက်နှိုက်စရာ မလိုဘဲနဲ့တောင် သူတို့ဆီက ရမယ့်ကိန်း ရှိတယ်။

ပွဲတော်ရက်အတွင်းကတော့ ရထားပေါ်မှာ စိုးလွင် စိတ်ကြိုက်ပေါ့။ ရထားက ကျပ်သလားလို့ မမေးနဲ့၊ ထိုင်စရာခုံတွေ အကုန်ပြည့်တဲ့ပြင် ခုံတွေကြားမှာ လူတွေရပ်နေကြတာ ကြည့်လိုက်လို့ရှိရင် ရင်ချင်းဆက်အမြွှာတွေ၊ ကျောချင်းဆက်အမြွှာတွေ၊ ခေါင်းချင်းဆက် အမြွှာတွေ ကျနေတာပဲ၊ ကျပ်ရမယ်လေ။ ရထားက ကားထက်ဈေးသက်သာတာကိုး။ ကားခက အစိတ်သုံးဆယ်၊ ရထားက ခုနစ်ကျပ်၊ ရှစ်ကျပ်ကိုး။ ကားခဈေးကြီးတာနဲ့ ရထားခ ဈေးသက်သာတာပဲ မြင်ပြီး ခါးပိုက်နှိုက်ရန်ကို မမြင်တဲ့ မိဘပြည်သူအပေါင်းတို့ကိုတော့ စိုးလွင်တို့က အဆင်သင့် ကြိုဆိုလျက်ပါပဲ ခင်ဗျာ။

စိုးလွင်တို့က ရထားပေါ်မှာ အမြဲရင်ချင်းဆက် အမြွှာပဲ။ ကျောချင်းဆက်တွေ၊ ခေါင်းချင်းဆက်တွေအဖြစ် ဘယ်တော့မှ မနေပါဘူး၊ ကိုယ့်ရဲ့ရင်ချင်းဆက်အမြွှာကလည်း အမျိုးသားပဲ ဖြစ်ဖြစ်၊ လည်ပင်းမှာ ဆွဲကြိုးလေးတစ်ကုံးတော့ ပါတဲ့သူ ဖြစ်မှလေ၊

အမျိုးသမီးတွေဆို ရွှေကြယ်သီးလေးတွေများ တပ်လာရင် ပိုတောင်ကောင်းသေး။ အောက်လုံးလေးတွေကို တစ်လုံးချင်း အသာလေး ဖြုတ်ရုံပဲ၊ သည်ခေတ်မှာ ကြယ်သီးတပ်အကျီတွေ ပြန်ခေတ်စားလာတာ စိုးလွင် ကျေးဇူးတင်ရဦးမယ်၊

အဲ… ရွှေမစင်တဲ့ ရွှေကြယ်သီးတွေကလည်း တစ်ခါတလေ ခါးပိုက်နှိုက်ကို တစ်ပတ် ပြန်ရိုက်သွားတတ်သေးသတဲ့။ ဒါပေမယ့် အညာသူ အညာသားတွေကတော့ ရိုးရိုးသားသား များများရှာပါတယ်။ ဆွဲကြိုးဖြစ်ဖြစ်၊ ကြယ်သီးဖြစ်ဖြစ် ရလိုက်ရင် အဝတ်ကလေးတွေ ချည်းပါပဲ။

အိုး… သည်နှစ်များတော့ မပြောချင်ပါဘူး။ ဘယ်လိုဖြစ်ကြတယ် မသိပါဘူး။ ရထားကတော့ ကျပ်ပြီပေမယ့် ယောကျ်ားများ ကြည့်လိုက်တော့လည်း ဆွဲကြိုးပါတဲ့သူ လုံးဝ မရှိသလောက် (အရင် အညာသားတွေက ဆွဲကြိုးဆွဲတာ အလွန်ဝါသနာပါတာ) မိန်းမတွေ ကြည့်လိုက်တော့လည်း ဆွဲကြိုးဝေးလို့ နားကပ်တောင် အနိုင်နိုင်။

အဲ… အင်္ကျီတွေမှာတော့ အားလုံး အားလုံး မိန်းမတွေ ရွှေကြယ်သီးတွေ တပြောင်ပြောင်နဲ့ပျား။ ဒါပေမယ့် အတင်မကြီးပါနဲ့ မိတ်ဆွေ။ မောင်စိုးလွင်တို့ ရန်ကုန်မှာကတည်းက လေ့လာခဲ့ပြီးသား။ သည်နှစ်က တစ်လုံး ဆယ့်နှစ်ကျပ်တန် ရွှေကြယ်သီးတပ် အင်္ကျီတွေ ခေတ်စားနေတဲ့ နှစ်ကိုး။ မောင်စိုးလွင်တို့ ခံလိုက်ရပုံကတော့ ရထားတွဲရှိသမျှ စုန်ချည် ဆန်ချည် ကူးတာတောင် ကလေး တစ်ယောက် လည်ပင်းက ဆွဲကြိုးမျှင်မျှင်လေး တစ်ကုံးပဲ ရတယ်။

ပွဲတော်မစခင် သုံးရက်အလိုက ရောက်တယ်။ ရှစ်ရက်နေ့ ပွဲစတယ်။ သည်နေ့ ကိုးရက်ထိ ရွှေဆိုလို့ ဒါလေးပဲ။ ငွေရတာလေးက လည်း မဖြစ်စလောက်ပါ။ စားစရိတ်၊ သောက်စရိတ်၊ နှုတ်ဆက်တဲ့ စရိတ် ဘယ်ကာမိသေးမလဲ။

တော်ပြီ၊ နက်ဖြန်ကစပြီး နန်းကြီးနားတစ်ဝိုက်မှာပဲ နေတော့မယ်။ ရိုးရာတော်သုံးတဲ့ နေ့ကျရင်တော့ ကိုယ့်အတွက်ချည်းပါပဲ။ အဲဒီနေ့ကျ ရန်ကုန်ကလာကြတဲ့ အန်တီကြီးတို့တစ်တွေ ရိုးရာတော်သုံးမယ့်

ကိုယ်တော်နှစ်ပါးအတွက်ကို အလှအယက် တိုးဝေကြရချိန်မှာ ကိုယ်က သူတို့လည်ပင်းလေးတွေ၊ သူတို့ရှိုင်းကြားထဲက ဗိုက်ဆံအိတ် ဖောင်းဖောင်းလေးတွေကို စမ်းသပ်ခွဲစိတ်လိုက်ရုံပဲလေ။

"ကဲ... ရှေ့ကနေ ဖယ်စမ်းပါတော်၊ ဒီနားမှာ ကျိုးကြည့် ကြောင်ကြည့် လုပ်မနေနဲ့။ ဘာအမျိုးမှ မရှိဘူး။ တော် ခါးပိုက်နိုက်ပဲ ခံသွားရမယ်"

စိုးလွင် ခါးတောင်းတစ်ခြမ်းမှာ အောင့်စနဲ့တောင် နေတယ်။ နွတ်သွက်လျှာသွက်၊ နွမ်းနွမ်းပါးပါး ရှိလှတဲ့ အသက်သုံးဆယ်ဝန်းကျင် မိန်းမတစ်ယောက်က စိုးလွင်တေးကနေ အတင်း ရှေ့ကို တိုးဝင်လာတယ်။ ခါးကိုပါ တံတောင်နဲ့ တွတ်ရုံမကဘူး။ မျက်စောင်းတစ်ချက်နဲ့ပါ တွတ်လိုက်သေးတဲ့ အဲဒီမိန်းမကို စိုးလွင် ရယ်ချင်သွားတယ်။

"ခါးပိုက်နှိုက်တော့ ကြောက်တယ်ဗျို့"

"မကြောက်လို့ ရမလားတော့။ ရှိရှိသမျှ ဖြုတ်ပြာခါကျအောင် အကုန်နှိုက်နိုင်တဲ့ဟာတွေ။ ကျုပ်တို့က ခံရပေါင်း များလှပြီ။ မရှိဆင်းရဲ သားလည်း ရှောင်တာ မဟုတ်ဘူး။ ပါတာလေးတွေ ပြောင်အောင် နှိုက်တာပဲ၊ ရထားပေါ်မှာ သုံးလေးခါ ခံရဖူးပါတယ်တော်။ ပန်းတော် ပန်းဝယ်ဖို့တောင် ပိုက်ဆံမရှိတော့လို့ အရှင်နှစ်ပါးကို ဒီတိုင်း တိုင်တည်ပြန်ရတယ်၊ အဖြစ်က..."

မစန်းခင်ကတော့ သူ့အကျင့် သူ့ဝသီအတိုင်း ခါးပိုက်နှိုက် တစ်ယောက်လုံး ဘေးထားပြီး ပြောချင်ရာတွေကို တရစပ် ပြောတော့ တယ်။ ဘေးက လူတွေအကုန်လုံးဟာ သူ့မိတ်ဟောင်း ကျွမ်းဟောင်း တွေ ကျနေတာပဲ၊ ဘေးက လူတွေကတော့ အဝတ်အစား နွမ်းနွမ်း ပါးပါးနဲ့ ပန်းတော်ပန်း တစ်စည်းကိုင်ပြီး ဟောင်ဖွာ ဟောင်ဖွာ၊ အားကျယ် အာကျယ်လုပ်ရင်း လူအုပ်ထဲ အတင်းတိုးဝင်နေတဲ့ မိန်းမကို

အထင်သေး စိတ်ပျက်သလို ကြည့်ကြတယ်။

ဘယ်သူတွေကြည့်ကြည့် စန်းခင်တို့က အရေးမစိုက်ပြီ။ အရှင်နှစ်ပါးရေ့ ရောက်ဖို့သာ အဓိက။ မြန်မြန်ရောက်၊ မြန်မြန်ဆောက်၊ မြန်မြန် ပန်းတော်ကျယူ။ အဲ... ကြာကြာလေးတော့ ဆုတောင်းပြီး ပြန်ရမယ်။ ကိုယ်က သည်မှာ မနက်က ထမင်းဝယ်စားနိုင်တာ မဟုတ်ဘူး။ ဘယ်မှလည်း လျှောက်ဝယ်ခြမ်းနိုင်တာလည်း မဟုတ်ဘူး။ ကိုယ့်ရှိရာ ဆိုင်လို့သာ နှစ်တိုင်း အစတ်ဝင်ပါမယ်လို့ ကတိပေးထားလို့သာ ပိုက်ဆံမရှိတဲ့ကြားက အရောက်လာခဲ့ရတာ။

တကယ်ပြောတာပါ ဘုရား။ ကိုယ်တော်တို့နှမကြီး လိမ်မပြောပါဘူး။ အင်္ဂါသမီးကြီးမှာ တစ်နှစ်ထက်တစ်နှစ် မွဲပြီးရင် မွဲနေတော့တာပဲ ဘုရား။ ကိုယ်တော်တို့ ရှေ့မှောက်ကိုလည်း မိသားစုအစုံအညီ ဝတ်ကောင်းစားလှတွေဝတ်၊ ဟိုတောင်းအေးတို့၊ လင်အေးတို့ ဆိုတဲ့ ကားမျိုးကြီးတွေ စီးပြီး ကိုယ်တော်တို့အတွက် ပုဆိုးအုပ်ထောင်ကျော်တန်တွေ၊ နိုင်ငံခြား မုန့်ပုံးတွေနှင့် လာချင်လိုက်တာ ဘုရား။

ခုတော့ အင်္ဂါသမီးကြီး ငွေအစိတ်နဲ့လာရတာ ဘုရား။ ငွေအစိတ်...။ ဘုရားစူးပါရစေရဲ့။ ဆယ်တန်အနွမ်းတစ်ရွက်၊ ငါးကျပ်တန်နှစ်ရွက်နှင့် ကျပ်တန်အသစ်လေး ငါးရွက် လဲလာခဲ့တယ်။ ကလေးတွေနဲ့ သူတို့အဖေကို သည်နားလိုလို ဟိုနားလိုလို လုပ်ပြီး သူ့ရဲ့ဈေး ဘူတာအကျွက်၊ ရထားပေါ် တက်လိုက်လာခဲ့တာ။

ယောကျ်ားလုပ်တဲ့သူ သိလို့ကတော့ တစ်ပွဲတစ်လမ်း အကဲစမ်းရမှာ ဘုရား၊ သူက သည်နှစ်သွားရင် သတ်မယ်လို့ ကြိမ်းထားတယ်ဘုရား။ ကောင်းတဲ့လူ မဟုတ်ဘူး။ ကိုယ်တော်တို့ ပေးသမျှ အဖတ်မတင်ရတာလည်း သူ့အပြစ်တွေပါတယ် ဘုရား။ ကိုယ်တော်တို့

မကြိုက်ပါဘူး၊ဆိုမှ တရုတ်အမဲကို စားတယ် ဘုရား၊ အလကား၊ တရုတ်အမဲကို သူ့ ဝယ်စားနိုင်တာလည်း၊ မဟုတ်ဘဲနဲ့ မယားကို ရှိရျင်တာနဲ့ သူ့အပေါင်းအသင်းတွေဆီက ဟင်းတောင်းတောင်းလာပြီး စားပြတာ ဘုရား၊ ကိုင်လိုက်စမ်းပါ ဘုရား၊ မုတ်လောက်သား လောက်ဖြစ်အောင် ကိုင်တော်မူလိုက်ပါ၊ အဲ... အသေတော့လည်း မကိုင်လိုက်ပါနဲ့ဦး ဘုရား၊ နုမကြီး မုဆိုးမဘဝနဲ့ ခင့်ကလေးတွေ လုပ်ကိုင်ကျွေးနေရလိမ့်မယ်။

နုမကြီးကို သည်နှစ်လည်း မနှစ်ကလို အိပ်မက်ပေးပြီး အတိတ် စိမ်းများ ပေးသနားတော်မူပါ ဘုရား၊ မနှစ်က ကိုယ်တော်တို့ပေးလို့ နုမကြီး ထောင့်ငါးရာ ချေးရင်းရတယ် ဘုရား။

ထောင့်ငါးရာဆိုတဲ့ ချေးရင်းကလည်း၊ ဘာကြာတုန်း၊ ဘုရား၊ ဆန်ချေးနှိပ်စက်လိုက်တာ သည်ပါးစပ်ပေါက်တွေနဲ့ အရင်းပြုတ် တော့တာပဲ။ နေ့ပြန်တိုး မိန်းမကို ပြန်ပြီး ရှိုးဦးတင် လုပ်ရတော့ တာပေါ့ ဘုရား။

ကဲ... ဘုရား၊ ကိုယ်တော်တို့လည်း နားငြီးတော်မူလှရောမယ်။ နုမကြီးရင်ထဲမှာတော့ ပေါ့သွားပြီ ဘုရား၊ တစ်နှစ်လုံးက အမှုတွေ ကိုယ်တော်တို့ ရှေ့မှောက်မှာ အန်လိုက်ရတာ ရင်ထဲကို ရှင်းလင်း ပေါ့သွားတာပဲ ဘုရား၊ ကိုယ်တော်တို့တန်ခိုးပါ ဘုရား၊ ကိုယ်တော်တို့ ဘုန်းပါ ဘုရား၊ ဝအောင် ကျွေးတော်မူပါ၊ တစ်နှစ်စားဘဝကနေ နှစ်နှပ်စားဘဝ ရောက်ပါစေ၊ ဝမ်းတီးတိန်များ၊ သိန်းထီများပေါက်မယ့် နံပါတ်များကိုလည်း၊ အိပ်မက်များ ပေးသနားတော်မူပါ၊ နုမကြီး အပြန်လမ်းမှာ သူဌေးများ ကျကျန်ရစ်တဲ့ ရွှေထုပ်များ၊ ငွေထုပ်များ ကို ညွှန်တော်မူပါ ဘုရား၊ ပြတော်မူပါ ဘုရား။

ကိုယ်တော်နှစ်ပါး မျက်နှာတော်ကို တစိမ့်စိမ့်ဖူးရင်း ကိုယ်ပြော

ချင်တာ မုန့်သမျှ တတွတ်တွတ် တိုင်တည်ချင်တိုင်း တိုင်တည်ပြီး မစန်းခင် လူ့အုပ်ကြားထဲကနေ ပြန်ထွက်တယ်။ ကိုယ်တော်တို့ ညွှန်တော်မူမယ့် ရွှေဆွဲကြိုးတို့၊ ငွေထုပ်တို့ကို လူ့အုပ်ကြားမှာ မျက်စိကစားရင်းပေါ့။ ဟော… ကြည့်စမ်း၊ တွေ့တော့တွေ့သားနော်။ ရွှေဆွဲကြိုးကြီး၊ ရွှေလက်ကောက်တွေ၊ စိန်နားကပ်ကြီး၊ လက်စွပ် ရောင်စုံတွေ၊ ဒါပေမယ့် မစန်းခင် တောက်လို့မရဘူး။ လူ့အုပ်ကြားက နန်းကြမ်းပြင်ပေါ်မှာ မဟုတ်ဘူး။ အဲဒါတွေက လူ့အုပ်ကြားက လူတစ်ယောက်ရဲ့ ခန္ဓာကိုယ်ပေါ်မှာ၊ လူ့အုပ်ကြားထဲမှာ တအိအိ ရွေ့လာတဲ့ မိန်းမဝကြီးတစ်ယောက်ရဲ့ ခန္ဓာကိုယ်ပေါ်မှာလေ။

အဲ… အဲလို မိန်းမကြီးမျိုး နမကြီး ဖြစ်ချင်တာ ဘုရား၊ ချင် သလောက် ဝစမ်းပါစေ၊ စားချင်တာတွေ စားလို့ဝတာပဲ ဘုရား၊ ပဝခန့်ခန့်၊ အသားအရေကလည်း စိုစိုပြည်ပြည် ပါတိတ်ထဘီ ကိုးရိုး ကားရားဆင်ကြီးတွေနဲ့လည်း လိုက်မှလိုက်၊ လည်ပင်းတုတ်တုတ် ကြီးမှာ လက်မလောက် ရွှေဆွဲကြိုးကြီးကို ချက်ပေါ်ရောက်အောင် ဆွဲ၊ လက်မောင်းအစ်အစ်တွေပေါ်မှာ ရွှေလက်ကောက်တွေ ဆင့်ကာ ဆင့်ကာဝတ်၊ ရောင်စုံကျောက်လက်စွပ်တွေကို လက်ချောင်းလေးတွေ ကျပ်အစ်နေအောင်ဝတ်၊ နားရွက်နစ်ဖက်တလည်း လက်လက် လက် လက်၊ ဝင်းဝင်းနှင့် ပါးနှစ်ဖက်က မိတ်ကပ်ရဲရဲနှင့်ကို ဟပ်လို့ ကြည့် ပါဦး ဘုရား၊

အဲဒီ မိန်းမကြီးလက်က အိတ်ထဲမှာလည်း ကိုယ်တော်တို့ ဆက်ဖို့ တောင်းတော်တွေ၊ မုဆိုးအုပ်တွေနဲ့ ဘုရား၊ နမကြီးသာ ကိုယ်တော်တို့ ထံကို အဲဒီမိန်းမကြီးပုံစံမျိုးနဲ့ လာရရင် သေပျော်ပြီ ဘုရား၊ သေပျော်ပြီ။

သူ့နောက်ကလည်း အခြွေအရံတွေနဲ့ရယ်၊ အဲ… မုန့်ပုံးတွေ၊ သစ်သီးသီးနံ့တွေလည်း ပါသေးတယ် ဘုရား။ နမကြီးကို အဲဒီမိန်းမ

ကြီးလို့ လာရအောင် မြန်မြန်လုပ်ပေးတော်မူပါ၊ မြန်မြန်လုပ်ပေးတော်မူပါ။

တိုင်တည်ပူဆာလို့ မဆုံးနိုင်သေးတဲ့ မစန်းခင်ရဲ့အားနားကာနေ မိန်းမဝကြီးအုပ်စု ဖြတ်သွားတယ်။ ပိုက်ဆံရှိသူတို့ရဲ့ ဈေးနှုန်းကို မစန်းခင် ရှုပယ်လိုက်ရင်း မျက်လုံးနှစ်လုံး ကျွတ်ထွက်မတတ် ငေးမော ကျန်ရစ်ခဲ့တယ်။

သူ့ရင်ထဲမှာ ပူပင်စရာဆိုလို့ နမ်းတစ်စေ့စာတောင်ရှိမှာ မဟုတ်ပါဘူးတော်လို့ မစန်းခင် ထင်နေတဲ့ မိန်းမဝကြီး ဒေါ်တင်မြဟန်ကတော့ ကိုယ်တော်တို့မျက်နှာ မြင်တာနဲ့ မျက်ရည်ဝိုင်းစပြီ။

သူ့ရင်ထဲက ဘယ်အပူနဲ့မှ မတူတဲ့ မန္တလေးတောင်လောက် အပူလုံးကြီးက အရည်ပျော်စပြီ။

ပုဆိုးအုပ်တွေ၊ တောင်းတွေ၊ မုန့်ပုံးတွေ၊ သစ်သီးသစ်နှံတွေကို နန်းထိန်းတွေကတစ်ထင့် ကိုယ်တော်တို့ဆီ ဆက်ပြီးတာနဲ့ ဒေါ်တင်မြဟန် လက်ကိုင်ပဝါထုတ်ပြီး နန်းထိန်းတွေ ဖော်ရွှေနှုတ်ဆက်နေတာကိုတောင် အများကြီး ပြန်မပြောနိုင်တော့ဘူး။

အားလုံး အဆင်ပြေတယ် မဟုတ်လား။ ပြေပါတယ်၊ မနှစ်က ကိုယ်တော်တို့ တိုင်တည်ထားတဲ့ စီးပွားရေးလုပ်ငန်းတွေ အဆင်ပြေရဲ့လား။ ပြေပါတယ်၊ ပြေလို့ ကတိအတိုင်း ကိုယ်တော်တို့ဆီ လာဆက်တာပေါ့။ ပြေတယ်၊ ပြေတယ်၊ စီးပွားရေးကတော့ သိပ် အဆင်ပြေတယ်၊

ကိုယ်တော်တို့ တောင်းတော်ကျူနဲ့ ပန်တော်ကျကို ဆောင်ပြီး လုပ်လိုက်တာ လုပ်ငန်းမှန်သမျှ အဆင်ပြေသလားလို့ မမေးနဲ့၊ ငွေကဝင်သလားလို့ မမေးနဲ့၊ ယောကျ်ားဖြစ်တဲ့သူ ဘာကြီးဖြစ်ဖြစ် မိန်းမ မတတ်ရင် အဆင်မပြေဘူးမှတ်ပါ။ ကိုယ်တော်တို့သာ မ မရင်

မပြေနိုင်ဘူး မှတ်ပါ။

မိန်းမလုပ်တဲ့သူက ကိုယ်တော်တို့ ဘုန်းတန်ခိုး၊ အရှိန်အဝါနဲ့ စီးပွားရေးတွေ ကောင်းပြီး ငွေတွေဝင်၊ တိုက်တွေဝင်၊ ကားတွေဝင်၊ မြေတွေဝင်နဲ့ အဆင်လည်းပြေရော အိမ်ထောင်ရေးက အဆင်မပြေတော့ဘူး ဘုရား၊ အဆင်မပြေတော့ဘူး။

ဒေါ်တင်မြဟန်က လက်ကိုင်ပဝါ မွှေးမွှေးလေးနဲ့ မိုတ်ထားတဲ့ မျက်လုံးအိမ်တောင့်စွန်းကို အသာအယာ တို့တယ်။ တို့လိုက်တဲ့ကောမှာ ခန္ဓာကိုယ်ပေါ်က အရောင်တွေက တဖျတ်ဖျတ် ဖြိုးပြက်ကြပြီး ဒေါ်တင်မြဟန် လက်အုပ်ချီပြီး ပြန်ငြိမ်သွားတဲ့အခါမှာတော့ အရောင်လက်လက်တွေလည်း ငြိမ်သွားကြမြန်တယ်။

နုမကြီးရင်ထဲက အပူကို ကိုယ်တော်တို့ သိနေမှာပါ ဘုရား၊ အခု သူ…သူ ကိုယ်တော်တို့ညီဖွား အငယ်အနှောင်းထားတယ် ဘုရား၊ မယားငယ်လေးနဲ့ ဘုရား၊

အိမ်က အကြီးဆုံးသမီးထက်တောင် ငယ်သေးတယ် ဘုရား၊ ကောင်းကြရော့လား။

အလုပ်ဝင်စကြန်းကတော့ အရက်တောင် အနံ့မခံ၊ မိန်းမဆိုဝေး၊ အကြံအဖန်ဆိုတော့လည်း မတတ်နဲ့ လူရိုးကြီးလေး၊ စုတော့ဖြင့် ပညာစုံတတ်ပြီး၊ ညနေတိုင်း စီကော်လေးတမြမြနဲ့ တွေ့တာနဲ့ မယားငယ် အိမ်သွားပြီ၊ အမယ်လေး… အိမ်တစ်ဆောင် မီးတပြောင်ထားတာ ဘုရား။

တီဗီတွေ ဘာတွေနဲ့ ဘုရား၊

နုမကြီးစကားလည်း နားမဝင်တော့ဘူး။ သားသမီးတွေ စကားလည်း နားမဝင်တော့ပါဘူး ဘုရား၊ သည်တော့ နုမကြီးက ကိုယ်တော်တို့နဲ့ တိုင်တည်မယ်၊ ကိုယ်တော်တို့မကြိုက်တဲ့ အလုပ်တွေ လုပ်တယ်

ဆိုတော့ အရင်ကိုယ်တော်တို့ကို အင်မတန်ကြောက်တဲ့ ကိုယ်တော်တို့ ညီဖွားလေ (ဆေးတွေ ဘာတွေ စတ်ခံထားရတာလည်း ပါမှာပေါ့ ဘုရား) ဘာပြောတယ် မှတ်လဲ၊ ဖွေနားတင်တော်မူပါ ဘုရား။

သူလုပ်တဲ့ အလုပ်တွေက ကိုယ်တော်တို့ ကြိုက်တဲ့အလုပ်တွေတဲ့ ဘုရား၊ မိုက်ရိုင်းပုံက ဘုရား။ ကိုယ်တော်တို့လည်း အရက်သောက်တာပဲ။ မောင်းမတွေလည်း အများကြီးတဲ့ ဘုရား။ အရက်မသောက်တော့ဘဲ ကိုယ်တော်တို့ ဥပုသ်ဆောင်ဝင်သွားပြီ ဆိုတာလည်း နားမလည်၊ ကိုယ်တော်တို့မို့ မောင်းမများရတယ် ဆိုတာလည်း မသိ၊ မပြောလိုက်ချင်ဘူး။ ကိုယ်တော်တို့မို့ မောင်းမများတာ၊ နင်က ဘာကောင်မို့လို့လဲလို့၊

ကြည့်မနေတော်မူပါနဲ့ ဘုရား၊ မတိုင်းအပ်ဘဲ ကိုယ်တော်တို့ ခြေရာတိုင်းတာ ကြည့်မနေတော်မူပါနဲ့။ ကိုယ်တော်တို့ ခြေအစုံမှာ မျက်နှာအပ်ပြီး ဦးရိုက်တောင်းပန်ရအောင် ဖခေါ်တော်မူပါ။

တစ်ခါတည်း ကိုယ်တော်တို့ ညီဖွားစိတ်တွေ လည်ပြီး နောင်တတရားတွေရပြီး မယားငယ်ကို ကွဲချင် ကွာချင်စိတ်တွေဖြစ်အောင် လုပ်ပေးတော်မူပါ။ တစ်လက်စတည်းနဲ့လည်း သတင်းသဲ့သဲ့ကြားနေရတဲ့ ကိုယ်တော့ညီဖွား အပြောင်းအရွှေ့ကိုလည်း တားပေးတော်မူပါ။

ပြောင်းရင် ရွှေ့ရင် နမကြီးမှာ စီးပွားရေးလုပ်ငန်းတွေ တိုးလိုးတန်းလန်းနဲ့ သူ့နောက် မလိုက်နိုင်၊ မပြုနိုင်၊ အကုန် ခုက္ခဖြစ်ကုန်မှာ ဘုရား။ သူက တကယ်လို့ ပြောင်းရွှေ့ရင် နမကြီးကို ခေနခဲ့တဲ့၊ လုပ်ငန်းကိုင်ငန်းတွေ အခြေပျက်မယ်တဲ့၊ အမယ်လေး... ဒီက မသိဘူးများ မှတ်လို့လား။ သူ့ဟာမကို ခေါ်သွားမှာ ဘုရား။ သူ့ဟာမကို ခေါ်သွားမှာ။

သူမှာ အဲဒီအောက်တန်းစား ကလေကချေမှုကို အရေးပေးလိုက်ရတာ၊ မြှောက်စားလိုက်ရတာ။ တပည့်တော်မက သူ့ ရွာထူးကြီးကြီး တစ်ဆင့်တက်တုန်းက တခြားကတော်တွေလို ကိုယ့်နာမည်နောက်က ကိုယ့်ယောကျ်ားနာမည်တစ်လုံး ထည့်ပြီး တင်မြဟန်လို့ နာမည်ပြောင်းတုန်းကများ ရှက်လို့တဲ့။ ရှက်စရာကြီးကွာ၊ ကလေးကလားအလုပ်တွေ မလုပ်စမ်းပါနဲ့တဲ့။

ခုတော့ သူ့ဟာမကျတော့ သူ့နာမည်တစ်လုံးတောင် မကဘူး။ နှစ်လုံးစလုံးထည့်ပြီး သူကိုယ်တိုင် နာမည်ပြောင်းသတဲ့။

နာပါတယ် ဘုရား၊ နာပါတယ်။ ရင်ထဲဝမ်းထဲ နာလွန်းလို့ပါ ဘုရား။ သင်း ရွာထူးပေါက်စတုန်းက သားသမီးတွေနဲ့ မိတင်မြ အငတ်ခံရတာတွေ၊ သင်း ရွာထူးတက်ဖို့ မိတင်မြ လက်ဝတ်လက်စားတွေ ကုန်တာတွေ တွေးရင် နာစရာကြီးပါ ဘုရား။

ကိုယ်တော်တို့ကယ်မှ ဒီအပူငြိမ်းမှာပါ။ နမကြီးအပူကို ငြိမ်းပေးတော်မူပါ။ ကိုယ်တော်တို့ ညီဗွားလည်း မယားငယ်နဲ့ကွဲ၊ အပြောင်းအရွှေ့လည်း မရှိ၊ သားတွေ၊ သမီးတွေ တမေးမွဲအောင်၊ လုပ်ငန်းကိုင်ငန်းတွေလည်း ဆတက်ထမ်းပိုးတိုးလို့ အောင်မြင်ပြီး နမကြီးအပူတွေ အားလုံးငြိမ်းခဲ့ရင် ကိုယ်တော်တို့အတွက် ပျော်ပွဲများ အကြီးအကျယ်ပေးပါ့မယ် ဘုရား၊

သုံးရက်တနားနဲ့ အကြီးကျယ်ဆုံး ပျော်ပွဲများ ကျင်းပပါ့မယ် ဘုရား၊

ဒေါ်တင်မြဟန် ဖြည်းဖြည်းချင်း မျက်စိဖွင့်လိုက်တယ်၊ မသိမသာ မဆိုစလောက် လျော့ပါးသွားတဲ့ ရင်ထဲက အပူလုံးကြီးကို သယ်ဆောင်ရင်း မတ်တတ်ရပ်ဖို့ ကြိုးစားတော့ ဘေးနားက အခြွေအရံတွေက များများသလဲ တွဲထူလိုက်ကြတယ်။

ဝလွှန်းတဲ့ ခန္ဓာကိုယ်ကြောင့် ရုတ်တရက် အထိုင်အထထ လှုပ်ရှားမှု ထိုင်ရာက ထပြီးရင်လည်း ရုတ်တရက် လမ်းမလျှောက်နိုင်ဘူး။ ခဏရပ်နေပြီးမှ ဖြည်းဖြည်းလျှောက်ရတယ်။ သွေးတိုးကလည်း ရှိနေပြီ။ အငန်ဆိုတာ ဘာမှမစားရဘူး။ ချမ်းသာတော့မှ ငါးရံ့ခြောက်ကို မစားရတဲ့အဖြစ်။

ကိုယ်တော်တို့ကို ကိုယ့်ရောဂါအကြောင်း တိုင်တည်ဖို့တောင် ခမ့်နေတယ်။ သွေးတိုးကနေ ဆီးချိုတို့၊ နှလုံးတို့ မဖြစ်အောင် တားတော်မူပါ ဘုရား။ စိတ်ချမ်းချမ်းသာသာနဲ့ အသက်ရာကျော် ရှည်ပါရစေဦး။

အခြွေအရံတွေ တွဲထားတဲ့ မတ်တတ်ကနေ ဒေါ်တင်မြဟန် လက်အုပ်ချီပြန်တယ်။

လက်အုပ်ချီရင်းကနေ မဆုံးနိုင်တဲ့ဆုတွေကို တတွတ်တွတ် ရွတ်ရင်း ဖြည်းဖြည်းလျှောက်ပြီး နန်းကြီးထဲကနေ ထွက်တယ်။

နန်းကြီးထဲမှာ များစွာသော မိန်းမ၊ ယောကျ်ား၊ မိန်းမလျာတွေဟာ ပန်တော်ပန်းကိုယ်စီနဲ့ ဒေါ်တင်မြဟန်လို မျက်စိစုံမှိတ် တတွတ်တွတ် ရွတ်ကြတုန်း။

နောက်ထပ် တတွတ်တွတ်ရွတ်မယ့် ယောကျ်ား၊ မိန်းမ လူပေါင်းများစွာကလည်း ပန်တော်ပန်းကိုယ်စီနှင့် နန်းကြီးပေါ်ကို အလုအယက် တိုးဝှေ့တက်လာကြပြီ။



## ညညီလာခံ
## ဝါခေါင်လဆန်း (၁၀) ရက်

မနေ့လယ် နာရီပြန်နှစ်ချက်၊ ဝါခေါင် နေပူပူအောက် တောင်ပြုန်း ပွဲလာတွေ နန်းကြီးတစ်ဝိုက်မှာ ချွေးသံရွှဲရွှဲနဲ့ တိုးဝှေ့လို့နေကြတယ်။ နန်းကြီးမှာတော့ ညီလာခံဖို့ အဆင်သင့် ဖြစ်နေပြီ။

တောင်ပြုန်းမင်းနှစ်ပါး ကိုယ်တော်ကြီး ကိုယ်တော်လေးတို့ရဲ့ ပုံတော်ရှေ့ အလယ်တည့်တည့်နေရာမှာ နတ်အုပ်မင်းက ထိုင်နေတယ်။

နတ်အုပ်မင်းရဲ့ နောက်နစ်တန်းမှာတော့ ရှေ့တန်းမှာ တောင်လက် မိဖုရားကြီးနှစ်ပါး၊ မြောက်လက်မိဖုရားကြီးနှစ်ပါး ထိုင်နေတော် မူတယ်။ မိဖုရားကြီးတွေက အိုလှရှာကြပြီ၊ ရှစ်ဆယ်ကျော် ကိုးဆယ် အတွင်း ရောက်ကုန်ကြပြီ။ ဒါပေမယ့် ဘယ်လောက်ပဲ အသက် အရွယ်ကြီးကြီး တောင်ပြုန်းချိန်မှာတော့ မပျက်မကွက် လာရမြဲပဲ။

မိဖုရားကြီးတွေရဲ့ နောက်တန်းမှာ ထိုင်ရတဲ့သူတွေကတော့ တောင်လက် စော်ဘွားဆောင်နဲ့ မြောက်လက် စော်ဘွားဆောင်။

သူတို့တွေရဲ့ရှေ့တန်းမှာ ဒူးတုပ်ပြီး ညီလာခံစားကြမယ့် သူတွေကတော့ အတွင်းတော်မှာ အရေးကြီးတဲ့ နန်းထိန်းများ ဦးဆောင်ပြီး တစ်ပြည်လုံးက နတ်နေကြီး နတ်ဝင်ကြီးတွေနဲ့ နတ်သား သမီးတွေပေါ့။

ညီလာခံနေ့ ဆိုတာဟာ ကျေးရွာရှင် အမှုတော်ထမ်း အမှုထမ်း၊ အရာထမ်းများ ဖြစ်ကြတဲ့ သိုးဆောင်းမိဖုရားကြီးလေးပါးနဲ့ စော်ဘွားများ၊ ရွှေဓားကိုင်၊ ရွှေဓားထမ်းများ၊ မောင်းတော်တီး စတဲ့ သိုင်းကိုင်၊ ကျွန်းကိုင်များက မင်းနှစ်ပါးကို ကန်တော့တဲ့ပွဲ၊ ကန်တော့တဲ့နေ့ပဲ။ အဆောင်ကိုင် တက်တယ်လို့လည်း ခေါ်တယ်။ အဲဒီနေ့ကို အဆောင် ကိုင်နေ့လို့လည်း ခေါ်တယ်။

ညီလာခံမှာ အရေးကြီးတဲ့ ရာဇဝင်တွေ၊ အမိန့်တွေ ပြုကြ မယ်။ နတ်အုပ်မင်း ဦးဆောင်ပြီးတော့ မိဖုရားကြီးတွေ၊ စော်ဘွားဆောင်းတွေ နတ်ကြီးတောက်ကြမယ်၊ အစောဆုံး နတ်ဖြစ်တယ်လို့ ယူဆတဲ့ အိမ်တွင်းစုနှစ်ပါး နတ်ကြီးတွေကို ပင့်ဖိတ်ကြတာပေါ့။

ပြီးတော့ တောင်ပြန်း ရွှေနန်းတော်ကြီး ထုံးစံအတိုင်း "ရေလောင်း ခြင်း"၊ "ယုန်ထိုးခြင်း" တွေ လုပ်ပြီး မင်းနှစ်ပါးကို ချေကြမယ်၊ ပနန်းမင်းကို ပင့်ကြမယ်၊ သိုးဆောင်း၊ စော်ဘွားဆောင်းတွေ ကြက်လောင်းကြမယ်၊ ဗိုးဆွဲကြမယ်။

နန်းတော်ကြီးရဲ့ အစဉ်အလာအတိုင်း မျိုးရိုးအလိုက် အတီးတော် ဆက်ခဲ့ရတဲ့ နန်းကြီးဆိုင်းကလည်း အဆင်သင့် ဖြစ်နေပြီ၊ နန်းကြီးပေါ် က နန်းကြီးဆိုင်း မတီးမချင်း ပွဲတော်တွင်းက ဘယ်ဗိုင်းမှ ဝုံလေး တစ်လုံး၊ မောင်းလေးတစ်လုံးတောင် အသံမမြည်ရဲဘူး။ နန်းကြီးဆိုင်း

တီးပြီးမှ အားလုံးတီးကြရတယ်။

ဒါတောင် ဒီညီလာခံနေ့မှာ နန်းကြီးဆိုင်းတီးပေမယ့် ပွဲတော်တွင်းက ဆိုင်းတွေ လိုက်မတီးရသေးဘူး။ နောက်တစ်နေ့ ငါးခေါင်လဆန်း ဆယ့်တစ်ရက် မင်းနစ်ပါး ချိုးရေတော်သုံးပြီး နန်းပေါ်ပြန်ရောက်မှ ပွဲတော်တွင်း ဆိုင်းတွေ တီးကြရတယ်။

ပွဲတော်တွင်းက ဆိုင်းတွေတင်မှ မဟုတ်ဘူး။ ပွဲတော်မှာ ကမယ့် ဇာတ်တွေက ဆိုင်းတွေလည်း ချိုးရေတော်သုံးပြီး ညကျမှ စတီးပြီး စကကြရတယ်။ ဒါ အစဉ်အလာပဲ။

ဒီအစဉ်အလာကို ဘယ်ဆိုင်းသမား ချိုးဖောက်ရဲသလဲ။

ဘယ်ဇာတ်သမား ချိုးဖောက်ရဲသလဲ။

ချိုးဖောက်မိလို့ ဘဝပျက်သွားတဲ့ ဇာတ်သမား၊ ဆိုင်းသမားတွေရဲ့ ဇာတ်လမ်းတွေကို တောင်ပြုန်းတစ်ခွင်က နယ်ခံတွေနဲ့ နတ်ကတော်တွေက ပြောပြကြလိမ့်မယ်။

ညနေ သုံးနာရီ ထိုးတော့မယ်၊ ညီလာခံစတော့မယ်၊

နန်းကြီးဆိုင်းရဲ့ရှာစားက ပထမဆုံး စတင်တီးရမယ့် ပတ်လုံးဝိုင်းကလေးပေါ်ကို အသာအယာ လက်တင်လို့ အသင့်ပြင်တယ်၊

သုံးနာရီတိတိ ထိုးတဲ့အချိန်မှာတော့ နန်းကြီးဆိုင်းရဲ့ရှာစားဟာ ပတ်လုံးဝိုင်းကလေးပေါ်မှာ အသာအယာ တင်ထားတဲ့ သူ့လက်ကို အဆက်မပြတ် လှုပ်ရှားလိုက်တော့တယ်။ အရုက်ကျကျ တီးခတ်ထွက်ပေါ်လာတဲ့ ဝိုင်းသံဟာ ကြည်နူးဖွယ်၊ လွမ်းဖွယ်၊ စိတ်လှုပ်ရှားဖွယ်ကောင်းစွာနဲ့ တောင်ပြုန်းပွဲတော်တစ်ခွင်လုံးကို ဖမ်းစားလွှမ်းခြုံလိုက်ပါပြီ။

ဝိုင်းသံထွက်ပေါ်လာတာနဲ့ ကြားကြားသမျှ ပရိသတ်နဲ့ ကနားတဲတွေပေါ်က နတ်ကတော်တွေ အားလုံးဟာ လုပ်လက်စ အလုပ်တွေကို

ချက်ချင်းရပ်ပြီး တစ်ပြိုင်နက် လက်အုပ်ကလေးတွေ ချီလိုက်ကြတယ်။

နန်းကြီးပေါ်က ညီလာခံကို ဦးတိုက်ရည်မှန်းပြီး လက်အုပ်ကလေးတွေ ကိုယ်စီချီလိုက်ကြပါတယ်။

"ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ ရတနာသုံးပါး အမြတ်ထုံးထားလို့ ဘုန်းရှင် ကံရှင် သမ္မာရှင် အရှင်သခင် ဘုရင်မင်းတောင်ပြန်းမင်းနှစ်ပါးအား ကျေးတော်မျိုး ကျွန်တော်မျိုး ရှိသေစွာ ရှိခိုးကန်တော့ပါတယ် ဘုရား။ ဘိုးဘိုးကြီး၊ ဘိုးဘိုးလေးတို့ ခြေတော်ရင်းမှာ ဦးခိုက်ပါတယ် ဘုရား။

ကျေးတော်မျိုး ကျွန်တော်မျိုး မသိမလိုက် မစုမဆောင်းနဲ့ ထားခဲ့သော လက်ဝတ်တန်ဆာ ရတနာများကိုလည်း ဘိုးဘိုးကြီး၊ ဘိုးဘိုးလေးတို့ကို ရည်စူးပြီး မဟာမြတ်မုနိဘုရားကြီးကို လှူမလို့ပါ ဘုရား။ အမျှ အမျှ အမျှ အမျှပေးဝေပါတယ်။ ဆယ်ဆ၊ ဆယ်ထမ်းပိုးတိုးတဲ့ ဘုရားဒါယကာ၊ ကျောင်းဒါယကာ၊ ရဟန်းဒါယကာ ဖြစ်ပါရစေ။ လောကီကမ်းခြေမှ လောကုတ္တရာကမ်းခြေသို့ မလွှတ်မြောက်မီစပ်ကြား ကြေဝတေးမင်း၊ သိကြားမျှ သောတမင်းကြီးတို့လို ဘုန်းသမ္ဘာနှင့်ပြည့်စုံသော ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ်၊ တရားထူး၊ တရားမြတ် ကျင့်ကြံအားထုတ်နိုင်သော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ် ဖြစ်ပါရစေပါ ဘိုးဘိုး။

ဘိုးဘိုးတို့ ပါရမီလည်း မှန်လှပါ။ ဖြည့်နိုင်တဲ့ ကျေးတော်မျိုး ကျွန်တော်မျိုး ဖြစ်ပါရစေ။ ဘုန်းရိပ်ကံရိပ်ခိုလှုံသော တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ သားသမီးမှ မကျန် ခုနစ်ရေ့ ခုနစ်နံ့ ခုနစ်ရက် သားသမီးအပေါင်းလည်း စိတ်ချမ်းသာ ကိုယ်ချမ်းသာနဲ့ ရှေ့လာမယ့် နှစ်တိုင်း နှစ်တိုင်းမှာ သာယာမှုနဲ့ သာသနာပြုပြီး ဘိုးဘိုးတို့ ပါရမီကို ဖြည့်နိုင်ပါရစေ။ ဘိုးဘိုးတို့ သိတော်မူတဲ့အတိုင်းပါ ဘုရား၊ အရက်လည်း မသောက်ပါဘူး၊ သူများ

သားမယားလည်း မချက်ထီးပါဘူး။ မတာရား အရက်တိုက်ပြီးတော့လည်း မတောင်းပါဘူး။ ကျေးတော်မျိုး ကျွန်တော်မျိုး အာကာ တက်ပေးပါ၊ အာကာနီ လျှာနုနီပေးတော်မူပါ ဘုရား"

မွှင့်မွှင့်လင်းလင်း ဘွင်းဘွင်းရှင်းရှင်း ရှိလှတဲ့ ရှိန်းကာနံတော့ ဆုတောင်းသံဟာ နန်းကြီးရဲ့ မနီးမဝေး အိမ်ခြံဝင်းတစ်ခုထဲက နှစ်ထပ်အိမ်ပေါ်ကနေ ထွက်ပေါ်လာတာယ်။ နှစ်ထပ်အိမ်ပေါ်ရဲ့ အိမ်ရှေ့ခန်းတစ်ခုလုံးကို ကတ္တီပါအနားကွပ် သင်ဖြူးအသစ်ကြီးတွေ အပြည့်ခင်းထားတယ်။ အိမ်ဦးခန်းမှာတော့ အနီရောင်ကော်ဇောတစ်ချပ်ကို ထပ်ခင်းထားတဲ့ပြင် ကော်ဇောရှေ့က စင်မြင့်လေး သုံးဆင့်ပေါ်မှာတော့ ယိုးဒယားမုန့်ပုံးမျိုးစုံ၊ နိုင်ငံခြား မုန့်ထုပ်မျိုးစုံ၊ သစ်သီးမျိုးစုံနဲ့ တောင်းတော်ပဝါတွေ၊ အဖိုးတန် ပုဆိုးအုပ်တွေကို စီစီရီရီ တင်ထားတယ်။

အပေါ်ဆုံးစင်မြင့်ရဲ့ အလယ်ကောင်မှာ ရွှေရောင်ကနုတ်ပန်းတွေ စီခြယ်မွမ်းမံထားတဲ့ ရွှေကာလပ်ပေါ်က ကန်တော့ခံတောင်းကြီးကလွဲရင် နတ်ပုံတော်ဆိုလို့ တစ်ခုတလေမှ မရှိဘူး။

စင်မြင့်သုံးဆင့်ရဲ့ အပေါ်ဘက်မှာတော့ မီးရောင်စုံ ထွန်းညှိပူဇော်ထားပြီး သစ္စာပန်းတွေ ဝေဆာနေတဲ့ ဘုရားဆောင် ရှိတယ်။ အသက်ငါးဆယ်ကျော်၊ ခန္ဓာကိုယ် မပိန်မဝ သွယ်လျလျနဲ့ အသားဖြူဖြူ မိတ်ကပ်လေးစစ လိမ်းကျံထားပြီး ကော်ဇောနီပေါ်မှာ ချောမောလှပ ခံ့ညားစွာ လက်အုပ်ချီထားသူဟာ တခြား မဟုတ်ပါရိုးလား။

နတ်နေကြီး၊ နတ်ဝါကြီး၊ နတ်လှုကြီးဘွဲ့ဖြစ်တဲ့ ရတနာ့ဂူ တောင်းရထားတဲ့ တောင်းဆောင်းကြီး ဦးဘစီ (ခေါ်) နာမည်ကျော် ဒေစီကျိန်းပဲပေါ့။

လက်အုပ်ချီ မျက်စိမှိတ်ထားရာကနေ မျက်လုံးဖွင့်လိုက်တာနဲ့

သင်ဖြူးတွေပေါ်မှာ ဒူးလေးတွေ တုပ်ပြီး ကျုံ့ကျုံ့လေးတွေ ရှိနေကြတဲ့ ဒေစီဂျိန်းရဲ့ နုတ်တပည့်၊ နုတ်သားသမီး နုတ်ချစ်သူတွေကို တွေ့လိုက်ရ တော့တယ်။

ဒေစီဂျိန်းက ဖော်ဖော်ရွေရွေ ပြုံးလိုက်တယ်။

"ဩော်... ရောက်ကြပလား၊ ရန်ကုန်က ဘယ်နေ့က ထွက်ခဲ့ကြ လဲ။ ပြောစမ်း။ ဘယ်တွေ သဝေထိုးခဲ့ကြသေးလဲ။ ညီလာခံအမီတော့ ရောက်တယ်ပေါ့။ ဟုတ်ကဲ့လား။ အေး... ရောက်မှ ရောက်မှ။ ကိုယ်တော်တို့ ညီလာခံကန်တော့အမီ ရောက်မှပေါ့။ ကန်တော့ကြ၊ ဆုတောင်းကြပေါ့။ တောင်းကြရဲ့ မဟုတ်လား။ ဒီကလည်း အားလုံး ခုနစ်ရက် သားသမီးအတွက် တောင်းလိုက်ပါပြီ။ ခုနက ကြားလိုက်ကြ သေးလား၊ ကဲ... လာ... ရှေ့တိုး။ ဒါက ဘာတုံး"

ဒေစီဂျိန်းက ရှေ့တိုးလာတဲ့ အမျိုးသမီးကြီးလက်ထဲက စက္ကူအိတ် ကို လှမ်းယူလိုက်တယ်။

"ဩော်... မောင်းတော်ပေါ့။ အေး... တောင်းပေပါဆက်တဲ့ အကျိုးကြောင့် ကောင်းတာဘက်ကို ဒီနေ့ကစ တိုးပြီး ရောက်ရစေ့ မယ်ပေ့။ ကဲ... ကျေနပ်ပလား"

"အငါသမီးလေး ဆယ်တန်းနှစ်ချင်းပေါက် ဂုဏ်ထူးတွေနဲ့ အောင် နိုင် ဆုတောင်းပေးပါဦး"

"ကဲ... အငါသမီးလေး ဘုရား"

တောင်းပဝါကို နဖူးထိပ်မှာကပ်ရင်း ဒေစီဂျိန်း တတွတ်တွတ် ရွတ်တာကို အမျိုးသမီးကြီးက လက်အုပ်ချီရင်း မျက်လုံးတွေ မှိတ် ထားတယ်။ တစ်ကိုယ်လုံးက အရောင်တလက်လက် ထွက်နေတဲ့ အမျိုးသမီးကြီးလိုပဲ တောက်ပပင်းလက်နေကြတဲ့ ကခြားရန်ကုန်သူ အမျိုးသမီး ကြီးတွေကလည်း ဒေစီဂျိန်းကို [illegible]

ဆက်ကြတယ်။

"မှန်လှပါဘုရား၊ ကျွေးလိုက်ပါ၊ မွေးလိုက်ပါ ဘုရား။ ဆင်လိုက်ပါ၊ ပြင်လိုက်ပါ ဘုရား၊ သားတွေ၊ သမီးတွေကို ဝအောင်လည်း ကျွေးလိုက်ပါ၊ လှအောင်လည်း ဆင်လိုက်ပါ ဘုရား၊ စီးပွားလာဘ်လာဘများလည်း ဒီရေအလား တိုးလို့ နှစ်စဉ်နှစ်တိုင်းလည်း အစားဝင်နိုင်အောင် စေါ်တော်မူပါ ဘုရား၊ သွားလမ်း လာလမ်း ပြန်လမ်း လေလှတ်မထိ ဆူးမငြိ ဘေးရန်ကင်းအောင် စောင့်ရှောက်တော်မူပါ ဘုရား"

ဆုတောင်းပြီးတာနဲ့ နဖူးမှာကပ်ထားတဲ့ ပိုက်ဆံတွေကို ဒေဝီကျိန်းက စင်မြင့်ပေါ်က တောင်းတော်မှာ သွားညှပ်တယ်။

"ကဲ…ကဲ… ဒီမှာကြည့်ကြဦး၊ သာဓုခေါ်ကြဦး၊ ပဟာဇီဘောင်းတော်ထိပ်က ရွှေဖူးနဲ့ ဒီက လက်ပတ်ကြိုးရယ်၊ လက်စွပ်ရယ်၊ ဆွဲကြိုးရယ် အားလုံး နှစ်ကျပ်သားကျော်တယ်။ ပွဲပြီးရင် ကိုယ်တော်တို့ ရည်စူးပြီး မဟာမြတ်မုနိမှာ လှူမယ်။ နတ်သားသမီးတွေအားလုံးရဲ့ ကုသိုလ်လည်း ပါတယ်၊ သာဓုခေါ်ကြ၊ အမျှ… အမျှ… အမျှ…"

"သာဓု… သာဓု… သာဓု… သာဓု…"

"ကဲ… ထမင်းစားပြီးခဲ့ကြပလား၊ မစားရသေးရင် အားမနာနဲ့။ အောက်ထပ်မှာ သွားစားချည်ကြ။ ဒီနေ့ ဘာဟင်းပါလိမ့်။ ဟင်းတော့ အများစားပေါ့။ ဟဲ့… အဖိုးကြီးရေ၊ ဧည့်သည်တွေ ထမင်းစားလိမ့်မယ်ပေါ့။ သွား…သွား၊ ဘာမှအားနာမနေနဲ့ သွားစားကြ"

"နေပါဦး ဒေဝီကျိန်းရဲ့၊ သားတော်မောင် သဘောလိုက်ဖို့ ရမရ သိချင်သေးတယ်"

"ဟုတ်တယ်၊ အိမ်ကလူ အပြောင်းအရွှေလေးများလည်း မေးဟာ ရက်ချမ်းပါဦး"

"ကဲ…ကဲ…ကဲ… အားလုံးအောင်မြေ၊ အားလုံးဖြစ်မြေ၊ ဟုတ်ရဲ့လား။ အမယ်လေး ဒီက တစ်ခါတည်း ဆုတောင်းပြီးသား၊ မေတ္တာ ပို့ပြီးသား၊ ဘာမှမပူနဲ့၊ စိတ်ချ၊ သွား… သွား… ထမင်းသွားစား ချည်"

အရောင်လက်လက် မိန်းမအုပ်စု အောက်ဆင်းသွားတာနဲ့ ဒေဝီ ကျိန်းက ရင်ဘတ်ကို လက်နဲ့ဖိပြီး ဟင်းခနဲ နေအောင် သက်ပြင်းကို ချတယ်။ ပြီးတော့ ရေနွေးပန်းထဲက ရေနွေးတစ်ခွက်ကို မော့သောက်ချ လိုက်ပြီး ကော်ဇောပေါ်က ကြိမ်ခေါင်းအုံးလေးပေါ်မှာ လှဲချလိုက် တယ်။

မောတယ်၊ မောတယ်။ အဟုတ်ပဲ။ သနပ်ခါး ပန်းမန်လိမ်း။ အဝတ်အစား ကြော့ကြော့ဝတ် ထိုင်ပြီး စကားပြောနေရတာများ မောသေးလားလို့ ဘေးက ထင်ကြမယ်။ အမယ်လေး… စကားပြော ရတာများ မမောဘူး မထင်နဲ့။ စဉ်းစားကြည့်၊ မနက်လင်းပါပြီ ဆိုကတည်းက ပြောလိုက်ရတဲ့ စကားတွေ အမြှုပ်တစီစီတောင် ထွက်လောက်တယ်။ ဟဲ့… အဲဒီတော့ ညည်းဗိုက်ဆာမရဘူးလား။ အမြှုပ်ထွက်လေ ဗိုက်ဆာရလေ မဟုတ်လားဟဲ့လို့ ပြောကြမယ်။ ရမှန်းသိသားပဲ။ ဗိုက်ဆာရမှန်း သိသားပဲ။ ဒါပေမယ့် သိတယ်မဟုတ် လား။ ဒေဝီကျိန်းတဲ့၊ ကိုယ်မလုပ်ချင်ဘူးဆို လုံးဝ လုံးဝ မလုပ်ဘူးမှတ်။ အို… အဟုတ်ပြောတာ။ မလုပ်ချင်တော့ဘူးဆို ဒေဝီကျိန်းတို့က နတ်ပူးနေရင်တောင် ဝုန်းဆိုထွက်ပြီး လှဲအိပ်ပစ်လိုက်တာ။ ကျိန်းတွန်းမ အကြောင်း သိတယ်မဟုတ်လား။

ဒါတောင် အသက်ကြီးလာလို့၊ စုနက ဟာမတွေလိုမျိုး ကိုယ် မောနေပါတယ်ဆိုမှ ဟောပါဦး၊ ပြောပါဦးနဲ့ တညီညီ လုပ်နေတာမျိုး ငယ်ငယ်တုန်းက စိတ်ဆိုရင် ဟဲ့… မပေဘာဘူး၊ ရော့၊ နင်တို့ဗိုက်ဆာ

တွေ ပြန်ယူကြဟဲ့လို့ အော်လိုက်ပြီးပြီ။ ဒါ တောင်ပြန်းမွဲလာတာ ပျော်ချင်လို့လာတာဟဲ့။ ဟိုဟာဖြစ်ချင်လို့ လာတာဟဲ့နဲ့ ကုန်းအော်ပစ် လိုက်တာပဲ။ အေးရော၊ ဒေစီဂျိန်းတို့က ရှင်းရှင်းပဲ၊ ဘွင်းဘွင်းပဲ။ ရွာတယ်ပြော၊ ပြောရုံမကလို့ အာတယ်ပြောပြော၊ ပြောချင်ရာပြော။ စုနကလို နုတ်မပေါချင်တာနဲ့ ထမင်းအတောင်းစားနိုင်းရှင်း အချိုသတ် နှင်တာမျိုးတွေ ဘာတွေများ ဟိုတုန်းက လုပ်ပါလိမ့်မယ် ပေးခေသး။ အင်း… ခုတော့ အသက်လေးလည်း ရလာပြီလေ။ တရားလေး ဘာလေးလည်း ထိုင်မှုးပြီ၊ ဝိပဿနာအကြောင်းလည်း သိပြီ။

ကြော်ချင်လော်ချင်တဲ့ စိတ်တွေလည်း သိပ်မရှိတော့ဘူး။ ကိုယ် တော်တို့ ပေးသမျှနဲ့ပဲ စားမယ်၊ ကိုယ်ကသာ စိတ်ထားမှန်ရင် ဘယ် သူ့ကိုမှ ကြော်နေစရာ လော်နေစရာ မလိုပါဘူး။ အလိုလို ဝပါတယ်။ အလိုလို ရပါတယ်၊ ကြော်တယ်၊ လော်တယ်ဆိုတာ လိမ်တာပဲ။ ခြော်… သိတာပေါ့။ နတ်ကတော်ဆိုတာ ဇရဲအိုးပတ်ပြေးနေရတဲ့ ဘဝ။ မဟုတ်တာရော၊ ဟုတ်တာရော ပြောဆိုစားသောက်နေရတာ မဟုတ်ဘူးလား၊ မှဘဝါဒရော၊ ပါဏာတိ ပါတာရော ကိုယ်တိုင် မသတ်ပေမယ့် ဟဲ့… ငါးအရှင်က ဘယ်နတောင်ဟဲ့၊ ကြက်ဖို ကြက်မက ဘယ်နစ်ရုံဟဲ့နဲ့၊ အဲဒါ ပါဏာတိပါတာပေါ့။ မှန်လှပါ၊ ကျေးတော်မျိုး ကျွန်တော်မျိုး ဘိုးဘိုးတို့ တိုင်တည်ပြီး ပြောခဲ့ပါတယ်။ ဘိုးဘိုးတို့ အရှင်နှစ်ပါးရဲ့ ဘုန်းရိပ်ကံရိပ်ကို အကာအကွယ်ယူပြီး ကျေးတော်မျိုး ကျွန်တော်မျိုးတို့ လုပ်ကိုင်စားသောက်နေတယ်ဆိုတာ ဘိုးဘိုးတို့လည်း အသိပါ ဘုရား။

ဒါကိုပဲ ကျေးတော်မျိုး ကျွန်တော်မျိုးကို နတ်ဝန်ကြီး နတ်ဝါကြီး ဖြစ်ပြီး ကိုယ့်ပေါင် ကိုယ်လှန်ထောင်းတဲ့ နတ်ကတော်မဆိုပြီး အချင်း ချင်းက မုံကြရှုံကြတယ်၊ မုန်းကြတယ်၊ အမယ်လေး ဒေစီဂျိန်းတို့က

မှန်ရာပြောတာ။ ပြောတယ်ဟဲ့ ပြောတယ်။ နတ်ဇနကြီး နတ်ဝါကြီးဆိုတာ ဗိုဖြိုးတော့တောင် မဟုတ်သောစကား၊ မမှန်သောစကား မပြောရဘူးဟဲ့လို့။

နားမလည် ပါးမလည် ပြောကြတာက ရှိသေးတယ်။ အရှင်နှစ်ပါးကို ကိုယ်တော်ကြီး၊ ကိုယ်တော်လေး အများခေါ်သလို မခေါ်ဘဲ ဘိုးဘိုးကြီး၊ ဘိုးဘိုးလေး၊ ဘိုးဘိုးကြီး၊ ဘိုးဘိုးလေးနဲ့ ဂျိန်းဗလွန်းမ ထွင်တယ်ပေါ့။ ကဲတယ်ပေါ့။

မပြောလိုက်ချင်ဘူး၊ ဟဲ့... ပုဂံခေတ်၊ ပုဂံပြည် အစနော်ရထာမင်း လက်ထက်မှာ (မှန်လှပါ ရွှေနန်းတော်မှပါ) နတ်ဖြစ်တာ ပုဂံခေတ်၊ အင်းဝခေတ်၊ ပင်းယခေတ်၊ တောင်ငူခေတ်၊ ရတနာပုံခေတ်တွေ၊ ခေတ်တွေ ကဲ... ဒီနေ့ခေတ်ထိဆို သက်တော် ဘယ်လောက်ကြီးနေပြီလဲ၊ ဘိုးဘိုးကြီး၊ ဘိုးဘိုးလေး အရွယ်ရောက်ပြီပေါ့။ အသက်ကြီးလို့တောင် ဥပုသ်စောင့်သွားပါပကော။ စု အရှင်နှစ်ပါး ဟိုတုန်းကလို ထန်းရည်အရက်မှ မသောက်တော့တာ၊ ဘီလပ်ရည်ပဲ ဆက်ရတော့တာ။

မှတ်ပြီလား။ သိပြီလား။ ဂျိန်းဗလွန်းမ ကဲတာ မဟုတ်ဘူး။ ထွင်တာ မဟုတ်ဘူး။ မိန်းမလျာမချင်းတူတူ တစ်မျိုးပိုရှုတာ မဟုတ်ဘူး။ သမိုင်းအချက်အလက်၊ ရာဇဝင်အချက်အလက် လေ့လာထားတာ။ ကြော်ငြာ လျှော်စားတာတောင် ဒေဇီဂျိန်းတို့က သမိုင်းနဲ့ရာဇဝင်နဲ့ ကြော်ငြာ လျှော်စားတာ ဟေ့လို့...။

အမယ်လေး... ဖြိုးတော့ လာဦးသေးတယ်။ နတ်ကတော်ကြီးတဲ့၊ တောင်းဆောင်းတဲ့တော်၊ နတ်ပုံဆိုလို့ တစ်ပုံမှမရှိဘူး။ ဒါ နတ်ရှိသေးတာလား။ ဒါ နတ်ကတော်ကြီးလား၊ ဒါ တောင်းဆောင်းလားနဲ့။ အို... စုံလို့ စုံလို့။ ပြောလိုက်တယ်၊ "ဟော့... ပုံတော်မလိုဘူး။

ဂုဏ်တော်ပဲ လို့တယ်ပေါ့” လို့။

ရှိပေါင်၊ ထားပေါင်။ ပုံတော်တစ်ပုံမှ မရှိပေါင်။ စိတ်သာ ရှင်စေတဲ့ဘုရားဟော၊ မင်းနှစ်ပါးရဲ့ဂုဏ်တော်၊ အရှင်နှစ်ပါးရဲ့ ဂုဏ်တော်၊ သုံးဆယ့်ခုနစ်မင်းနတ်ရဲ့ဂုဏ်တော်သာ အဓိက၊ ကိုယ့်ရင်ထဲမှာ စိတ်ထဲမှာ ဂုဏ်တော်ရှိဖို့ အရေးကြီးတယ်။

ပေဟာဒီမှာ ထားတယ်လေ။ မင်းမဟာဂီရိ အိမ်တွင်း တောင်ကြီး၊ ရှေးကတောင်း၊ မင်းတုန်းမင်း ကိုယ်တော်တိုင် ချီးမြှင့်ခဲ့တဲ့တောင်း၊ ရှားရှားပါးပါး ရထားတာ၊ ရှေးက ယွန်းနဲ့ သစ်စေးသရိုးတွေ ဘာတွေ ကိုင်ပြီး ရွှေချ ကျောက်ရတနာတွေ စီခြယ်ထားတာ၊ ကိုယ်နဲ့ထိုက်လို့ ရတာပေါ့၊ အိမ်တွင်းတောင်း၊ အိမ်တွင်းတောင်းနဲ့သာ တောင်းတွေ ပေး နေတာ၊ အဆောင်အယောင်က ကိုယ့်ဘာသာ ကိုယ်လုပ်ပြီး ဆောင်း ကြရတာ၊ ခုခေတ် ရွှေချည်ထိုး ငွေချည်ထိုးတွေမှာအပ်ပြီး ဆောင်းကြ ရတာ၊

ဒီတောင်းအစစ်ကြီးက ဘယ်မှာ ရောက်နေတုံးဆိုတော့ လူမိုက် လမ်းမတော်ဖိုးတုတ် မိန်းမဆီမှာ ရောက်နေတာ၊ သူကလည်း နတ်ဆက်ကိုး၊ ဒါနဲ့ ကိုယ်နဲ့ထိုက်တော့ ကိုယ်တောင်းပြီး မကြာခင် အဲဒီတောင်းကြီးကို ကိုယ့်လာရောင်းတယ်လေ၊ ကိုယ်ကတော့ သိပ် နားမလည်ပါဘူး၊ ဟဲ့... ဘာကိစ္စ ဝယ်ရမှာလဲ၊ ဒီမှာလည်း ရွှေချည် ထိုး ငွေချည်ထိုးတွေနဲ့ ဒွေကိုတောင်းက လုပ်ပြီးနေပြီ၊ မိုက်ဆံကုန် အောင် မဝယ်ပါဘူးပေါ့၊ အဲဒါကို နားလည်တဲ့မိတ်ဆွေတွေက ဝယ် လိုက်တဲ့၊ ရှေးဟောင်းပစ္စည်းတဲ့၊ နောင်နှစ်ကြာလာလေ တန်ဖိုးရှိလေ တဲ့၊ ဒါကို ဝယ်လိုက်တာ၊ ကိုယ့်ဆီရောက်မှ ရွှေတွေပြန်ချ၊ ကျောက် ပြုတ်နေတဲ့နေရာတွေ ကျောက်တွေပြန်ထည့်၊ (အစစ်တွေကို ပြန်ထည့် တာ) ပြီးတော့ သုံးချောင်းထောက် ရွှေကလပ်တွေ ဘာတွေလုပ်ပြီး

တင်ထားလိုက်တယ်။ ကန်တော့ခံဖောင်းအဖြစ် ထားလိုက်တယ်။

ဟို… ဒရွက်ဖောင်းကတော့ ကာ.တောင်းပေါ့။ ကတဲ့အချိန်မှာ ဆောင်းပြီး ကာ.လိုက်တယ်။

ဒါပဲ အဲဒီတောင်းပဲ။ ကိုယ့်နတ်စင်ပေါ်မှာ ရှိတယ်။ ပြီးပြီ၊ ဘာ ပုံတော်မှ မရှိဘူး။ ပုံတော်မရှိသကိုးရယ်လို့လည်း ခေစီကျိန်းမှာ နတ် တပည့် နတ်သားသမီး နည်းမသွားပေါင်။ တစ်နှစ်ထက် တစ်နှစ် မိုမိုပြီးတော့တောင် တိုးလာသေး။ ခြော်… ကိုယ်က ဂုဏ်တော်ရှိ တာကိုး။

ဒေအးရော၊ အဲဒီတော့ ခေစီကျိန်းတို့ ဘယ်သွားသွား၊ ဘယ်လာလာ၊ မှတ်ဘာဒို သွားမလား။ အင်္ဂလန် သွားမလား။ တောင်ပြန်လာမလား။ ရတနာဂူ လာမလား။ ဟော… လွတ်လွတ်လပ်လပ် တောင်းတွေ၊ ပလုံးတွေနဲ့ ပုံတော်တွေ ထိုးထိုးထောင်ထောင် ကိုးရိုးကားရားနဲ့ သွား စရာမလိုတော့ဘူး။ တောင်းအတွက် နိုင်ငံခြားသေတ္တာတစ်လုံး ဝယ် ထားလိုက်တယ်။

ဒါ သေယ်ရှံနဲ့ပဲ ပြီးပြီ။ ကနားပွဲတွေ တစ်ပြည်လုံး လှည့်က တော့လည်း ကနားမှာ ပုံတော်မပါပေါင်။ နတ်စင်ပေါ်မှာ ကန်တော့ပွဲ တွေပဲ တန်းစီပြီး သူ့ဓနရာနဲ့သူ ထိုးလိုက်တာပဲ။

အဲ… ကိုယ့်မယ် သွားရင်း လာရင်း သယ်ရတာများတာက အဝတ်အစားသေတ္တာလေ။ အမယ်လေး… အလှအပကတော့ ဒီက ကြိုက်တယ်။ လှချင်တယ်။ အဖိုးတန်ပေ့၊ တောင်းပေ့ ဆိုတာမှ ဒီက ဝတ်တာ။ ထိုင်မသိမ်းဝတ်စုံတွေများ အပုံအားတွေ။ နိုင်ငံကျော် ဆိုတဲ့ အငြိမ့်မင်းသမီးတွေမှာတောင် မရှိပါဘူး။ ခေစီကျိန်းတို့က ထဘီမှာ ပတ္တမြားတောင် စီတာ၊ သိပြီလား။ မိုးကုတ်ပတ္တမြား အဖြိုးလေးတွေက ဟိုတုန်းက ဘာမှမပေးရဘူး။ ထဘီကို ပတ္တမြားစီ

တယ်။ ပုလဲစီတယ်။ နီလာစီတယ်။

ဪ... တောင်ပြုန်းပွဲလာတာကိုက ဝတ်ချင် စားချင်လို့ လာတာပါဆိုမှ ကိုယ်က ခြောက်သာခြောက်ပေမယ့် ကိုယ့်နယ်မှာဆိုတော့ မိန်းမလို ဖြီးလိမ်းဝတ်စားနေလို့ ဖြစ်မလား။ မိန်းမလျာပေမယ့် ယောက်ကျားပုံ (ယောက်ျားပုံ) နဲ့ နေရတာကို။ ဟဲ့... တောင်ပြုန်းပွဲကျ မိန်းမလျာတွေ ဖြီးလိမ်းဝတ်စားပြီး ကြိုက်သလို နေကြတာတဲ့။ ပျော်စရာ သိပ်ကောင်းတာတဲ့ ဆိုပြီး သတင်းကြားတော့ သွားချင်တာပေါ့။ မိန်းမပုံလို ဝတ်စားပြီး လွတ်လွတ်လပ်လပ် ပျော်ချင်တာကို။ ဘာနတ်မှလည်း မသိဘူး။ နတ်ကတော်လည်း မဖြစ်သေးဘူး။ မိန်းမသွေးတွေဝင်ပြီး အမျိုးသွေးတွေကြွပြီး ဝတ်ချင်စားချင်၊ ဆိုချင်ကချင်၊ ပျော်ချင်ပါးချင်နေတော့တာပဲ။ လင်ကလည်း လိုချင်သလား မမေးနဲ့။ ဟိုကောင်လေးမြင်လည်း ကြိုက်၊ ဒီကောင်လေးမြင်လည်း ကြိုက်၊ တွေ့သမျှ အကုန်ကြိုက်ရည်းနေတာပဲ။

အမယ်လေး... ပြောလို့ပြောတာ မဟုတ်ဘူး။ ကိုယ့်ကိုလည်း မြင်ရင် မကြိုက်တဲ့သူ မရှိပါဘူးနော်။ ယယ်ယယ်ကများ စန်းထသလား မမေးနဲ့။ မြင်တာနဲ့ မိတ်ဆက်တဲ့သူနဲ့၊ စကားလိုက်ပြောတဲ့သူနဲ့။

တောင်ပြုန်းကို ပထမဆုံးလိုက်လာတဲ့အခေါက် မှတ်မိသေးတယ်။ ရန်ကုန်ဘူတာကြီးထဲမှာ နတ်ကတော်မိန်းမလျာမ အသိတွေနဲ့ လိုက်လာတာပေါ့။ နတ်ကတော်တွေက သူတို့ ပုံတော်တောင်းတွေ ဘာတွေနဲ့ ရှုပ်ယှက်ခတ်နေတုန်း။ ကိုယ်က အဝတ်အစားအိတ် လက်က ဆွဲပြီး ဘူတာထဲမှာ လမ်းသလားနေတာ။ ယောက်ျားပုံတော့ ယောက်ျားပုံနဲ့ပေါ့။ ကတ္တီပါ လောင်းကွပ်အစိမ်းအရှည်ကြီးနဲ့၊ အဲဒီတုန်းက ဆံပင်ကအရှည်၊ သျှောင်ထုံးနဲ့၊ မိတ်ကပ်က လိမ်းထားသေးတယ်။

နှစ်ခေါက်လည်း ဘူတာထဲ လမ်းသလားပြီးရော လူတစ်ယောက်

ကပ်လာတယ်။ "ဘယ်ဇာတ်မှာကတဲ့ မင်းသားလဲ" တဲ့။ အလို... ဒုက္ခပေါ့။ ဇာတ်ထောင်ဆရာလားလည်း မသိပါဘူး။ အဲဒီလူက တစ်ခါတည်းကပ်ပါပြီး မွန်ပြည်နယ်ကို လိုက်ခဲ့ပါတဲ့၊ ဇာတ်မင်းသား၊ ခေါင်းဆောင်မင်းသား တင်မယ်တဲ့၊ အမယ်လေး... ညနေကြေးတွေ ဘယ်ရွေ့ ဘယ်လောက် ပေးပါ့မယ်တွေ ပြောကုန်ပြီ။ အမယ်... ကိုယ်ကလည်း ခပ်တည်တည်နဲ့ မင်းသားဟန်နဲ့ ဂိုက်ပေးလို့ ကောင်းနေတုန်း ပြန်းဆို ဟိုမိန်းမလျာမတွေ ရောက်လာပြီး "ဟဲ့... ကောင်မ လာဟဲ့၊ ဘာလုပ်နေတာလဲ၊ ရထားထွက်တော့မယ်ဟဲ့" နဲ့ အော်ကြ ဖေကိုင်တုပ်ကြနဲ့ လုပ်ရလိုက်တော့ ဟိုလူမှာ ပါးစပ်အဟောင်းသား။ ကိုယ့်မှာလည်း ပေါ်ပဟဲ့ဆိုပြီး ပြေးလိုက်ရတာလေ။

အဲဒီတုန်းက ရထားပေါ်မှာလည်း ပျော်လိုက်တာ။ အော်လိုက်၊ ဟစ်လိုက်၊ ကလိုက်၊ စားလိုက် သောက်လိုက်။ ဘူတာစဉ် တွေ့တာ အကုန်ဝယ်စား၊ ဈေးကလည်း ပေါလိုက်တာ၊ ရန်ကုန် - မန္တလေး ရထားခကမှ စုနစ်ကျပ် တစ်မတ်ရယ်။

မန္တလေးက တောင်ပြန်းကျူးကြတော့လည်း ဟိုတုန်းက ရွှေ တစ်ချောင်းထဲကနေ လှေနဲ့လည်း သွားလို့ရတာကို။

ရွှေတစ်ချောင်းထဲမှာ လှေနဲ့သွားရတာ သိပ်ပျော်စရာကောင်းတာ။ လှေချင်း လှေချင်း လုမ်းပြီး နောက်ကြ၊ ပြောင်ကြ၊ နှုတ်ဆက်ကြ၊ ယောကျ်ားကြီးရေ၊ မိန်းမရေ၊ ယောက်ဖရေနဲ့၊ တချို့လည်း စတာ ကြမ်းတယ်။ အမူးသမားတွေလည်း ပါတာကိုး၊ အို...ကိုယ်ကတော့ ကြမ်းလေ ကြိုက်လေ၊ သူငယ်တွေက မိန်းမရေဆို မောင်ရေဆိုပြီး သအောာတွေကို ရွှေ့လို့၊ "ဟဲ့...မ" ဆိုလိုက်တော့ မအေ၊ နမ မိုးမွှန်သွားပြီသာ မှတ်တော့။

တောင်ပြန်း ရောက်ပြန်တော့လည်း ပျော်တာ၊ ပျော်တာ ထိန်းမရ

ဘူး။ အလယ်အောက် အနီရဲဆင်တွေနဲ့ စကပ်ပေါ်ကလည်း အနီရဲကြီး ခေါင်းစည်းပြီး လက်ဖက်ရည်ဆိုင်မှာ ထိုင်၊ သူငယ်တွေက တရုန်းရုန်း။ ဟိုလူကဆွဲ၊ ဒီလူကဆွဲ၊ ဟိုမှာက မိန်းမလျာတွေ များတာကိုး၊ တစ်ခါတည်း မိန်းမတွေလို ဝတ်စားပြီး သွားလာနေကြတာ။ လွတ်လပ်ခရေးတွေကို ရလို့။ အို... ဘာရမလဲ၊ လင်းတာနဲ့ ဝတ်စားပြီးလိမ်းပြီး ထွက်၊ နန်းကြီးပေါ်ဘက်၊ "သံတံခါးရိုးရာ" သွားစုန်တာပဲ၊

နန်းကြီးရဲ့ ပိတ်ထားတဲ့ သံတံခါးရှေ့မှာ သွားကကြတာကို သံတံခါးရိုးရာ ကတယ်လို့ ခေါ်ကြတာ။ ညီလာခံပြီးတာနဲ့ သံတံခါး ဆွဲပိတ်ပြီး အရပ်က သံတံခါးရှေ့မှာ သံတံခါး ရိုးရာကကြရတဲ့ အစဉ်အလာက ရှေးကတည်းက ရှိခဲ့တာ။ နန်းကြီးဆိုင်းက တီးပေးတယ်၊ ပိုက်ဆံပေးရတာပေါ့။ ဟိုတုန်းကတော့ တစ်မတ်ဖိုး တီးပါဦး၊ ငါးမူးဖိုး တီးပါဦးပေါ့။ ရွှေဒင်္ဂါးတစ်ပြား ဆယ့်နှစ်ကျပ်ခေတ်မှာ နှစ်ကျပ်ဖိုးလောက် တီးနိုင်တဲ့လူဟာ အများဆုံး ငွေနှစ်ကျပ်က ပုဇွန်မှာ တစ်အုပ်၊ ဆီတစ်ပုံး ရတာကိုး။ စုတော့ အနည်းဆုံးဟာ ငလေးဆယ့်ငါးကျပ်ဖိုး၊ ကိုးဆယ်ဖိုးပေါ့။

သံတံခါးရှေ့မှာ စုန်နေကြတဲ့ လူအုပ်ကြီးက နည်းတာမဟုတ်ဘူး။ သံတံခါးရိုးရာကို သူငယ်တွေနဲ့ ရောနှောစုန်၊ ကိုယ့်ကို မဟုတ်တာပြောရင် ရန်ဖြစ်၊ ဆဲဆိုပြီး လက်ကလည်း ဝိုး၊ ဗွပ်ဆို ပါပြီးသား။ လုပ်ချလိုက်တာပဲ၊ ပြီးရင် ညကျ အကျီအဝတ်အစား တစ်ခါလဲ၊ တစ်ခါထွက်၊ သွားစုန်၊ ဟိုလိုက်သွား၊ ဒီလိုက်သွား။ ပျော်နေတာပဲ တစ်ညလုံး။

နောက်နှစ်ကျတော့ မိန်းမလျာတွေ တောင်ပြုန်းပွဲမှာ ဖမ်းပါလေရော။ မိန်းမလျာတွေတာနဲ့ ဖမ်း။ ရဲတွေ ခြေချင်းလိမ်လို့ပေါ့။ မိန်းမလျာ ဖြစ်ပေမယ့် ယောကျ်ားပုံဆိုရင်တော့ မဖမ်းဘူး။ ယောကျ်ားလို

ကျားကျားလျားလျား ပုံဆောင်ထားရင်တော့ မဖမ်းဘူး။ ယောကျ်ား လိုဝတ်ပြီး နွဲ့နေရင်ကတော့ လာခဲ့၊ သွား... အချုပ်ထဲ။

မိန်းမလျာတွေ ဖမ်းကုန်ပြီ၊ ဖမ်းကုန်ပြီဆိုတော့ ကိုယ်နေတဲ့ ကနားက နတ်ကတော်မကြီးတွေက ဟဲ့... အပြင်မထွက်နဲ့၊ ကိုယ့် ကနားမှာ ကိုယ်နေ၊ ဖမ်းခံရလိမ့်မယ်။ နင်ကလည်း ဆတ်ဆလူး ထနေတာနဲ့တော့ ဖမ်းခံရလိမ့်မယ်ဆိုတော့ မထွက်ရဘူး၊ စိတ်က ညစ်ပြီ။ ထွက်တာ ထွက်ချင်၊ လျှမ်းတာ လျှမ်းချင်နဲ့၊ ဘယ်နှယ့်လုပ်ရ ပါ့မတုံးပေါ့။ မနေနိုင်ဘူး။ ယောကျ်ားပုံနဲ့လည်း မထွက်ချင်ဘူး။ အဲသည်တော့ ဟဲ့ ထွက်တယ်ဟဲ့၊ လာခဲ့ဆိုပြီး အောက်က ပုဆိုး တစ်ထည်ခံဝတ်ပြီး အပေါ်က မိန်းမပုံပဲ ဝတ်တား၊ အဲ... ပိတ်ကာပ် တော့ ပါးပါးပဲ လိမ်းပြီး ထွက်တာပေါ့။

ထွက်တော့ ရဲက နန်းကြီးနားကနေ စောင့်နေတယ်၊ မြင်တော့ လှမ်းပြောတယ်။ နန်းကြီးပေါ်သာ မလာနဲ့၊ နန်းတစ်ဝိုက်မှာတော့ နေချင်နေတဲ့၊ သဘောကောင်းရှာပါတယ်။ ဒါပေမယ့် ကိုယ်က နန်းကြီးပေါ်တက်ချင်တာ။ နန်းကြီးပေါ်မှာမှ ကချင်တာ၊ ဘာရမလဲ တစ်ခါတည်း ရဲအလစ်မှာ နန်းကြီးပေါ် တက်သွားပြီး ကတာပေါ့၊ ကနေတော့ ရဲကမြင်ရော။ မြင်တာနဲ့ ဒေါသတကြီး ကိုယ့်ဆီလာ တာ၊ ဖမ်းမလို့၊ ဒီလိုဘယ်ရမလဲ၊ ဖြတ်ဆို တစ်ခါတည်း ထဘီချွတ် ချပြီး ကပျာကယာခေါက်၊ ရှိုင်းကြားညှပ်၊ အောက်က ခံလာတဲ့ ပုဆိုးကို ပြင်ဝတ်ခဲ့ပြီး ဘေးက သူငယ်တစ်ယောက်ကို "ဟဲ့... နင့်တိုက်ပုံ မြန်မြန်ချွတ်စမ်း၊ ငါ့ခဏပေး၊ ပြီးတော့ လိုက်ယူ" ဆိုပြီး တိုက်ပုံထပ်ဝတ်ပြီး ယောကျ်ားပုံ လုပ်လိုက်တာပေါ့။ ပြီးတော့ ရေကြာနေ ခပ်တည်တည် ဖြတ်ပြီးတော့ ထွက်လာခဲ့တာ။ ရဲတွေနဲ့ ကိုယ်နဲ့ လိုက်တမ်းပြေးတမ်း ကစားရတာကို ပျော်လို့၊

နောက်တော့ မိန်းမလျာတွေက မနေနိုင်ကြတော့ ထွက်ကြတော့ တော်တော်များများ ဖမ်းမိပြီး အချုပ်ထဲ ရောက်ကုန်ကြရော၊ အဲဒီတော့ အဖော်မရှိတော့ ပျင်းရော။ ပြီးတော့ ကိုယ်က အဖမ်းမခံရသေးတော့ မိန်းမလျာ မဟုတ်သလို ဂုဏ်ငယ်သလိုပဲ၊

အဲဒါနဲ့ ကိုယ်လည်း အဖမ်းခံရအောင် လီမွှော်ရောင် အထက် အောက် ဆင်တူဝတ်၊ စကော်ပဝါ လီမွှော်ရောင်ကြီး ခေါင်းမှာစည်းပြီး မိန်းမလျာမှန်းသိအောင် ပိုက်ဆံအိတ် လက်ကိုင်ကြိုးကို လက်ညှိုးထိပ်မှာ ရမ်းပြီး လှည့်ပြီးတော့ကို ထွက်တာ၊ ပါးစပ်ကလည်း အော်လိုက် သေးတယ်၊ ဟဲ့... ဒါမျိုးမကြောက်လို့ ရွာရိုးလျှောက်တာပေါ့။ မိန်းမလျာဟဲ့၊ ဖမ်းဟဲ့နဲ့ ရဲက ဖမ်းတာပေါ့၊ ဖမ်းတော့ အချုပ်ထဲ ရောက်တော့ ကိုယ့်သူငယ်ချင်းတွေနဲ့ တွေ့တာပေါ့။ ဟိုထဲမှာ တပျော် တပါး တစ်ရုံတစ်ရုံးကြီး၊

အဲလိုနဲ့နေတုန်း နောက်ရက်ကျတော့ မိန်းမလျာတွေကို အသမင်နဲ့ ထုတ်မယ်ဆိုပြီး မိန်းမလျာ မယ်မြင့်ကြီးဆိုတာက တိုက်ပုံတွေ၊ ပုဆိုးတွေ ဘာတွေဝတ်ပြီး ယောကျ်ားပုံနဲ့ အချုပ်ကို လာရော၊ အမယ်... သင်းကများ ယောကျ်ားပုံ ဖမ်းလို့၊ မှမဟုတ်ဆိုပြီး "အဲ... အဲဒီမှာ ရုလာတဲ့ဟာကြီးကလည်း မိန်းမလျာကြီးပါတော်၊ မယ်မြင့်ကြီး ဆိုတဲ့ မိန်းမလျာကြီးပဲ ဖမ်းပါ" နဲ့ အော်ချပစ်လိုက်တယ်၊ ရဲက သူ့လည်း ဖမ်းထားလိုက်ရော၊

အို... သူတင် ဘယ်ကမလဲ၊ အကုန်မွှေပစ်တာ။ ကိုယ်သိသမျှ တွေလေ အကုန်လျှောက်ပြောတာ။ ဘယ်မိန်းမလျာ ဘယ်သူ၊ ဘယ် ဘုန်းကြီးကျောင်းထဲမှာ ပုန်းနေပါတယ်။ ဘယ်သူကတော့ ဘယ်အိမ် မှာပါနဲ့ လျှောက်မွှေလိုက်တာ ရှိသမျှ မိန်းမလျာအကုန် အချုပ်ထဲ ရောက်လာတော့တာပဲ။

အဲသည်ကျတော့မှ အချုပ်ထဲမှာ မိန်းမလျာတွေ မဆုံမပြီ ဖြစ်ပြီး တစ်ယောက်နဲ့တစ်ယောက် ရန်ဖြစ်ကြ၊ ဆဲကြ၊ ဆိုကြ၊ ငိုကြ၊ ယိုကြတွေ ဖြစ်ကုန်ရော၊ နောက်ဆုံးကျတော့ ရဲတွေလည်း မထိန်းနိုင်တော့ဘူး။ ကဲ... မယ်မင်းကြီးမတို့ မငိုကြပါနဲ့။ မဆူကြပါနဲ့၊ ကိုယ့်အရပ်ကိုယ် အားလုံးပြန်ကြ၊ ဒီပွဲတော်ထဲမှာတော့ မနေရဘူးဆိုပြီး လွှတ်ပေးလိုက်ရရော၊

လွှတ်လိုက်တော့ တော်တော်များများ ကိုယ့်အရပ်ကိုယ် ပြန်ကြတာပေါ့၊ အို... ကိုယ်ကတော့ ဝေးသား။ မပြန်ပေါင်။ မန္တလေးမှာ ဆက်ပြီး ခေါင်တင်နေတာပေါ့။ သူငယ်ချင်းနှစ်ယောက် မပြန်ကြဘူး။

တစ်ညကျတော့ မန်းသီတာဥယျာဉ်မှာ လူနှစ်ယောက်နဲ့ သွားထိုင်ကြတယ်။ ကိုယ်က တစ်နေရာ၊ သူက တစ်နေရာ၊ မင်္ဂလာတံတားနားမှာပေါ့။ မှတ်မှတ်ရရ အဲဒီညက သူငယ်ချင်းမနှစ်ယောက် ချိတ်ထဘီအဖြူလေးတွေနဲ့။ ဝေါက်ဖိနပ်နဲ့ ဒေလီယာပွင့်ကြီးတွေကလည်း တစ်ယောက်တစ်ပွင့် ပန်လို့၊

ဥယျာဉ်ထဲမှာ စကားလေးမှမပြောမလို့ ရှိသေးတော်။ ရဲက ရောက်လာပါလေရော၊ လာခဲ့ဆိုပြီး ဖမ်းလည်းဖမ်းရော ကိုယ်က ဘယ်ခံမလဲ ရဲကို လက်သီးတွေနဲ့ထိုး။ ဖြေထောက်တွေနဲ့ ကန်ပြီး ထွက်ပြေးတာပေါ့။

ကိုယ်ကတော့ သူငယ်ချင်းမဆီ ပြေးရတာပေါ့၊ ဟဲ့... ဒီလိုဒီလိုပဲ။ ငါတော့ ဒီလို ဖြစ်ခဲ့ပြီလို့ ပြောတုန်းရှိသေး ခုနရဲက နောက်ရောက်လာပါရော။ ဘာပြောကောင်းမတုံး၊ တစ်ခါတည်း ဖေါက်ဖိနပ်ကုန်းချွတ်ပြီး ရဲမျက်နှာကို စုံရှိုက်ပစ်လိုက်ပြီး ကျိုးထဲ ဝုန်းဆိုခုန်ချ၊ ရေကူးပြေးတာ။ ဟိုဘက်ကမ်းပေါ်ရောက်တော့ ချိတ်ထဘီ

လည်း မပါလာတော့ဘူး။ အတွင်းခံဘောင်းဘီလေးနဲ့ ကျန်နေတာပဲ။ ဒေလီယာပွင့်လည်း ပြုတ်ကျ။ ကိုယ်က လွတ်သွားပေမယ့် သူငယ်ချင်းမကျတော့ ဖမ်းမိသွားတာပေါ့။ အဲဒီသတင်းလည်း မိန်းမလျာလောက သိသွားရော။ ဟဲ့…ဒီကောင်မ အစွမ်းအစမသေးဘူး။ သတ္တိခဲမ၊ လူစွမ်းကောင်းမ၊ ကျိန်းစဘွန်းမပဲဟဲ့ ဆိုပြီး ကျိန်းစဘွန်းကလည်း ပေါ်ကာစဆိုတော့ နာမည်ပေးလိုက်ကြတာ "ဒေစီကျိန်း" လို့။

အဲဒီကာစ နဂိုနာမည် "ဘစီ" ပျောက်ပြီး ဒေစီကျိန်းပဲ တွင်တော့တာပဲ။ နတ်ဖြစ်တော့လည်း အဲ… နတ်ကတော် ဖြစ်တော့လည်း ဒီနာမည်ကိုပဲ သိကြတော့တာပဲ။

ဩော်… နတ်ကလည်း မဖြစ်ချင်လို့ ရမလား။ ဒါလောက်ကချင် ခုန်ချင် ဝတ်ချင် စားချင်နေတဲ့ မိန်းမလျာပဲ။ တောင်ပြုန်းရောက်ကတည်းက နတ်သွေးနတ်စိတ်တွေ ဝင်နေပြီပေါ့။ နတ်ကတော်တွေ ကနေတာ၊ နတ်ဝင်နေတာ၊ နတ်ပူးနေတာလည်း မမြင်ချင်မှ အဆုံး။ အတူနီးတတ်တာပေါ့။ ကျိန်းစဘွန်းမပဲ ဘာမဖြစ်စရာ ရှိသလဲ။

ဘိုးဘိုးကြီး၊ ဘိုးဘိုးလေးတို့က ချစ်ပြီး မြှောက်စားတာလည်း ပါတာပေါ့။ တကယ်၊ နတ်ကလည်း ကိုယ့်ကို ဘာချစ်သလဲ မမြောနဲ့။ ဘာမြှောက်သလဲ မမြောနဲ့။ နတ်ကတော် ဒေစီကျိန်းဆိုတာ တောင်ပြုန်းမှာ အရမ်းနာမည်ကြီးသွားတာ။ ကိုယ့်ဆွေတွေမျိုးတွေ မြှောက်စားတာလည်း ပါတယ်။ ကိုယ့်ဆွေ ကိုယ့်မျိုးတွေက အောက်နယ်တစ်ခွင်မှာ နာမည်ကြီး သူဌေးတွေ။ ဦးလေး။ အဒေါ်သူဌေးတွေက ဘစီ နတ်ဖြစ်ပြီဆိုတာနဲ့ သူတို့မှ နတ်၊ တခြားနတ်ကတော်တွေ မလာနဲ့။ မသိဘူး။ ဘစီမှ နတ်။ ဘာမြှောက်သလဲ မမေးနဲ့။ လုပ်ဟဲ့၊ ကနားပွဲတွေ။ ရော့… ဝယ်ဟဲ့ နတ်ဝတ်စုံတွေ။ အဖိုးတန်တွေဝယ်၊ လက်ဝတ်လက်စားတွေ အစစ်တွေဝယ်၊ အတုမဝတ်နဲ့၊ ဂုဏ်ငယ်မယ်၊

ဒီလို။

တောင်ပြုန်းကိုလည်း တစ်တွေလုံး တစ်မျိုးလုံး နှစ်တိုင်းလာကြ၊ သူတို့မွေးတဲ့ ကလေးတွေ ကင်ပွန်းတပ်ပွဲတို့၊ မွေးနေ့ပွဲတို့ကို တောင်ပြုန်းကျမှ လုပ်ကြတာ။ တောင်ပြုန်းမှာ ဘတ်ဒေးပွဲတွေ ဘာတွေကို လုပ်တာ။ ရေခဲမုန့်တွေကျွေး၊ ဆပ်တွန့်လိပ်တွေနဲ့၊ အဲဒီတုန်းက အဲလိုဟာတွေ ဘယ်သူမှတောင် မမြင်ဖူးသေးဘူး။ ဝိုင်းကြည့်ကြတာ၊ အဲဒီလို....။

ဆန်ဆို အိတ်လိုက်၊ ဆီပုံးလိုက်၊ တောင်ပြုန်းစုနစ်ရက်မှာ လာသမျှ ကိုယ့်ဧည့်သည် အကုန်ကျွေး။ ပြီးတော့ ကနားတဲလေးတွေနဲ့ နေရတာ မျက်နှာငယ်တယ်၊ ကျဉ်းတယ်။ အိမ်သာမရှိ၊ ဘာမရှိ၊ အိပ်လို့ နေလို့မကောင်းဘူး။ ဝယ်လိုက် တောင်ပြုန်းမှာ မြေနဲ့အိမ်၊ သူတို့က လိုက်ဝယ်ပေးတယ်။ ရှိမှပြန်ပေး။ စု ဒီအိမ်နဲ့မြေဝယ်တုန်းက ဘာပေးရလို့တုံး၊ ငါးထောင်ရယ်။ ရေလောင်းအိမ်သာတွေ၊ မီးဖိုတွေ၊ ရေချိုးခန်းတွေ ဆောက်တာနဲ့မှ ရှစ်သောင်းလောက်ကျတာ၊ စု တန်နေပြီ။ ဂုဏ်ကလည်း ရှိသလား မမေးနဲ့၊ တောင်ပြုန်းမှာ ဒေစီကျိန်းနန်းက နှစ်ထပ်အိမ်ကြီးပေါ်မှာပေါ့၊ မြို့ကြီးထဲမှာ၊ အဲဒီလို။

တက်ပွဲ၊ တက်ပွဲဆိုလည်း ဒေစီကျိန်းတို့တက်ပွဲက သူများတွေနဲ့ တူကို မတူရဘူးမှတ်၊ တက်ပွဲဆိုတာ တောင်ပြုန်းမင်းနှစ်ပါးကို ရှိမ်ပွဲ၊ ချဉ်ပွဲ၊ ကန်တော့ပွဲနဲ့ တက်ပြီး သိဒ္ဓိတင်တဲ့ပွဲ။ နန်းတက်တဲ့ပွဲ၊ နတ်ကတော်တစ်ယောက်ရဲ့ ဘဝမှာ အရေးကြီးဆုံးပွဲ။ နတ်ကတော်ဖြစ်ပြီး တက်ပွဲမရသေးရင် မျက်နှာငယ်တယ်၊ ဂုဏ်ငယ်တယ်။

တက်ပွဲတက်ပြီးမှ မင်းနှစ်ပါးရဲ့ နန်းတော်ကြီးရှေ့တိုက် တရင်းဝင်ဖြစ်တာ။ ကိုယ့်ဆိုင်းဘုတ်မှာလည်း တောင်ပြုန်းမင်းနှစ်ပါး နန်းတော်ကြီးရှေ့တိုက်တရင်းဝင် ကနားစီး ဘယ်သူဆိုပြီး ရေးလို့ရတာ။

တက်ပွဲဆိုတာ ဟိုရှေးတုန်းက မရှိပါဘူး။ နတ်ကတော်တွေ တံခါးရှေ့မှာ သံတံခါးရှိရာ ဒီလိုပဲ ကနေတာပဲ။ အဲဒီမှာ နန်းထိန်းတွေက ပိုက်ဆံများများ ကိုင်ကနေတဲ့ နတ်ကတော်တွေကို "လာခဲ့၊ နင်တို့ အဲဒီလို ကမနေနဲ့၊ နန်းထဲမှာ တရားဝင်လာက" ဆိုပြီး ကစိုင်းရာက ကန်တော့ပွဲတို့၊ ကန်တော့ကြေးတို့၊ စားတော်စာတို့ပါ ပါလာ။ ကိုယ်တော်တို့ကို ကန်တော့တယ်။ ကိုယ်တော်တို့ရှေ့မှာ နန်းတက်တယ်ဆိုပြီး တက်ပွဲ၊ တက်ပွဲဖြစ်လာတာ။

ဟိုတုန်းက တက်ပွဲတက်တဲ့ နတ်ကတော်လည်း မများပါဘူး။ တက်ပွဲတစ်ပွဲလည်း ဘာမှမကုန်ပါဘူး။ တက်ပွဲကြေးတွေ ဘာတွေလည်း မပေးရပါဘူး။

ကန်တော့ပွဲရယ်၊ စားတော်စာရယ်၊ မင်းနှစ်ပါး ဥပုသ်ဆောင် မဝင်ခင်တုန်းက ထန်းရည်အိုးလေးပါရတယ် ဒါပဲ။ ဘာကုန်မှာတုံး ရာဂဏန်းပဲ။ နစ်ရာ၊ သုံးရာ အရေးကုန်မှပေါ့။ အဲဒီတုန်းက ခေတ်ကျိန်းတို့က ထောင်ဂဏန်းကုန်အောင် ချဲ့ပစ်တာ။ စားတော်စာကို သူများလို ဆီထမင်းလေး၊ ငါးကြော်လေး၊ မာလကာသီးလေး၊ နာနတ်သီးလေးနဲ့ တင် ဘယ်လုပ်မတုံး။ ပန်းသီးတွေဝယ်၊ ရန်ကုန်က အော်ဒါကိတ်မုန့် အကြီးကြီးတွေလုပ်၊ နိုင်ငံခြားက လာတဲ့ ဂျီဒင်းပတ်တို့ ဘာတို့တွေနဲ့ အဲလိုလုပ်ပစ်တာ။

တက်ပွဲမှာ ဝတ်တဲ့အဝတ်အစားဆို အဖိုးတန်မှုဆိုတဲ့ အစကို အော်ဒါမှာ အထူးချုပ်၊ လက်ဝတ်လက်စား စိန်တွေ၊ ရွှေတွေကိုလည်း ရွှေတွေမျိုးတွေက ညှတ်နေအောင် ဆင်ပြီး တက်ပွဲသွားတော့ ဘယ်လိုသွားတယ် မှတ်လဲ။ ဘော်ဒီဂတ်နှစ်ယောက် အေးက ရံနိုင်းပြီး သွားတာ။ ဘော်ဒီဂတ်နှစ်ယောက်နဲ့ ခေတ်ကျိန်းက ရှေ့က နောက်က ရွှေတွေမျိုးတွေက စီတန်းပြီး လိုက်ကြ၊ ဒီလိုလုပ်တာ။

တက်ပွဲဈေးတွေ တက်ပြီး ခေါင်းကကန်းထိ ရောက်ကုန်တော့လည်း ဒေစီကိုနှင်းတို့ကတော့ တက်ပွဲဒကာ မရှားပေါင်တော်၊ တစ်နှစ်သုံးလေးပွဲကတော့ အေးလို့။ ဆွေတော်မျိုးတွေက နှစ်တိုင်း တစ်ပွဲတက်ပေးတယ်။ ကျန်တာက ကိုယ့်နတ်သားသမီးဒကာပေါ့။ တချို့ဆို တက်ပွဲတက်ချင်လွန်းလို့ ဒကာရှာရတာ။

အမယ်လေး... ကြော်ရ၊ လော့်ရတာ ဖတ်ဖတ်ကို မောလို့၊ တက်ပွဲတက်ရင်၊ တက်ပွဲဒကာဖြစ်ရင် ဘယ်လိုစီးမွှားတက်မှာ၊ ဘယ်လိုအဆင်ပြေမှာ၊ ဘယ်လိုဖြစ်မှာ၊ ဘယ်ညာဖြစ်မှာတွေ ရုံလို့... ရုံလို့၊ ကြော်ရ လော့်ရတာ။ ပြောင်... မကြော်မလော့်လို့လည်း ဖြစ်မလား။ ခုခေတ် တက်ပွဲတစ်ပွဲ ကုန်ကျစရိတ် နတ်ကတော်တစ်ယောက်အနေနဲ့ ကိုယ့်အိတ်ထဲက ဘယ်စိုက်နိုင်မလဲ။ အနည်းဆုံးတစ်ပွဲတစ်သောင်းလောက် ကုန်တာ။ ကိုယ်ဝတ်မယ့် အဝတ်အစား၊ စားတော်စာဖိုး။ ကန်တော့ပွဲဖိုး၊ ပြီးတော့ တက်ပွဲကြေးဆိုတာလည်း ပေးရတယ်၊ အရင်လို မဟုတ်ဘူး။ မုဆိုးအုပ်သုံးအုပ်နဲ့ ပဝါကြောက်ပိုင်လည်း ပါရသေးတယ်။

တက်ပွဲကြေးက အဲ... ဒီနှစ်ဆို ထောင်နှစ်ရာဆိုလား။ မုဆိုးသုံးအုပ်ကိုက လေးငါးကြောက်ထောင် အနည်းဆုံးကျပြီ။ အမျိုးအစားညံ့ ညံ့သလို၊ ကောင်း ကောင်းသလို ကုန်ပြီ။ ဒီခေတ်မှာ စားတော်စာကလည်း ရဲ့ရဲ့သလို ကုန်လို့ရတယ်။ နိုင်ငံခြားမုန့်ပုံးခေတ် မဟုတ်လား။ တစ်ပုံးကို လေးငါးရာ၊ နိုင်ငံခြားဖျော်ရည် သံဘူးတွေကလည်းလှသလောက် ဈေးကြီးက ကြီးနဲ့၊ နတ်ကတော်မှာ တစ်နှစ်လုံးကနားအပွဲတွေကရင်း တက်ပွဲဒကာကို လင်ပျောက်သလို အရှုံးအမူးလိုက်ရှာရတာ။ ဒကာတွေပြီ ဆိုတော့မှ ဒီနှစ်အတွက်တော့ စိတ်အေးရပဟဲ့ဆိုပြီး၊ ရင်ထဲက အလုံးကြီးကျတာ၊ ခုချိန်ထိ မတက်နိုင်

သေးတဲ့ နတ်ကတော်တွေလည်း အပုံပေါ့။ ဒါပေမယ့် သူတို့ရင်ထဲမှာတော့ ရှိတာပေါ့။ နတ်ကတော်တို့ရဲ့ဘဝ ရည်မှန်းချက်ဟာ အဲဒါပဲ။ တက်ပွဲတက်ရဖို့ပဲ။

ဒေစီကျိန်းတို့တော့ လာမပြောနဲ့။ ရေကန်အသင့်၊ ကြာအသင့်ဘဝမို့လား မသိဘူး။ တက်ပွဲလည်း တက်ပွဲမို့ တောင်းလည်း တောင်းမို့ ပျာယာခတ်တော့ ဖြစ်ခဲ့ပါဘူး။ တောင်ပြန်လာတာ ပျော်ချင်လို့ ပါဆိုမှ၊ နတ်ကတော်လုပ်တာ တောင်ပြန်လာရအောင်လို့ပါ ဆိုမှ။ သူများနတ်ကတော်တွေ တောင်း၊ တောင်းဆို လိုချင်ကြလွန်းလို့ပေါ့... ဒေစီကျိန်းတို့က တောင်းပေးတာကို နှစ်နှစ်၊ သုံးနှစ် ပတ်ပြေးနေတာ။ ကိုယ်မှ လူကြီးမလုပ်ချင်ဘဲ လိုချင်ပေါင်ဘူး။ ကိုယ်က ဆိုလိုက်၊ ကလိုက် မဟုတ်တာ ဟုတ်တာတွေ ပြောလိုက်နဲ့ လွတ်လွတ်လပ်လပ် ပျော်ပျော်ပါးပါး နေချင်တာ။ ဒီတောင်းကို နန်းကြီးက အတင်းကို လိုက်ပေးယူရတာ။ ပြီးရော၊ ကျိန်းစွန်းမကိုတော့ လက်ဖျားခါသလား မမေးနဲ့။

အမှန်မှာဆို ဒီနေ့ ညီလာခံလည်း သွားရမှာ။ ကိုယ်က တောင်းကိုး၊ တော်ပြီ၊ မသွားပါဘူး။ ကိုယ်က ရောက်ရောက်ချင်း လဆန်းခုနစ်ရက်နေ့ ရောက်ရောက်ချင်း သွားကန်တော့ပြီးပြီ။ အားရပါးရကန်တော့ပြီးပြီ။ ညီလာခံထဲမှာက အကြာကြီး။ အဝတ်အစားကြီးတွေ တင်းတင်းကျပ်ကျပ်နဲ့ ထိုင်နေရတော့ ချွေးတွေသံတွေ လူတွေနဲ့ မွန်းကျပ်ပြီး ညီလာခံ မပြီးမချင်း နေရတာ။ အဒါမျိုး မနေတတ်ဘူး။ အော်ဟစ်ပစ်ချင်လာတာ။ ကြာတော့၊ အဲဒီတော့ ညီလာခံမတက်လို့ တောင်းပြန်ယူချင်လည်း ယူကြ၊ ကျုပ်ကတော့ မလာဘူးလို့။



"ဒေစီကျိန်း ရှိလား၊ အပေါ်မှာလား"

ဟော... ညွှိသည်ကာ လာပြန်ပြီ။ စုမှ မေးမေး မေးမေး ဖြစ်မလို့ရှိသေး၊ ဒေစီကျိန်းက လှဲနေရာက လူးလဲထပြီး မျက်လုံးတွေကို မှိတ်လိုက်တယ်။ ဝင်ပေါက်က မျက်မှန်ကောက်တပ်ပြီး ရေနွေးတစ်ခွက်နဲ့ ပလုတ်ကျင်းတယ်၊ ပုဆိုးကို သေဘီလို ဖိုသီဖတ်သီဝတ်ရင်း ဝရန်တာ ကနေ ရေနွေးတွေ သွားတွေးတယ်။

"ဒေစီကျိန်းရေ"

"ဟော... မစင်အေး၊ လာ...လာ၊ ဘယ်တုန်းက ရောက်လဲ၊ ဘယ်မလဲ ကျုပ်ရို့ ပုစွန်ချဥ်ထုပ်"

"ပါပါတယ်တော်၊ မပြောနဲ့တော့၊ မနေ့က ရောက်ဖို့ရာလေ၊ ရထားလက်မှတ်ကြောင့်၊ ဒီနေ့ ညီလာခံတောင် မမီဘူး။ မန္တလေးမှာ စောနားနေရသေးတာပေါ့၊ ည ကိုးနာရီ ရထားကြီးစီးလာရတာ ပင်ပန်းလိုက်တာ ဆိုတာ"

"အထက်တန်း မရဘူးလား"

"ရပါတယ်၊ ဒါပေမယ့် အိပ်ခန်းမရဘူးလေ"

ရွှေဘုံသာလမ်း စိန်ရွှေသူဌေးမက ညည်းညူရင်းနဲ့ ဒေစီကျိန်းရဲ့ နတ်စင်ကို ရိုရိုသေသေ ဦးသုံးကြိမ်ချတယ်၊ ပြီးတော့ ရွှေရောင် အနားကွပ်နဲ့ အညိုရောင် သားရေအိတ်ကြီးထဲက ငါးကျပ်တန် ပါကင် အုပ်တစ်အုပ်ကို ထုတ်ယူလိုက်တယ်။ ရေမွှေးနဲ့ မွှေးပျံ့နေတဲ့ ငါးကျပ် တန်အုပ်သစ်ကို ဒေစီကျိန်းဆီ လှမ်းဆက်လိုက်တယ်၊ ဒေစီကျိန်းက ငါးကျပ်တန်အုပ်ကို လက်အုပ်ချီပြီး မြှောက်ရင်း မျက်လုံးအစုံကို မှိတ်တယ်။

"မှန်လှပါဘုရား၊ တနင်္ဂနွေသမီး ရတနာသုံးပါး အမြတ်ဆုံး ထားလို့ ဘုန်းတော်အနန္တ၊ ကံတော်အနန္တ၊ ဉာဏ်တော်အနန္တနဲ့ ပြည့်စုံတော်မူသော မြတ်စွာဘုရား၊ မြတ်စွာဘုရားသခင် ကိုယ်တော်

မြတ်ကြီး မှန်လှပါဘုရား။ သားသနာ ငါးထောင့်ငါးရာ သိကြား သာသနာ စောင့်ကြပ်တော်မူသော၊ သာသနာစောင့်နတ်၊ မဟာပထဝီ မြေကြီး စောင့်ထိန်းတော်မူသော မဟာဝသုန္ဓရေ ရေနတ်မင်း အမှူး ထား၍ သူရဿတီ၊ စန္ဒီပရမီ၊ ဧကဒီ မုနစ်ပါး၊ ဒေဝီကိုးပါး၊ ဒေဝီ ဆယ်ပါး၊ ဒေဝီနှစ်ဆယ့်တစ်ပါး၊ ဝိဇ္ဇာချစ်သောင်း၊ ဆရာ့ဆရာ အပေါင်း၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာ၊ ဓနုဆေးဝိဇ္ဇာ၊ အင်းဝိဇ္ဇာ၊ မေဝိဇ္ဇာ၊ ပီယဝိဇ္ဇာ၊ မန္တန်ဝိဇ္ဇာ၊ ထွက်ရပ်ပေါက်၊ ပေါက်ဆရာ ခြောက်ဆယ့် လေးယောက်၊ ကိုးဆယ့်ခြောက်ယောက်နှင့်တကွ၊ သုံးဆယ်ကျော် မုနစ်မင်း၊ ထီးဆောင်းမင်းတစ်ရာ့တစ်ဆယ့်တစ်ပါးသော ဒေဝတာ နတ်မင်းများနှင့် နတ်မိဖုရား အမှူးထား၍ တနင်္ဂနွေသမီး အမိဘက်က ဆိုင်သောနတ်၊ အဖဘက်က ဆိုင်သောနတ်၊ အဘိုးဘက်က ဆိုင် သောနတ်၊ အဘွားဘက်က ဆိုင်သောနတ်၊ အမိရိုးရာ၊ အဖရိုးရာ၊ အဘိုးရိုးရာ၊ အဘွားရိုးရာ အမှူးထား၍ ယခုမှန်လှပါဘုရား ယခုသမီးများ၊ သားများပန်းဖိုး၊ မုန့်ဖိုး၊ နားရွှောင်းဖိုး၊ တောင်းတော်ဖိုး အကျက်ကျ ဆက်သပါဘုရား။

"ဤအချိန် ဤအခါကစလို့ ခြေတော်ရင်း ဆံဝင်းလို့ ခြေတော်စုံ ဆံပုံပါတယ် ဘုရား။ မန္တလေးဘိုးဘိုးကြီး၊ တောင်ပြုန်းဘိုးဘိုးကြီး၊ ဘိုးဘိုးလေးနှင့် အိမ်တွင်းအဖေကြီး အိမ်တွင်းစုနစ်ပါး၊ ပြီး၍လည်း ကန်တော့ခံတော်မူပါ၊ ရယ်၍လည်း ကန်တော့ခံတော်မူပါ။ ဤအချိန် ဤအခါမှစ၍ ရောင်းသူတစ်ယောက်၊ ဝယ်သူတစ်ထောင် အင်္ဂါနှ စိန်အရောင်းအဝယ်များ လုပ်ပါတယ် ဘုရား။ တနင်္ဂနွေနံ အဲ... မှန်လှပါဘုရား။ ဇုဒ္ဓဟူးနံ ရွှေအရောင်းအဝယ်၊ ကြာသပတေးနံ မြအရောင်းအဝယ်၊ သောကြာနံ အဲ... သွားရာလမ်းခရီး အဆင်ချော အမောပြေလို့ ပယင်းဒဂ္ဂါ၊ ကျောက်သံပတ္တမြား၊ ခေါ်တွင်း၊ ရွှေတွင်း၊

ဓမ္မတွင်း မ.စလို့ ပိုင်ဆိုင်သလို၊ တနင်္ဂနွေ ၁၀ ပီးကြီး မိသားစု ဥမကွဲ သိုက်မပျက်နှင့် မှန်လှကြောင်းပါ ဘုရား၊ မမေတ္တာခင့်မတ မကြောင့်မကြ၊ မရှိစကား၊ မလှစကား၊ မဝစကား နားမှ လေသံမျှ မကြားရဘဲ မရှိသော ပုဂ္ဂိုလ်များလည်း ပေးနိုင်ပါရစေ၊ မသေသေ ဘ ပုဂ္ဂိုလ်များလည်း ကျွေးနိုင်ပါစေ၊ မလှသော သူများလည်း ဆင်နှဲင်ပါရစေ။

"လောကီကမ်းခြေမှ လောကုတ္တရာကမ်းခြေသို့ မလွှတ်မြောက်မီစပ်ကြား သာသနာ့အကျိုး၊ ဘာသာ့အကျိုး၊ ဒေသအကျိုး သယ်ပိုးဆောင်ရွက်ဖို့ သိရိမ္မာ သောကမင်းကြီးတို့လို ဘုန်းသမ္ဘာနှင့် ပြည့်စုံသော ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ်များကဲ့သို့အဖြင့် တစ်မင်္ဂတစ်ဖိုလ် ရပါရစေ၊ ရောက်ပါရစေ၊ အောင်ပါရစေ၊ အေးပါရစေပေါ် ဘုရား"

ငါးရာတန် ဆုတောင်းချည်က ဒေဝီကျိန်းကို အာမခြောက်စေတယ်၊ ခြော်… ငါးရာမျက်နှာကြောင့်ချည်းလည်း မဟုတ် ပါဘူး။ စေတနာ မေတ္တာလည်း ပါပါတယ်။ ဒါတွေက ကိုယ့်ဖောက်သည်တွေ၊ အဲ… ကိုယ့်လူရင်းတွေ၊ နှတ်မိတ်တွေတွေပဲ။

ခင်လာတာပဲ ကြာလှပေါ့၊ ဆက်ဆံလာတာလည်း ကြာလှပေါ့၊ ကိုယ်ကလည်း ရွှေဝယ်စရာရှိ သူ့ပဲ၊ သူကလည်း ကိုယ့်ပဲ။ ကိုယ်လည်း ရွှေဆိုင်မပြောင်းဘူး၊ သူလည်း နှတ်ကတော်ာ် မပြောင်းဘူး၊ ဒေဝီကျိန်း ရေနွေးတစ်ပန်းကန် ကုန်တဲ့အထိ ဆုတောင်း ကို မျက်စိမှိတ်လက်အုပ်ချီ အာရုံပြုနေတဲ့ စိန်ရွှေသူဌေးမ မျက်လုံး တွေ ပွင့်မလာသေးဘူး။ ပါးစပ်က လှုပ်လှုပ် လှုပ်လှုပ်နဲ့ ဆက်ပြီး ဆုတောင်းနေတုန်း။ ဘာတွေများ ဆုတောင်းစရာ ကျန်သေးပါလိမ့်။

"ဟဲ့… အောက်မှာ ဘယ်သူရှိလဲ၊ အပေါ်ကို ရေနွေး လာဖြည့်ပေးကြဦး။ လက်ဖက်ပွဲလည်း အသင့်ပြင်ခဲ့"

စိန်ရွှေသူဌေးမ မျက်လုံးတွေ ပွင့်လာပြီး ရှိုရှိုသေသေ ဦးသုံးကြိမ်

ရျတယ်။

"ရောင်းဝယ်ရေကာ ကောင်းရဲ့မဟုတ်လား၊ မခင်ခအေး ဟိုတလော ကဓတောင် စိန်နားကပ်ဝယ်ချင်တဲ့ အမျိုးတစ်ယောက် လွှတ်လိုက်သေးတယ်"

"လာပါတယ်၊ ချယ်တစ်ရဲ ဝယ်သွားတယ်"

"အဲဒါ၊ ကိုယ်တော်တို့ ပေးတာပေါ့"

အသံတိုးတိုးပြောတတ်တဲ့ စိန်ရွှေသူဌေးမက မပွင့်တပွင့် ပြုံးတယ်။

"ဒီထက်မကာပေးအောင် ဆုတောင်းပေးဦး"

"အမယ်လေး... သူဌေးတွေရယ် မပြောရဘူး၊ လောဘကလည်းကြီးပုံ၊ တော်တို့တစ်သက် စားမကုန်တဲ့ စည်းစိမ်ရှိပြီပဲ တော်ရောပေါ့၊ ဒါလောက်ပဲ ပေးနိုင်တော့မှာပေါ့၊ လောဘသိမ်း... လောဘသိမ်း၊ လောဘကို ဘုရားလည်း မကြိုက်ဘူး၊ နတ်လည်း မကြိုက်ဘူး သူဌေးမရေ့"

ဂျိန်စဘွန်းမရဲ့ ပါးစပ်သေနတ်က တရစပ် ပစ်ထည့်တာကို အကြောင်းသိ သူဌေးမက မျက်စောင်းမပွင့်တပွင့် တုံ့ပြန်တယ်၊

"အင်း... အဲဒီမျက်စောင်းနဲ့ လင်တစ်ယောက် ထပ်ရနေဦးမယ်၊ ငယ်ငယ်ချောချောလေး"

"အို... တော်စမ်းပါ"

ထုံးစံအတိုင်း ပြောချင်ရာပြောပြီး လင်ကြောင်း သားကြောင်းဘက် ဖောက်ချင်လာတဲ့ ဒေစီဂျိန်းကို မျက်စောင်း ထပ်ထိုးရင်း မုဆိုးမသူဌေးမက ထိုင်ရာက ထတယ်၊

"ကဲ... သွားမယ်၊ ပုစွန်ချဉ်ထုပ် လာပို့နိုင်းလိုက်မယ်"

"ညနေ ထမင်းစားဖိအောင် ပို့နော် ဒါပဲ၊ နေပါဦး၊ သမီးတွေကော

မပါဘူးလား"

"မပါပါဘူး။ ကျောက်ကုန်းက ဒေါ်မြမြတို့နဲ့ လာတာ၊ သူတို့လည်း လာခဲ့ဦးမယ်တဲ့"

"အမယ်လေး... မပိုနဲ့၊ မလာပါဘူး။ ဒေါ်မြမြတို့ နတ်ဆရာကမော်လမြိုင်မရှေ့ ဥစ္စာ၊ အဲဒီသွားမှာပေါ့။ ကျုပ်ဆီ ဘာကိစ္စလာရမှာလဲ"

"ဒေသြာ်... လာမှာပါဆိုမှ၊ ကျွန်မနဲ့ ပြောပြီးသား၊ လွှတ်လိုက်မယ်"

"အမယ်လေး... မလွှတ်နဲ့၊ မလွှတ်နဲ့၊ ဒီအရွယ်ကျမှ သူများနတ်တပည့်လည်း မလုပ်ပါရစေနဲ့။ ကြော်လည်း မကြော်ချင်တော့ဘူး။ လော်လည်း မလော်ချင်တော့ဘူး။ ကြော်လို့လော်လို့ရတဲ့ ပိုက်ဆံလည်း မလိုချင်တော့ဘူး"

ဒေစီကျိန်း ဗွာသမျှကို စိန်ရွှေသူဌေးမက မျက်စောင်း မပွင့်တပွင့်နဲ့ပဲ တုံ့ပြန်ရင်း လေ့ကားက ဆင်းတယ်။ ဒေစီကျိန်းက ပုဆိုးထဘီကိုဖိုသီဖတ်သီပြင်ဝတ်ရင်း ဘောက်ဆတ် ဘောက်ဆတ်နဲ့ နောက်ကလိုက်ပို့တယ်။

"နက်ဖြန်ညနေ ထက်ပွဲလာဦးမလား။ မလာနိုင်လည်း ကိစ္စမရှိဘူး။ နက်ဖြန်က အမျိုးတွေပွဲ။ သူတို့လာကြမှာ"

"ဒီနှစ် ဘယ်နပွဲလဲ"

"လေးပွဲ၊ ငါးပွဲဖြစ်အောင် လုပ်မလို့လား။ အနရွှေသာ အနန့ ငါးပဲဖြစ်အောင်လေ"

လူက ဓနပမယ့် ပညာက မနေတော့ အလိုလို ကြော်တောား လော်တောားလေးက ထွက်လာတယ်။ ငါးဆယ်၊ တစ်ရာမျိုးသာဒေစီကျိန်း မကြော်မလော်ချင်တော့တာပါ။ ထောင်ဂဏန်းမျိုးကိုတော့လက်လွှတ်ခံလို့ ဖြစ်မလား။ ပြီးတော့ ထက်ပွဲဆိုတာ များလေ

ဂုဏ်ရှိလေး။

"တက်ပွဲဆိုတာ သူဌေးတွေမှ လုပ်နိုင်တာ ရှင်ရဲ့။ ကျွန်မတို့က..."

"အမယ်လေး သွား... သွား... မြန်မြန်သွား၊ ကျုပ် ကော်တုတ်မိတော့မယ်"

စိန်ရွှေသူဌေးမကို ဒေစီဂျိန်းက ဝင်းတံခါးပြင်ဘက် တွန်းပို့လိုက်တယ်။

ဝင်းတံခါးနဲ့ မျက်နှာချင်းဆိုင် ကျပ်ညပ်ပြွတ်သိပ်နေတဲ့ ကနားတဲတန်းလေးတွေပေါ်က နတ်ကတော် အခြောက်မလေးတွေက ဒေစီဂျိန်းကို အားကျတဲ့အကြည့်နဲ့ လှမ်းကြည့်ကြတယ်။ ကနားတဲတွေပေါ်မှာ နတ်ဝေးတဲ့ ပရိသတ်ကို ထိုင်ရာကနေ ယိမ်းယိုင်နတ်ပူးရင်း ခြေခေါက်နတ်ဟောနေတဲ့ မိတ်ကပ်ထူထူ၊ နီရဲရဲ နတ်ဝတ်စုံနဲ့ မိန်းမလျာမလေးတွေဆီကို ဒေစီဂျိန်းက ပြန်ကြည့်ရင်း မျက်နှာကို ချိုလိုက်တယ်။ ပြီးတော့ ဝင်းတံခါးကို ပြန်ပိတ်တယ်။

"ကြော်ကြပဟဲ့၊ လော့်ကြပဟဲ့၊ ဒီအရွယ်ဆိုတာ ကြော်ရ လော့်ရမယ့်အရွယ်၊ ကြော်ရလော့်ရမယ့် အချိန်"

အိမ်ဘက်ကို ပြန်လာရင်း ဒေစီဂျိန်း တုံးမံအတိုင်း သူ အော်ချင်ရာကို အော်လာတယ်။

"အဖွဲ့ကြီးရေ၊ ညနေစာ ကျက်ကုန်ပြီလားဟဲ့"

ထမင်းချက်၊ ဟင်းချက် မီးဖိုဆောင်တာဝန်ခံ မိန်းမလျာ အဖွဲ့ကြီးက ဒေစီဂျိန်းကို စကားမပြန် အားသေးဘူး။

"နင်ညစ္စာက မလွန်လွန်းဘူးလား။ ရုမှ ငါးနာရီတောင် မထိုးသေးဘူး။ ညကလည်း နင် ဘယ်အချိန်ပြန်လာတယ်ဆိုတာ ငါသိတယ်။ ဒီမှာ လုပ်စရာ ကိုင်စရာတွေက ရှိသေးတယ်၊ ဧည့်သည်တွေကို

ထမင်းကျွေးရမယ်။ ငါတစ်ယောက်တည်း ဘယ်လိုလုပ်မလဲ"

အဖိုးကြီးက အိမ်အောက်ထပ် အပေါက်ဝမှာ ရပ်ရင်း လက်ညှိုး တထိုးထိုးနဲ့ ဝိတ်တိုနေတယ်၊

"ဟဲ့…အဖိုးကြီး ဘာလဲ၊ ဘယ်သူလဲ၊ တင်တင်မြင့်လား၊ ဘာ ဖြစ်နေတာတုံး"

ဒေစီဂျိန်းက အဖိုးကြီးနားမှာ ရပ်လိုက်တယ်၊ အိမ်အောက်ထပ် ကွပ်ပျစ်ရှည်တောင့်မှာတော့ ပုဆိုးရင်လျားနဲ့ မုန်တစ်ချပ်ကိုင်ပြီး မိတ် ကပ်တွေ တစ်ပိုင်းတစ်စနဲ့ မိန်းမလျာမလေး တင်တင်မြင့်က နတ်ခမ်း ကို ထော်နေအောင် ရူထားတယ်၊ အဖိုးကြီးကလည်း မျက်နှာထားကြီး တင်လို့၊

"အဲဒီမှာလေ နေတောင်မဝင်သေးဘူး၊ ထွက်တော့မယ်။ ဆပ် ထလူးထနေတာ"

အဖိုးကြီးက ဒေါသအေးပြီး ရှက်တတ်၊ ကြောက်တတ်တဲ့ ဗိုင်း တောင်းကျောက်ဖိ အိမ်တွင်းပုန်း မိန်းမလျာအပျိုကြီး၊ ဟိုကောင်မက ဆတ်ဆလူးမ၊ ဆယ့်ခြောက်နှစ်မနဲ့တော့ တွေ့ကြပြီ၊

တင်တင်မြင့်က တောသက်က မိန်းမလျာကလေး၊ အဖိုးကြီးကို တောက်တိုမယ်ရ ကူလုပ်ဖို့ ခေါ်လာတာ၊ တောင်ပြုန်းရောက်ရင် ပြီးရောဆိုပြီး လိုက်လာတာ၊ ကူဖော်လောင်ဖက် နိုင်းဖို့စေဖို့ လိုက် လာတဲ့ မိန်းမလျာငယ်ငယ်လေးတွေ ထုံးစံအတိုင်း တစ်နေကုန် နိုင်း ချင်ရာနိုင်း၊ ညနေစောင်းကစပြီး ညထိကတော့ သူတို့ ထွက်ချိန်ဆိုပြီး လိုက်လာတာ၊ အဲဒီအချိန်မှာ မိန်းမလိုဝတ်စား ဖြီးလိမ်းပြီး လမ်း သလားမယ်၊ သံတံခါး ရိုးရောသွားရှုနမ်းမယ်၊ ပြီးတော့ (…) ရှာမယ် ပေါ့၊

"တစ်ခါတည်း ထွက်ချင်တော့နဲ့ ငါ့ခြောက်တွေ ရေဆေးတာ

လည်း မပြောင်ဘူး၊ သဲတာကျိုကျိုနဲ့"

"ဟဲ့…အဖုံကြီးရဲ၊ ထွက်ပါစေ၊ မပြောပါနဲ့၊ ငါတို့ ယေယေက လည်း အဲလိုပဲဟဲ့၊ သူတို့ထက်တောင် ဆိုးသေးတယ်၊ ငါဆို ဒီအရွယ် က တစ်ညလုံးပြန်လာတာ မဟုတ်ဘူး"

တောသူမလေး ဆိုပြီး ဒေစီဂျိန်းနာမည်ပေးထားတဲ့ မိုးခင်တစ်ဖြစ် လဲ ပန်တျာတင်တင်မြင့်က မျက်နှာလေး ကြည်သွားပြီး မိတ်ကပ် ဆက်လူးတယ်၊

"ကိုဘစီကလည်း ရှောက်မြှောက်ပေးနေတာပဲ၊ ကြာရင် လင်တွေပါ အိမ်ပေါ် ခေါ်တင်မယ်"

အဖုံကြီးက ယေပေါင်းဖို့ ဒေစီဂျိန်းကို ယေနာမည်ပဲ ခေါ်တတ် တယ်၊ မျက်တောင်ကြီးတိုး၊ စိတ်ကောက်ပြီး တွတ်တွတ် တွတ်တွတ် လုပ်သွားတဲ့ အဖုံကြီးကို ဒေစီဂျိန်းက တဟားဟား ရယ်တယ်၊

"အဖုံကြီး ညည်းကိုတော့ လင်ပေးစားမှ ဖြစ်တော့မယ်၊ ဟဲ့… တင်တင်မြင့် အဖုံကြီးအတွက် တစ်ယောက်ရှာခဲ့စမ်း"

ဒေစီဂျိန်းက အိမ်ပေါ်တက်ခဲ့ရင်း လေ့ကားတစ်ဝက်မှာ ဖြန်းဆို ရပ်လိုက်တယ်၊

"အေး… လင်ဆိုမှပဲ မင်းမင်းတစ်ယောက် ပြန်မလာသေး ပါလား၊ တော့ မဟုတ်မှ လွဲရော၊ ကောင်မတစ်ယောက်နဲ့တော့ ချိန်းတွေ့နေပြီ ထင်တယ်၊ ဟဲ့… အဖုံကြီး၊ မင်းမင်း ဈေးဝယ်ရာတွေ များသလား၊ ဘာပြောသွားသေးတုံး"

"ပြောတာပဲ၊ မိုးချုပ်ရင် မနက်မှ ပြန်ခဲ့မယ်တဲ့"

အဖုံကြီးရဲ့အေးတိအေးစက်စကားက ဒေစီဂျိန်းရင်ကို မူစနဲ့ဖြစ် သွားစေတယ်၊ ခြော်… ဘင်းက မန္တလေးမှာ ညအိပ်မှာပေါ့လေ၊ ဘာလဲ ရည်းစားဟောင်းနဲ့ အိပ်မှာလား၊ ကြည့်စမ်း… ငါ့ကိုကျ

ဘာမှ မပြောမသွားဘူး။

ဂျိန်းစဘွန်းမစ်တ် တစ်ပိုင်းကနေ ခေါ်သကလည်း ကြွလာပြန်တယ်။ ခေစီဂျိန်းကို ဘယ်လိုအစားမျိုး မှတ်လို့လဲ။ ပြန်မလာဘဲကြည့်၊ ညတွင်းချင်း မန္တလေး လိုက်မယ်ဟဲ့၊ သိလား။ နင့်ကို ခေါ်ဖို့များတော့ မမှတ်နဲ့၊ ငါ့ဆင်ထားတဲ့ပစ္စည်းတွေ လိုက်ချွတ်ယူမှာ။

ထင်ပါတယ်။ မနက်ကတည်းက ဈေးဝယ်၊ ဈေးဝယ်နဲ့ ထွက်ဖို့ စိုင်းပြင်းနေတာ။ ထွက်သွားလိုက်တာများ၊ ဖောင်းထဲက လွှတ်တဲ့မြင်း။ လှောင်အိမ်ထဲက လွှတ်လိုက်တဲ့ငှက်မှ အတွက်နေးဦးမယ်။ သေရာပါတယ်။ သင်း... တောင်မနဲ့ တွေ့ဖို့ပေါ့။ မိန်းမစစ်မဟုတ်တဲ့ ဒီသက်ကြီးအိုမကြီးကို ငြီးငွေ့ပြီပေါ့၊ ရှုံပြီပေါ့။ မိန်းမစစ်ကို ယူချင်တော့ ဒီကောင်မကြီးကို ထားခဲ့တော့မှာပေါ့။ ဒီလိုလား။

ထားခဲ့ပေါ့၊ သွားပေါ့၊ အေး... ဒီအရွယ်ကြီးကြီးကျမှ ငယ်ငယ်ကလိုတော့ လင်စိတ် ငယ်ထိပ် မတက်တော့ဘူး။ ကောင်းကောင်းမွန်မွန် ထားပါလျက်နဲ့မှ မနေချင်တာ ကိုယ် ဘာတတ်နိုင်မလဲ။ သွားဟဲ့၊ အောင်း ဒူဝေ... ဒူဝေ... သွား ဟုန်ဟုန်၊ သွားဟေဟေ... သွားဟာဟာ...။

ခေစီဂျိန်းက ပုဆိုးထဘီကို စွန်တောင်ဆွဲရင်း အိမ်ပေါ်ထပ် အခန်းထဲကို ကမူးရှူးထိုး ဝင်သွားတယ်။ အဝတ်အစားသေတ္တာကို ဖွင့်ကြည့်မယ်လုပ်တော့ သော့က ခတ်လျက်။ လက်ဝတ်လက်စားတွေ ထည့်တဲ့သေတ္တာလေးကလည်း အဲဒီထဲမှာပဲ။ သော့တွေအားလုံးက သူ့ဆီမှာလေ။ သူပဲ သော့ကိုင်၊ သူပဲ အစစအရာရာ စီမံခန့်ခွဲတာ။ အားလုံးသူပဲ အစရော။

အခန်းပေါက်ဝမှ ခေစီဂျိန်းက ခြေပစ်လက်ပစ် ထိုင်ချလိုက်တော့တယ်။ သူ ရက်စက်လို့ လုပ်သွားရင်လည်း လုပ်သွားပေါ့။

ကိုယ်က ပုံမိပြီကိုး။ ကိုယ်က ချစ်မိပြီကိုး။

ဟောဟိုမှာ ကြိုးတန်းပေါ်မှာကတော့ သူ့အင်္ကျီတွေပါလား။ တောင်ပြန်လေခါနီးမှ ရန်ကုန်က ဝယ်လာတဲ့ သူ ကြိုက်လှပါချည်ရဲ့ ဆိုတဲ့ အင်္ကျီသုံးထည်။ တစ်ထည်ခြောက်ရာတောင် ပေးရတဲ့ ဖောရိန်း အင်္ကျီတွေ၊ အင်း... သင်း တစ်ခါတည်းသွားတာဆိုရင် ဒီအင်္ကျီ တွေကိုတော့ ထားခဲ့မှာ မဟုတ်ဘူး။ မသွားသေးဘူးနဲ့ တူပါရဲ့၊ ပြန်လာဦးမယ်နဲ့ တူပါရဲ့။ ခြော်... ခုကွ၊ ခုကွ။ အရင်ကလည်း ဒီလိုအပူလုံးမျိုး ဒေစီကိုန့်ရင်ထဲမှာ အကြိမ်တစ်ရာထက် မနည်း ဆို့ဖူးတာပဲ၊ သူ ပြန်ရောက်တော့မှ ကျခဲ့ရတဲ့အပူလုံးတွေ နည်းမှ မနည်းတာပဲ၊

ဆိုးလိုက်တဲ့ မိန်းမလျာဘဝ၊ အောက်ကျနောက်ကျနိုင်လိုက်တဲ့ မိန်းမလျာဘဝ။

ယောကျ်ားအချင်းချင်း၊ အတူတူကို ကိုယ်က တစ်ဆင့်နိမ့်နေရတဲ့ အဖြစ်၊ အရာရာ ကိုယ်က အလျှော့ပေး၊ အကြိုက်ပေးပြီး ပြုစုလုပ် ကျွေးနေရတဲ့အဖြစ်။ ခြော်.. ဝဋ်တွေပေါ့။ ဝိပါက ဝဋ်ကြွေးတွေပေါ့။ ဟိုဘဝ သူများသားမယား ဖောက်ပြန်မှားခဲ့မိလို့ ဒီဘဝမှာ မိန်းမလျာ လာဖြစ်ရတာ။ ခန္ဓာကိုယ်က ယောကျ်ားစစ်စစ်၊ စိတ်ကတော့ တကယ့် မိန်းမမှ မိန်းမ၊ မိန်းမစိတ်စစ်စစ်။ မိန်းမလိုပဲ ဝတ်ချင်တယ်၊ စားချင် တယ်၊ နေချင်တယ်။ မိန်းမလိုပဲ ပြောချင်တယ်၊ ဆိုချင်တယ်၊ တွေးချင် တယ်။ အေး... မိန်းမလိုပဲ ယောကျ်ားလည်း လိုချင်တယ်၊ တကယ်၊ ကိုယ်ဖြစ်ဖူးမှ ကိုယ်သိတာ။ မိန်းမလျာများ ယောကျ်ားဖြစ်အောင် ပြောင်းမယ်မကြံနဲ့။ အနုနည်းနဲ့ပဲ ဖြစ်ဖြစ်၊ အကြမ်းနည်းနဲ့ပဲဖြစ်ဖြစ်၊ ကြိုက်သလိုလုပ် မရဘူးမှတ်။ ဘယ်လိုလုပ်လုပ် မရဘူးမှတ်၊ မိန်းမ လျာမှန်သမျှ မွေးကတည်းက ဒီစိတ်က ပါလာပြီးသား။ အကြောင်း

အမျိုးမျိုးကြောင့်သာ ငုပ်ပြီး ပုန်းပြီး နေရတာ။ ဟော… ရေမြေ ရာသီဥတု သင့်တင့်မျှတဲ့အချိန်ရောက်တာနဲ့ ပွင့်တော့တာပဲ။ ငွားငွား စွင့်စွင့်ကို ပွင့်တော့တာပဲ။ ဘယ်သူမှ တားလို့ မရပေါင်။

ကိုယ်တွေ့ပဲ။ ငယ်ဘဝမှာ ယောကျ်ား ဘဝဖြစ်အောင် မိန်းမလျှာ ဘဝကို ရှောင်မှောင်ပြီး မိဘတွေ၊ ဆွေတော်မျိုးတွေက ဘောင်းဘီရှည်တို့၊ ဂျာကင်တို့၊ ကစားစရာ၊ သေနတ်တို့ ဝယ်ပေး။ ကိုယ်လိုချင်တာက ဂါဝန်တို့၊ စကတ်တို့၊ ချိန်ခွင်တို့၊ ထမင်းအိုး ဟင်းအိုးလေးတွေ လိုချင်တာ။ ရှောင်မရတော့ ရိုက်ဟဲ့၊ နှက်ဟဲ့၊ ပုဆိုးကို ထဘီလိုဝတ် ရိုက်၊ သနပ်ခါးလိမ်း ရိုက်၊ ချိန်ခွင်နဲ့ ကစားပြန်ပလား ရိုက်၊ နီးရာ လူက အကုန်ရိုက်ကြတာပဲ။ မရပါဘူး။ ဘယ်လောက်ရိုက်ရိုက် မိန်းမလျှာ ဘဝပဲ။

နောက်တစ်ခါ လူပျိုဖြစ်လာတော့လည်း မိန်းမပေးစားဖို့ စီစဉ် ကြပြန်ရော။ ဘဝက ဖြူဖြူသနားကမား။ ရုပ်ကလေးကလည်း ရှိတော့ အကြောင်းမသိတဲ့ အပျိုမတွေက မိန်းမရှော ရှောတာဟဲ့ဆိုပြီး ကြိုက် ကြသေးတာ။ အမယ်လေး… ပြောလို့ပြောတာ မဟုတ်ဘူး။ ခုချိန်ထိ ဘဝကို မရလို့ အလုပ်ပိုက် အပျိုကြီး လုပ်နေတဲ့တစ်ယောက် ခုထိ ရှိသေးတယ်။ မခက်ဘူးလား။

ဘယ်ရမှာတုံး။ မိန်းမ စိတ်မဝင်စားပါဘူးဆိုမှ ဘဝက အခွဝ် ဆိုတာနဲ့ ဆရာဝန် လက်လှမ်းဆွဲတယ်ဆိုတဲ့ မိန်းမလျှာမျိုး။ လာ မလုပ်နဲ့၊ မရဘူး။

နောက်တော့လည်း အိမ်က လက်လျှော့လိုက်ရတာပါပဲ၊ ကိုယ့် ဟာကိုယ် နေချင်သလိုနေ၊ ပျော်သလို နေတော့ပဲ။

သူငယ်ချင်း မိန်းမလျှာတွေနဲ့ လျှောက်သွား။ ရန်ကုန်က မိန်းမလျှာ ဝါရင့် သမ္မာရင့်ကြီးနဲ့တွေ့တော့ မိန်းမလျှာလေး ဗဟုသုတတွေ တိုးပြီး

မိန်းမလျာဘဝမှာ ကျင်လည်ကျက်စားလိုက်တာ အသည်းတွေလည်း တမြမ်းမြမ်းကွဲ၊ ဟောတစ်ယောက်၊ ဟောတစ်ယောက်၊ တစ်ယောက်မကောင်း၊ တစ်ယောက်ရောင်း၊ အသည်းက တစ်ခါကွဲတုန်းကသာ နာတာ၊ ဆယ်ခါလောက်ကွဲတော့ မနာတော့ဘူး ထုံသွားပြီ၊

သားလေးတွေ၊ သားလေးတွေ ဒေစီကျိန်းရဲ့ သားလေးတွေ တွေးလိုက်ရင် စိတ်နာဖို့တော့ အလွန်ကောင်း၊ သူတို့ကို ပေးလိုက်ရတာ၊ အမ်းလိုက်ရတာဖြင့် ကိုယ်ဝတ်ထားတဲ့ ရှပ်အကျႌ လိုချင်တယ်ဆိုတောင် ရောဟဲ့ဆိုပြီး အမ်းခဲ့ရတာ၊ သူတို့က အချိန်တန် အိမ်ပြန်ကြရော၊

ငါးစိမ်းနဲ့ရတာနဲ့ တူးဖော်နဲ့တဲ့ ငါးကင်မကြီးဟဲ့ဆိုပြီး ပစ်ခဲ့တော့တာပဲ၊ အစကတော့ အဟုတ်၊ အနားမှာကပ်ပြီး ရွဲ့လိုက်၊ တာလိုက်၊ တီလိုက်၊ တွတ်လိုက်နဲ့ မိန်းမလျာ အရည်တွေကို ပျော်လို့၊

အသွေးယူယူ၊ အသားယူယူ၊ တောင်းထဲက နတ်ပိုက်ဆံတွေပါယူယူ၊ အတုန်အမ်းမယ် မောင်ရေပဲ၊ ဟော...တစ်လက နှစ်လ၊ အချိန်လေးမှ သိပ်မကြာချင်သေးဘူး၊ ဖောက်ချင်ပြီ၊ ဇာတိတွေက ပြလာပြီ၊ သွားအနံ့ခံပြီ၊ ဒေစီကျိန်းမှာ ဆိုရပါပြီ အမှုလုံးကြီး၊ ကောင်လေးလည်း ဘာထူးလဲ၊ မင်းမင်းလေး၊ သူလည်း ဘာထူးလဲ၊

ဖော်လှ၊ ဖော်လှနဲ့ ခုနှစ်နှစ်လည်း ရှိရော ဖောက်ချင်လာတာပဲ မဟုတ်လား၊ လက်ပူးလက်ကြပ် မမိသေးပေမယ့် တစ်နေကုန် ပျောက်နေတာတို့၊ ညည့်နက်မှ ပြန်လာတာတို့၊ မိုးချုပ်ရင် အိမ်ပြန်မအိပ်တော့ဘူးဆိုတာတွေ ဖြစ်လာပြီ မဟုတ်လား၊

ဒါကြောင့် ဒီခုနှစ်နှစ်မှာ ဒေစီကျိန်း ထိန်းနိုင်လွန်းလို့၊ စွာနိုင်လွန်းလို့ပါ၊ သင်းလေးနဲ့ ကိုယ်က အသက်အများကြီး ကွာတာ၊ ချစ်ရောရှိ ချစ်မှာပဲ၊ ဆုံးမစရာရှိ ဆုံးမမှာပဲ၊ ရိုက်ရောရှိ ရိုက်မှာပဲ၊

သင်းလေးကို ကျိန်းပိုင်တယ်။

မင်းမင်းကို ကျိန်းပိုင်တယ်။

သင်းကလေးကို သင်းမိဘတွေဆီက ငွေပါးရာပေးပြီး အပိုင်ဝယ်ခဲ့တာ။

အညာတောမြို့လေး တစ်မြို့မှာ သင်းလေးနဲ့ တွေ့တာပေါ့။

လွန်ခဲ့တဲ့ ခုနစ်နှစ်က ဆိုတော့ သူက ဆယ့်ခြောက်နှစ်၊ ကိုယ်က လေးဆယ့်ခြောက်။ လေးဆယ့်ခြောက်ဆိုတာ အလှပန်း အပွင့်ဆုံး အရွယ်လေ။

အဲဒီတော့ သူက သဘောကျသွားမှာပေါ့။

တစ်ခါတည်း ကနားပွဲထဲမှာ ကိုယ့်ကို ငေးကြည့်နေတာ။ (နောက်မှ ပြန်ပြောတာ၊ ပုပ္ပားမယ်တော် အဝတ်အစားနဲ့ လှလွန်းလို့တဲ့)။ ခြော်... ကိုယ်ကတော့ မပြောနဲ့လေ။ သူ့လို ရုပ်ရည်မျိုးလေးကို မြင်တာနဲ့ကြိုက်ပေါ့။ အသားကလေးက လတ်လတ်၊ အရပ်က ထောင်ထောင်မောင်းမောင်း၊ မျက်လုံးလေးတွေက ပြူးဝိုင်းပြီး မျက်ခုံးကလေးကလည်း ထူးထူးခြားခြား ထင်းနေတာပဲ။ ဆံပင်ဖြီးထားတာလေးကလည်း သူ့မျက်နှာလေးနဲ့ လိုက်လိုက်တာ။

တစ်ခုပဲ သူ့မှာ ဆင်းရဲလွန်းရာတော့ အဝတ်အစားက ညှိုးမှိန်ရာတယ်။ ညှိုးမှိန်တာမှ သူ့ဆင်းရဲမှန်း သူ့အဝတ်အစားကို မြင်တာနဲ့ သိနိုင်တယ်။

သနားလိုက်တာ။

ကိုယ့်မယ် ရွှံ့ထဲက ပဒုမ္မာကြာလေးဟဲ့... ရေဆေးပြီး အရောင်တင်ပေးရလို့ကတော့ဟယ်၊ ရုပ်ရှင်မင်းသားတွေနဲ့ ယှဉ်နိုင်တယ်ဟဲ့နဲ့ နှုတ်ကရင်း သူ့ပဲ ကြည့်တွေးနေတော့တာပဲ။

ညနေကနားပွဲသိမ်းတော့ ကိုယ်လည်း မောဓမာပန်းပန်းနဲ့ အဝတ်

တွေ ဘာတွေလဲ၊ ရေးမိုးချုပ်မယ်ဆိုပြီး အိမ်ပေါ်ထပ်ကနေ အောက်ဆင်းလာတော့ အလို... အောက်ထပ်မှာ ကနားပွဲရှင် ခိုင်းတာတွေကို မိန်းမကြီးတစ်ယောက်ရယ်၊ ကလေးမလေး တစ်ယောက်နဲ့ လုပ်နေရှာတဲ့ သူ့ကို တွေ့ရပါရော။ သနားလိုက်တာ။

ကံကောင်းချင်တော့ ကနားရှင်က ကိုယ်ရေချိုးဖို့ သူ့ကို ရေလိုက်ခပ်ပေးခိုင်းတယ်။ အို... ကြာကြာဆိုင်းမနေပါဘူး။ ကိုယ်က ချစ်နေပြီပဲ၊ ဂျိန်းဇဘွန်းမစိတ်ကလည်း စုဆိုစုမှ၊ တစ်ခါတည်း ရေတွင်းနားမှာတင်...

"ဟဲ့... နင် ငါနဲ့နေမလား" ဆိုတော့ "ဟာရှာ..." ဆိုပြီး ရယ်တယ်လေ။

"မရယ်နဲ့ဟဲ့၊ အဟုတ်ပြောတာ၊ နင် ငါနဲ့လိုက်မလား။ ငါ ကောင်းကောင်းထားမယ်၊ ငါ နတ်ကတော်နေရာ ကူညီ ဘာညာလုပ်ပေးပေါ့"

ဘာညာပေါ့နဲ့ ဂျိန်းရဲ့မူရာမာယာတွေနဲ့ နူးတော့ နပ်တော့ ကောင်လေးက အမေ့ကို ပြောလိုက်မယ်တဲ့၊

ဂျိန်းဇဘွန်းမကြီးလေ ပျော်ပြီး ရင်လျားကြီးနဲ့ သူ့အမေဆီ ပြေးတာပဲ။ သူ့အမေဆိုတာ ခုနက ကနားရှင်ခိုင်းတာတွေကို သူနဲ့လုပ်နေတဲ့ မိန်းမကြီးလေ။ ကလေးမလေးက သူ့ရဲ့မောင်နှမ တစ်လှေကြီးထဲက တစ်ယောက်ပေါ့။

မိန်းမကြီးဆီ ပြေးသွားပြီး...

"ကဲ... ပေဟာဒီ ရှင့်သားက ကျုပ်နဲ့လိုက်မလို့တဲ့။ ဘယ့်နှယ်လဲ" ဆိုတော့ မိန်းမကြီးက ရယ်နေတယ်၊

"ရယ်မနေနဲ့၊ ကျုပ်က တကယ်ပြောနေတာ၊ ရှင့်သားကို ကောင်းကောင်းကျွေးမှာ၊ ကောင်းကောင်းဆင်မှာ။ ကဲ... ပြော၊ ကျုပ်ခေါ်

သွားမယ်။ ထည့်မှာလား" ဆိုတော့မှ မိန်းမကြီးက ဇဝေဇဝါနဲ့...

"မသိဘူး။ သူ့သဘောပဲ" တဲ့။

အဲဒီမှာ ကနားရှင်မိန်းမက...

"ကျိန်းကျိန်းက အပိုင်လိုချင်တာ မဟုတ်လား။ အပိုင်လိုချင် သူ့အမေဆီက ဝယ်သွားလိုက်ပေါ့လို့"

စတာလိုလို၊ အတည်လိုလိုလည်း ဝင်ပြောလိုက်ရော ခေစီကျိန်း ပါတဲ့။

"ဝယ်မယ်၊ ဝယ်မယ် တစ်သက်လုံးစာ အပိုင်ဝယ်မယ်" ဆိုပြီး အိမ်ပေါ်ပြေးတက်၊ ပိုက်ဆံငါးရာကို ဖြတ်ဆို ဆုပ်လာခဲ့ပြီး၊ သူ့အမေ ကြီးကို "ရော့" လို့ ပေးပစ်လိုက်တယ်။ "ခုချိန်ကစပြီး ရှင့်သားကို ကျုပ်ပိုင်သွားပြီနော် ဒါပဲ"လို့လည်း ပြောလိုက်သေးတယ်၊ သူ့အမေ ကြီးက ခေါင်းတညိတ်ညိတ်နဲ့ ပိုက်ဆံငါးရာရလို့ မျက်နှာကို ပြုံးနေ တာပဲ။

အဲဒီအချိန်ကစပြီး မင်းမင်းကို ကျိန်း ပိုင်ခဲ့တာပေါ့၊

မင်းမင်းဟာ ကျိန်းရဲ့ တောက်တိုမယ်ရ ကူဖော်လောင်ဖက် ကလေး။ ကျိန်းနတ်ပွဲကဖို့ ပုဆိုး၊ ထဘီ၊ အင်္ကျီပြင်ဆင်ပေးရမယ်။ ပြီးရင် စနစ်တကျ ခေါက်သိမ်းရမယ်။ ကျိန်းဆံထုံးကို ကူဖြုတ်ပေး ရမယ်၊ ပန်းကို ကူဖြုတ်ပေးရမယ်၊ ကျိန်း လက်ဝတ်လက်စားတွေကို မပျောက်မရှအောင် သိမ်းရမယ်။ အရေးကြီးဆုံးအလုပ်က ကျိန်းနတ် ဝင်နေတုန်း နတ်ကနေတုန်းမှာ ကျိန်းမျက်နှာပေါ်က ချွေးညလေးတွေကို တယုတယ သုတ်ပေးဖို့ပဲ၊

ပြီးတော့ သူဟာ ကျိန်းရဲ့...၊

သူ့ကို သုံးနှစ်ကျော်ထိ ကျိန်း သတိထားဆက်ဆံခဲ့တာပဲ၊ ဘယ် နေရာမှ အလစ်မပေးခဲ့ဘူး။ ဘယ်နေရာမှ လျှော့မတွက်ခဲ့ဘူး။

ဒါပေမယ့် သင်းကလေး သုံးနှစ်အတွင်းမှာ သင်းရဲ့ ရိုးသားမှုတွေ၊ စေတနာမေတ္တာတွေနဲ့ ဂျိန်းတစ်ကိုယ်လုံးကို တုပ်နှောင်ပစ်နိုင်ခဲ့တယ်လေ။

ဂျိန်းရဲ့ အလုပ်အကိုင်၊ ငွေရေးကြေးရေး၊ လူမှုဆက်ဆံရေးတွေကအစ သူ့ကို အကုန်အားကိုးရလေတော့ ကြော်... ဒေဗီဂျိန်းဆိုတာ ဘာသားနဲ့ ထုထားတဲ့ မိန်းမလျာမို့လဲ။

သူ့ကို သံယောဇဉ်တွယ်မိပြီ။

သူ့ကို အကုန်ပုံပစ်လိုက်ပြီ။

အရာရာ သူ့သဘော၊ သူ့ စီစဉ်၊ သူ့ကို အကုန်ပုံလိုက်ပြီ၊

ကြော်... သူတို့တွေစိတ်များ ကြောက်စရာကောင်းပုံ ပြောပါတယ်။ သူ့သဘော၊ သူ့ခြေသူ့လက်ဖြစ်လို့ ဘာကြောလဲ။ ကိုယ့်ကို ငေါက်ချင်ငမ်းချင်လာပြီ။ အလုပ်ကိစ္စဆိုပြီး တစ်နေကုန် ပျောက်တာပြီ။ မိုးချုပ်ရင် ရောက်တဲ့နေရာမှာပဲ အိပ်တာပြီ။ ဒီက ဂျိန်းစောင့်ကြီးမှာတော့ သူ မြန်မလာဘူးဆိုရင် မီးတွေလောင်ပြီး စိပ်ပုတီးတချောက်ချောက်နဲ့ မအိပ်နိုင်၊ မစားနိုင် မျှော်ရတာ... မျှော်ရတာ။

"ကိုဘစီ ထမင်းပြင်လိုက်ရတော့မလား။ ပုစွန်ချဉ် သုပ်ပြီးပြီ"

အဖိုးကြီးက လှေကားထက် တံခါးဝမှာ ပေါ်လာတယ်။

"မီးတွေလည်း မဖွင့်ဘူး။ မှောင်ထဲမှာ ထိုင်နေတယ်။ ထမင်းက ဘယ်စားမှာတုံး။ ဒီပေါ် ယူခဲ့ရမှာလား"

"မယူခဲ့နဲ့၊ ငါ မစားသေးဘူး။ ပုတီးစိပ်မလို့။ ဘယ်သူမှ မလာစေနဲ့နော်... အဖိုးကြီး၊ ကြားလား"

ဒေဗီဂျိန်းက စိပ်ပုတီးလက်ပတ်ပြီး လမ်းမဘက်က ဂရန်တာကို ထွက်တယ်။

"ဟဲ့... မီးဖွင့်သွားဦး။ မှောင်ထဲမှာ ထိုင်နေမှာပေါ့။ မီးခလုတ်

တွေမှ ငါ မသိဘဲ"

မဆီမဆိုင် အဝေါက်စံရတဲ့ အကြောင်းသိ အဖုံကြီးက ခေဒီဂျိန်းကို မျက်စောင်းထိုးရင်း မီးတွေကို ဖွင့်လိုက်တယ်။

"ဟဲ့... အဖုံကြီး၊ မင်းမင်း ဈေးပယ်စရာတွေ တော်တော်များလား"

"များမှာပေါ့။ ကျုပ်လည်း မသိဘူး။ မနက်ဖြန် ရှင့်တက်ပွဲပန်းဖို့ သစ်ခွလည်း၊ ရှာရဦးမယ်လို့လည်း ပြောနေတာပဲ၊ မသိဘူး"

"အမယ်လေး... ပန်းရှာတာ အကြောင်းမြဲပြီး ညအိပ်ဦးမယ်။ ငါ မသိတာလိုက်လို့"

"အိပ်ချင်မှ အိပ်မှာပါ။ ကားတွေက ညကိုးနာရီ၊ ဆယ်နာရီထိ ရှိတာပဲ။ ပြန်လို့ရသားပဲ"

"ဩော်... ပြန်ချင်တဲ့ လူအဖို့ကတော့ ဟုတ်တာပေါ့ဟဲ့"

အဖုံကြီးက ဘာမှမပြောဘဲ အိပဲ့၊ အိပဲ့နဲ့ အောက်ပြန်ဆင်းသွားတယ်။

ခေဒီဂျိန်းတစ်ယောက်ကတော့ ဝရန်တာဘက်က သင်ဖြူးလေးပေါ်မှာ လပ်းမဘက်ကို မျှော်ကြည့်ရင်း စိပ်ပုတီးကို တရောက်ရောက်စိပ်နေပြတယ်။

"ဩော်... မီးတကာ့မီး ဒီမီး အဆိုးဆုံးဟဲ့နော်။ ဆယ့်ခြောက်နှစ်လည်း လောင်တာပဲ။ ငါးဆယ်ကျော်လည်း လောင်တာပဲ။ တရားလည်း မမှတ်နိုင်တော့ပါဘူး။ ငမင်း... ငမင်း နင် ငါ့ကို အတော်ဒုက္ခပေးတာပါလား။ အေး... ပြန်မလာချင်လည်း နေ၊ နင့်ကို ငါမမေ့ဘူးဖို့ရုံပဲ၊ ငါ မကျိန်ပါဘူး။ နတ်လည်း မဖမ်းခိုင်းပါဘူး။ ကိုယ့်ကိုမှ မချစ်တော့တဲ့ တစ်နေ့ သွားပေါ့၊ ငါ ဘာတတ်နိုင်တာမှတ်လို့။

ပန်းညီးတွေယူသွားလည်း ငါခံရုံပဲ။ ဒါရှိတယ်။ ပန္နည်းဆိုတာ

ထိုက်သူဖို့။ ငါ မမက်ပါဘူး။ ငါ့တစ်ဝမ်းတစ်ခါးကို နတ်က ကျွေး လိမ့်မယ်။ နင်သာ နတ်ပေးတဲ့ပစ္စည်းတွေကို စိတ်သန့်သန့်နဲ့ သုံးရဲ ပါစေ၊ စွံရဲပါစေ။ နင့်မယား၊ နင့် သားသမီး ဆွေရိုးမျိုးရိုးစဉ်ဆက် မျိုးရိုးနှစ် ဆက် စိတ်သန့်သန့်နဲ့ သုံးရဲပါစေ၊ စွံရဲပါစေ၊ မှန်လှပါ ဘုရား။ ဘိုးဘိုးကြီး ဘိုးဘိုးလေးတို့ သိတော်မူတဲ့အတိုင်းပါ ဘုရား။ ကျေးတော် မျိုး ကျွန်တော်မျိုး မသိမလိုက်နဲ့ ထားခဲ့သော ပစ္စည်းဥစ္စာ ရတနာ အားလုံး ဘိုးဘိုးကြီး ဘိုးဘိုးလေးတို့ အမှူးပြုတဲ့ နတ်အပေါင်းက ပေးသော ပစ္စည်း၊ ပိုင်သော ပစ္စည်းများပါ ဘုရား။ သဘောတော် ကျသော စီမံတော်မူပါ၊ စီရင်တော်မူပါ။

လက်မှာ ပုတီးပတ်လျက်နဲ့ နန်းကြီးရှိရာကို လှမ်းပြီး ဒေါ်စီကျိန်း ရှိခိုးတိုင်တည်ပြန်တယ်။ ပြီးတော့ ပုတီးကို ဆက်စိပ်ပြန်တယ်။ ဘယ် နှနာရီတွေများ ထိုးကုန်ပါလိမ့်တုံး။ အချိန်မနည်းတော့ဘူး။ အင်း... သင်ပြန်လာမှာ မဟုတ်တော့ပါဘူး။ တစ်ညအိပ်ပဲလား၊ တစ်ခါ တည်း သွားတာပဲလား မသိတာ။

ကဲ... ကျိန်းစဘွန်းမကြီး စိတ်လျော့ဟဲ့၊ စိတ်လျှော့။ သင်ဖြူး လေးခေါင်းရင်းက ကြိမ်ခေါင်းအုံးလေးပေါ်ကို ဒေါ်စီကျိန်း ခွေခွေကလေး လှဲချလိုက်တယ်။ ထမင်းလည်း စားချင်တော့ပါဘူး။ အရင်တုန်းကဆို "ငါက ထမင်းလက်ဆုံစားရမှ ပျော်နေဘိ၊ အချိန်နဲ့ပြန်လာ" လို့ ပြောထား တဲ့စကားကို တစ်သဝေမတိမ်း ဘယ်သွားသွား၊ ဘယ်နိုင်းလိုက် နိုင်းလိုက် ထမင်းစားချိန်ဆို တိခနဲ ပြန်ရောက်လာတာပဲ။

ဘုရား... ဘုရား၊ ဘုရားပါ ဘုရား၊ တရားပါဘုရား၊ သံဃာပါ ဘုရား။ ဘုရားစာရွတ်ရင်း ဒေါ်စီကျိန်းအိပ်ဖို့ ကြိုးစားတယ်။ မြေးသလုံး တွေက ညောင်းလိုက်တာဆိုတာလည်း မပြောနဲ့။ တစ်နေ့လုံးထိုင်ပြီး ပေါ်ပြော ကြော်လော့်နေရတာကိုး။ မွေ့စားသားတော ရှာရတာလေ။

ဓမ္မစားသားစာ ဝဋ်ပေါ့။ ဝဋ်... ဝဋ်။

အရင်ကဆို ညောင်းတယ်ဆိုတာနဲ့ နှိပ်ပေး၊ နယ်ပေး၊ ဖက်ကြော ဆွဲပေး များလို့၊ တော်ပါပြီ၊ သင်းအကြောင်း မတွေးတော့ပါဘူး။ တစ်ခုပဲ၊ သင်းသာ ပြန်မလာတော့ဘူးဆိုရင် သင်းလုပ်ပုံကြောင့် အရှက်ကွဲရမှာ တစ်ခုပဲ။ ဒေစီကျိန်းတော့ ကြီးတောင့်ကြီးမားကျမှ လင်ပစ်သွားပြီ၊ ကောင်လေးက သူ့တက်ပွဲတောင် မနေဘူး၊ ပစ္စည်း တွေလည်း ပါသွားသတဲ့ ဆိုပြီး မိန်းမလျှာတွေကြားမှာ အတင်းချ ခံရမှာ၊ အို... ကျိန်းစတွန်းမပါတဲ့၊ ပြောချင်တာ ပြောကြ၊ အေး... ကြားအောင်သာ မပြောနဲ့၊ ဖရောဖောင်ဗရာ စုံနေအောင် တုတ်ပစ် လိုက်မယ် မှတ်ထား။ ဘုရားစာရယ်၊ ဒေါသရယ်၊ မောဟရယ်၊ ညောင်းညာတာရယ် ပေါင်းပြီး ဒေစီကျိန်းမျက်လုံးတွေ လေးလာပြီး မှေးခနဲဖြစ်ရ ရှိသေးတယ်၊

မင်းမင်း... မင်းမင်းတဲ့၊ ဟော... သူ၊ သူ ပြန်လာပြီလား။ ဘယ်လိုလုပ်ပြီး ဒေစီကျိန်း လှုးလဲထထိုင်လိုက်မိမှန်း မသိဘူး။ ဟင်း... သေချာပါ့တော်၊ သင်းပြန်လာပြီ၊ သင်း အသံသြသြကို ခွေးရှိသွားတောင် မှတ်မိပါ့၊

"ကိုဘစီ... ကိုဘစီ အိပ်ပျော်နေသလား။ မင်းမင်း ပြန်လာပြီ"

"အေး... သိတယ်"

အဖိုးကြီးကို ပြန်ပြောတဲ့ ဒေစီကျိန်းအသံက ဘာမှ ထူးထူးခြားခြား မဖြစ်တဲ့အသံ။ ဒါပေမယ့် ရင်ထဲက အပူလုံးကြီး တရွေ့ရွေ့ကျသွားတဲ့ အသံကို ကိုယ့်ဘာသာကိုယ် ပြန်ကြားရပါတယ်၊

မျက်လုံးတွေကို ကပျာကယာ ပွတ်သပ်ပစ်လိုက်ရင်း ဝရန်တာက မနေ အိမ်ထဲကို ဒေစီကျိန်း ဝင်လိုက်တယ်။ တံခါးပေါက်ဝမှာ ခြင်းကြီး နှစ်လုံးကို မနိုင်မနင်း ဆွဲတက်လာတဲ့ မင်းမင်းကို မြင်လိုက်ရတယ်။

"ဟဲ့… ဘယ်အချိန်ရှိနေပြီတုံး၊ နင့်ဥစ္စာက"

မင်းမင်းက မျက်နှာမကြည်မသာနဲ့ ခြင်းနှစ်လုံးကို စပ်ထောင့်ထောင့်လေး ကြမ်းပေါ်ချတယ်။ စလွယ်သိုင်းလာတဲ့ သားရေအိတ်ကို ဖြုတ်တယ်။

"စုမှ ရှစ်နှာရှိပဲ ရှိသေးတယ်။ ဈေးဝယ်စရာတွေကဖြင့် အများကြီး၊ ခင်ဗျား သစ်ခွပန်းရှာရတာကိုက အကြာကြီးပဲ၊ သေချင်စော်ကို နံရော၊ အိမ်ကနေပြီး ဘာမှလည်း မသိဘဲနဲ့၊ အပြစ်တင် ပြောဖို့ပဲ"

"ဟဲ့… သစ်ခွပန်းမရတော့ ဘာဖြစ်မှာမို့လဲ၊ တခြားပန်းပန်ရတာပဲ။ မလွယ်ရင် မဝယ်နဲ့လို့ နင့်ကို ငါ မမှာဘူးလား ပြော…"

"ပြောလိုက်ရင် ဒါမျိုးပဲ။ နှာမည်ကြီးတစ်လုံးနဲ့ လုပ်နေပြီး ခင်ဗျား တက်ပွဲမှာ သစ်ခွပန်းလေလောက်မှ မပန်ရင် ကောင်းမလား။ ပုဆိုးအဝါနဲ့ ပန်ဖို့က ပင့်ကူသစ်ခွ လွယ်လွယ်နဲ့ရတယ်။ ပုဆိုးရေမ်းရောင်၊ ချိတ်အနီရယ် တွက်ရှာရတာ။ ရေမ်းသစ်ခွနဲ့ အဖြူသစ်ခွက ရှာလိုက်ရတာဆိုတာ မြေတွေထိ ရောက်တယ်"

ဒေစီကျိန်းတစ်ယောက် ငြိမ်သက်သွားရင်း မိန်းမ မျက်စောင်းတစ်ချက်ကိုပဲ မဲ့မဲ့ရွဲ့ရွဲ့ ထိုးနိုင်တော့တယ်။ ကျေနပ်နေတဲ့ မျက်နှာက မရှိမရှည်၊ မပြုံးတပြုံး၊ မှန်းဖို့ကောင်းတယ်။ တစ်ခါတည်း တက်ပွဲဝတ်ဖို့ ပုဆိုးတွေ သူ့ဟာသူ စီစဉ်၊ သူ့ဟာသူ စီမံ၊ ကိုယ်ကြိုက်တာကိုယ်မဝတ်ရတော့ဘူးလား ဘုရား။ သူ့သဘော၊ သူ့စိတ်ကြိုက်၊ သူ့အမိန့် မပြောလိုက်ချင်ဘူး။ လူကို ဝေါက်ရတာနဲ့ ငမ်းရတာနဲ့ အရှင်သခင်ကြီးပေါ့လေ။ ကြည့်ပါလား၊ ပုံစံကိုက၊ ဟိုဟာနန်းတာနဲ့များ တခြားစီ… တခြားစီ။ အဝေးအဝေးချင်း ဘာမှမဆိုင်တော့ဘူး။ အိန္ဒိယပလေကာပ်အပြာနဲ့၊ ဝိုရှုပ်အပြာစင်းနဲ့၊ နှာစီးနဲ့၊ တစ်ကျပ်သားဆွဲကြိုးနဲ့၊ လက်စွပ်နဲ့၊ ဟန်းချိန်းနဲ့၊ ကိုယ့်ငါးချဉ်မို့ ကိုယ်ချဉ်တာ

မဟုတ်ပါဘူး။ ချောကို ချောတယ်၊

"ဟော... လုပ်ပြီ၊ ခင်ဗျားကတော့ ဖောင်းထဲက ဖိုက်ဆံတွေ လည်း မသိမ်းဘူး။ ဒီတိုင်းကြီးထားတယ် ဟုတ်လား။ ထား... ထား... ဒီလိုသာထား သိလား"

"ဟဲ့... ဘယ်သူမှ မယူဘူး။ အိမ်ပေါ်မှာ ငါတစ်ယောက်တည်း ရှိနေတဲ့ဟာ၊ ဘယ်သူ လာယူမှာလဲ"

"ဪ... ဟုတ်တယ်၊ ခင်ဗျားရှိပေမယ့် ခင်ဗျားက ဇရန်တာ ထွက်အိပ်နေတဲ့ ဥစ္စာ၊ ဒီနားက ပစ္စည်းတွေ အကုန်လုံး မ သွားတောင် သိမှာမဟုတ်ဘူး"

ကဲ... ပြော... ပြော၊ သူပဲ အသိ၊ သူပဲအတတ်၊ အို... ကိုဖိုးသိ၊ ကိုတတ်ပ၊ ဟင်း... လူကိုများ ဇရန်တာ ထွက်အိပ်နေ သတဲ့။ ထွက်အိပ်နေတာ မဟုတ်ဘူးရှင်ရေ၊ ထွက်မျှော်နေတာ။ ထွက် မျှော်နေတာ။ ရှင့်ကို ထွက်မျှော်နေတာ။ ဖောင်းထဲက ဖိုက်ဆံတွေ လည်း သိမ်းနိုင်ပေါင်ဘူး၊ ယူချင်တဲ့လူ အကုန်ယူပေါ့။

"ကားက အရေးထဲ စက်ပျက်နေသေးတယ်။ ထမင်းဆာလိုက် တာ လွန်ရော၊ ခင်ဗျား စားပြီးပြီလား"

ဒေစီကျိန်းက မူနွဲ့နွဲ့ မိန်းမပျက်ဖောင်းတစ်ချက် လှလှပပ ထိုး ပစ်လိုက်တယ်။ ရင်ထဲမှာ ဘုရားပွဲလှည့်သွားပေမယ့် ဒေစီကျိန်းရဲ့ပါးစပ် ဝေသီလေးက မနေသေးဘူး။

"နင် ဘယ်မှာမှ မစားခဲ့ဘူးပေါ့လေ ဟုတ်လား"

"ဪ... ဟုတ်တယ်၊ ကျုပ်က ဘယ်က စားခဲ့ရမှာလဲ"

"မသိဘူးလေ၊ နင့်မှာ ရှိချင်ရှိမှာပေါ့၊ ဟင်း... မစားခဲ့ဘူးလို့ နင် ကျိန်ရဲလား။ ကဲ..."

"ဟာဗျာ၊ ထမင်းဆာရတဲ့အထဲ။ မသိဘူးဗျာ၊ မကျိန်ဘူးဗျာ"

ဒါပဲ၊ သူ့ပြောလိုက်ရင် ဒါပဲ၊ စိတ်ဆိုးရတာနဲ့ စိတ်တိုရတာနဲ့။

"ဟဲ့… အဖုံကြီးရေ၊ တို့ ထမင်းစားမယ်ဟေ့။ အိမ်ပေါ်ယူခဲ့၊ ကဲ… ရေချိုးဦးမှာလား၊ သွား…"

မင်းမင်းက ဒေစီကျိန်းကို ဘာမှမပြောတော့ဘဲ ရေချိုးဖို့ ဆင်းသွားတယ်။ မှုန်တေတေနဲ့ ရိုက်ချင်စရာ တော်တော်ကောင်းတဲ့ ကောင်လေး။

အဖုံကြီး လာချတဲ့ ပုစွန်ချဉ်သုပ်ပန်းကန်ထဲက တစ်ဇွန်းကို ဆိုး ဆိုးဆတ်ဆတ် ကော်စားမိတော့မှ ဒေစီကျိန်း ဗိုက်ထဲမှာ တအား ဆာလာတယ်။

ခြော်… ရနကာတော့ ရင်ပြည့်သလို ရင်ကယ်သလို ဘာမှမစား ချင် မသောက်ချင်၊ စိတ်… စိတ်၊ ငါးဆယ်ကျော် ကျိန်းစွေန်းမကြီး ခံပေဦးဟဲ့… ခံပေဦး။



## ချိုးရေတော်သုံး
## ဝါခေါင်လဆန်း (၁၁) ရက်

*“တစ်မြို့စိုခြားပေမယ့် ပေါ်ကချစ်သူ သူ့ကိုသာလေ ကျွန်းမော တော်မှုပါစ... လေလှိုင်းကြားက ခွန်းဆင့်ပါရဲ့ဗျာ ချစ်သူမောင်ရေ... ချစ်သူမောင်ရေ... ပေါ်စည်ပါတွန်းတာလေ တောရွာတောတောင် တို့တွေမှာလေ ခုမှားတော့ မမှအား... မမှသားနိုင်ရက်ပေ... မောင့် ကိုချစ်တာ တစ်ခုပဲသိတယ်လေ မမေ့ဘာအသစ်ချ... ဝေးတစ်မြေ ခြားသူ မောင်ရေ”*

အတက်ကျက်ရည်းလာတဲ့ ချိုးရေတော်သုံးနေ့ရဲ့ အသံမျိုးစုံ ကြားကနေ ပေါ်တစ်လှည့် ပျောက်တစ်လှည့် ထွက်ပေါ်နေတဲ့ သီချင်း သံကလေးဟာ ရှုံ့နွဲ့ဝေဆွေးမြည့်လို့ နေတယ်။

ကနားတဲတန်းရှည်တွေ ကြားကနေ တရွေ့ရွေ့သွားနေတဲ့

ချွန်နွဲ့သံလေးကို ကြားတဲ့သူတိုင်း နားမထောင်ဘဲ မနေနိုင်ပါဘူး။

*"ပိတောက်ပန်းတွေ... ပင်ယံနန်းမှာလေ... လျှမ်းတောင့်လို့နေ... ငယ်ချစ်မေ့မှာရော..."*

ချွန်နွဲ့သံလေးမှာ တရှန်းရှန်းစည်ကားဆူညံနေတဲ့ ဒေစီဂျိန်းရဲ့ အိမ်တံခါးဝအရောက်မှာ မှိန်ဖျော့သွားခဲ့ရှာတယ်။

ဒေစီဂျိန်းရဲ့ညနေပိုင်း တက်ပွဲအတွက် ရောက်လာကြတဲ့ ဆွေမျိုးအုပ်စုနဲ့ ခြံဝင်းထဲမှာ ပြည့်နေခဲ့တယ်။ ဒေစီဂျိန်းရဲ့ နတ်မိတ်ဆွေတွေကလည်း အိမ်ပေါ် အိမ်အောက်မှာအပြည့်။ ထမင်းကျွေးရတဲ့သူတွေကလည်း ခုချိန်ထိ မစဲသေးဘူး။

ညနေတက်ပွဲအတွက် စပြီး ပြင်ဆင်နေတဲ့ ဒေစီဂျိန်းရဲ့ဘေးမှာလည်း ဒေစီဂျိန်းပရိသတ်က ဝိုင်းအုံထားကြတယ်။

အိမ်အောက်ထပ်က ကွပ်ပျစ်ရှည်ကြီးပေါ်မှာ ဒေစီဂျိန်းရဲ့မိတ်ကပ်သေတ္တာအနီထဲက တန်ဖိုးကြီး မိတ်ကပ်ပစ္စည်းတွေ ပြန့်ကျဲလို့နေတယ်။ မိတ်ကပ်လိမ်းပြီးစ နီရဲနုရွနေတဲ့ ဒေစီဂျိန်းရဲ့မျက်နှာဖော့ဖော့မှာ ဆွေမျိုးမိန်းကလေးတစ်ယောက်က မျက်တောင်တု တပ်ပေးနေတယ်။

"ဟဲ့... မနက်က ချိုးရေတော်သုံးတာ မြင်ခဲ့ရရဲ့လား။ လူတွေက အများကြီး၊ အတင်းတိုးရတာ၊ ခါးပိုက်နှိုက်ခံရသေးလား"

မျက်နှာဖော့ထားရင်းက ဒေစီဂျိန်း ထုံးစံအတိုင်း ပြောချင်ရာတွေက ပြောရသေးတယ်။

"ဟာ... ဘာကိုမှ ကောင်းကောင်းမမြင်ရပါဘူး။ တဲနန်း ဘေးပတ်ပတ်လည် လူတွေက အုံထားလိုက်တာ နည်းတာ မဟုတ်ဘူး"

"အေး... ပြောတယ်မဟုတ်လား။ ဒါကြောင့် ချိုးရေတော်သုံးတဲ့နေ့ဟာ ပွဲတော်မှာ အစည်ကားဆုံးနေ့လို့။ ဟဲ့... ကောင်မ၊ ဒီဘက်

မျက်စေ့တောင် မညီသေးဘူး။ ပြန်လှပ်ဦး၊ နာနာကပ်နေဘ်၊ ပြုတ်ကျလို့ အရှက်ကွဲနေဦးမယ်”

ဒေစီကျိန်းက သူ့မျက်တောင် အနေအထားကို မှန်ထဲမှာ သေချာ ပြန်ညှိတယ်။

“ဟဲ့... အရင်တုန်းကဆို ပိုတောင်ဆိုးသေးတယ်။ ဟိုတုန်းက ဒီလိုတဲနန်းထဲမှာ ချိုးရေတော်သုံးတာမှ မဟုတ်ဘဲ၊ မြစ်ထဲထိ ဖောင်နဲ့ ဆင်းပြီး ချိုးရေတော်သုံးတာ။ မင်းနှစ်ပါးကို နန်းကြီးကနေ ဖဝါ တော်နဲ့ ပင့်ပြီး ဖောင်တော်ဆင်းရတာ။ အို... အဲဒီတွက်တဲ့အချိန်ဆို ဆိုးလိုက်တာမှ လမ်းဘေးဝဲယာက လူတွေက မင်းနှစ်ပါးကို ကန်တော့ ကြရင်း ဖဝါတော်ကို လက်နဲ့ထိကြတာ၊ ပန်းတွေဆက်ကြတာ၊ ပိုက်ဆံ တွေ ဆက်ကြတာ၊ ဖဝါက ရှေ့တိုးလို့ကို မရတော့ဘူး၊ တစ်ခါတည်း ဖဝါထမ်းတွေက ကြိမ်ကိုင်ပြီးတော့ကို လမ်းရှင်းရတာ။ အမယ် လေး... အဲဒီအချိန် ဖဝါထမ်းကြီးတွေက ကြောက်စရာကြီးတွေ။ သူတို့က အဲဒီအချိန်မှာ ရှေ့က လမ်းပိတ်တဲ့သူ မှန်သမျှကို ရိုက်ပြီး ရှင်းရှင်း၊ သတ်ပြီးရှင်းရှင်း ဘာအပြစ်မှ မရှိဘူး။ ဖဝါပေါ်မှာလည်း မင်းနှစ်ပါးပုံတော်တွေကို ဖက်ပြီး လိုက်ရတာ။ လူတွေက အဲလောက် ဆိုးတာ။ ဒါပေမယ့် မြစ်ထဲကျတော့လည်း ကိုယ်တော်တို့ ချိုးရေတော် သုံးတာ သိပ်လှမ်းစရာကောင်းတာ။ နုလို ရေထတဲ့အချိန် သိပ်ပျော် စရာ ကောင်းတာပေါ့။ ရေထတော့ ကျောက်ရှုးရှင်များ ဖောင်ဆင်းတဲ့အခါ ကျတော့ ရေဆိပ်တင် ဖောင်ဆိုက်၊ ဖောင်ကို ထိုးတင်ပြီးတော့ အကုန် လှေနဲ့လိုက်ရတာ။ ရေမထတဲ့အခါကျတော့လည်း ဆိုးပေါ့။ ခွက်ထဲ ဆင်းရသေးတာ၊ ရေရတဲ့ထိ၊ ဆင်းပြီးတော့ ဖောင်ဆိုက်ထားတဲ့ ဆီရောက်၊ အဲဒီဖောင်နဲ့ နတ်သစ်ပင်ထိ ထွက်ရတယ်။ အဲဒီတော့မှ အဲဒီနားတစ်ဝိုက် ကျွန်းထဲက ရွာတွေက ရေလဲပိုင်းတို့၊ မျက်နှာသုတ်

ပဝါတို့၊ ရေမောင်လဲပုဆိုးတို့ကို ဖလှနဲ့ထွက်ပြီး ဆက်ရတာ။ အဲဒီလူတွေက ရိုးရာသသမားတွေ၊ ရေလဲတော်ဆက်တဲ့ ရိုးရာတဲ့။ ၇ မြစ်ထဲ မဆင်းတော့လည်း ဒီနန်းပေါ်ကို မနေ့ညကတည်းက လာပို့ထားရတာ၊ အများကြီးရှိတယ်။ ရိုးရာသသမားတွေ၊ ဖောင်တုပ်တို့၊ အနီးပို့တို့၊ ဖောင်ဆွဲတို့ အဲဒါတွေက နှစ်စဉ်လာရတာ။ ဘယ်အရပ် ရောက်နေနေ ရိုးရာမပျက်ရဘူး။ လာရတာ။ ဟဲ့... မှတ်ထား၊ ကိုယ့်ရိုးရာကို မမေ့စေနဲ့၊ ဂရုစိုက်ကြားလား။ အေး... ကိုယ့်လင်ကိုလည်း မမေ့စေနဲ့ ဒါပဲ"

ဒေစီဂျိုန်း ထုံးစံအတိုင်း အကောင်းပြောနေရာက ဖောက်သွားပြီ။

လင်ကြောင်း သားကြောင်း ရောက်သွားပြီ။ ဒေါ့ကော မိန်းမအုပ်စု နဲ့ လင်ကြောင်း သားကြောင်းပြောပြီး တဟားဟား လုပ်တော့မယ်။

"... *တို့ငယ်စဉ်တုန်းကလေ... ဝိတောက်တွေ ပွင့်ရင်လေ... လွမ်းသလိုနဲ့... တွေးသလိုပါမောင်ရေ...*"

တွေးမြေ့နေတဲ့ အသံကလေးက ဒေစီဂျိုန်းရဲ့ အိမ်ခြံဝင်းထဲကို သနားစဖွယ် ဝင်ရောက်လာခဲ့တယ်။

အသံလေးရဲ့ ဆွဲဆောင်မှုကြောင့် ဒေစီဂျိုန်းရဲ့ ခြံဝင်းတံခါး ပွင့်သွားတယ်။ လာပါပြီ။ ဒီကို လာပါပြီဆိုတဲ့ အသံ...

"ဂျိုန်း... အဲဒါဘာလဲ"

တွေ့မျိုးမိန်းမတစ်ယောက်ရဲ့ မအူမလည် အမေးကို မျက်နှာပေါ် အပြောတင်နေတဲ့ ဂျိုန်းက ဖြေတယ်။

ဒေစီဂျိုန်းရဲ့တံခါးဝမှာတော့ သီချင်းသည်အဖွဲ့လေးက တုတ်တုတ်လေး ထိုင်လို့နေကြပြီ။

အသားမည်းမည်းလုံးလုံး၊ ဆယ့်လေးဆယ့်ငါးနှစ်၊ ဝတုတ်တုတ် မိန်းကလေးက သူ့ရှေ့မှာ စဥ့်အိုးလေး အဝကို အဝတ်နဲ့ သားရေကျပ် ထားတဲ့ စဥ့်အိုးဝုံကလေးကို ချလို့။

အဲဒီကလေးရဲ့ ဘေးမှာတော့ ရွှဲနွဲ့ချွေးမြည့်တဲ့အသံ ပိုင်ရှင်လေး က လက်နှစ်ဖက်မှာ စည်းဝါးကလေးကို ကိုင်လို့၊ ကိုယ်လုံး သေး သွယ်သွယ်လေးကိုပဲ ကြည့်ပြီး ခန့်မှန်းရတဲ့ ဆယ့်ခြောက်၊ ဆယ့်ခုနစ် နှစ်အရွယ် မိန်းမငယ်လေးက ငုံ့ထားတဲ့ သူ့မျက်နှာကို ခေါင်းပေါက နေပြီး တစ်ဘက်တစ်ထည်နဲ့ ဖုံးအုပ်ထားခဲ့တယ်။

*"ဆံမြည့်စေ့မျှ... မေ့မရလေဘူး... အချစ်ဦး... နေ့နေ့ညည မပြောင်း... မုံးဆောင်းနေ့ဦး... မြေဦးတည့်ရာလိုက်လို့သာ... ရှာခဲ့ တယ် မောင်ရေ..."*

ရွှဲနွဲ့တဲ့အသံကလေးနဲ့ စည်းဝါးခေတ်သံ စလိုက်တာနဲ့ စဥ့်အိုးဝုံ လေးရဲ့အလိုက်သင့် တီးသံလေး ပေါ်လာတယ်။ တယောသံမျှင်မျှင် လေး နွဲ့နေသလို ဆိုတတ်တဲ့ မိန်းမငယ်လေးက ကျုံ့ကျုံ့လေး ငုတ် တုတ်ထိုင်ရင်း စည်းနဲ့ဝါးကို ငုံ့ထားတဲ့ ခေါင်းပေါ်မှာ တင်ထားတယ်။

*"ရာသီစွေ့စွေ့ လွမ်းတာမြေမြေ... မေ့ရင်မှာပူလောင် မောင်... မောင့်အချစ်များရှား... မောင့်အချစ်များရှား... ရှုးချပြီတောလေ..."*

ချွေးမြည့်နာကျင်နေတဲ့ အသံလေးဟာ မြဝင်းထဲက လူတွေ အားလုံးကို တုန်လှုပ်စေတယ်၊ အံ့သြစေတယ်။ ငြိမ်သက်လို့လည်း သွားစေတယ်။

*"ကန္တရ... ခရီးလမ်း... ကြမ်းတမ်းပါစေ...မောင်ရေ မောင် ရေ... ချစ်သူရဲ့... အချစ်ဝိညာဉ်ကလေး... နားဆိုရာနေရာ... ဟင်း... သို့မဟုတ် ချစ်သူနားဆိုရာနေရာ..."*

တယောသံမျှင်မျှင်လေးကို အသံနွဲ့ကလေးဟာ ကြားရတဲ့သူတိုင်း

ကို ဖမ်းစားနိုင်ပါတယ်။

ဂျိန်းယန်ဖို့ သစ်ခွစရမ်းလေးကို ပယ့်ပြင်ဆောင်ရင်း ရေချိုးခန်းဝမှာ ငြိမ်ရပ်နေမိရာက ထိတ်ခနဲ မင်းမင်း လန့်သွားတယ်။

အိမ်အောက်ကနေ မိတ်ကပ်မျက်နှာ၊ ပုဆိုးထဘီ ဗိုသီဖတ်သီနဲ့ ဒေစီဂျိန်းတစ်ယောက် ထွက်လာပါလေရောလား။ သူ့ထုံးစံအတိုင်း အော်ရျင်ရာအော်လိုက်လို့ကတော့ ပွဲပျက်ရချည့်ရဲ့။

ဘောက်ဆတ် ဘောက်ဆတ်နဲ့ ပျောက်သွားတဲ့ ဂျိန်း နောက်ကို မင်းမင်းက မြန်မြန်လိုက်တယ်။

*"မောင့်ကို ရှာမလေ... မောင့်ကိုရှာ...မလေ... ပြော်... မောင့် အချစ်မြားမွှေး... ရှုးရှူပြီတောလေ"*

စည်းဝါးသံလေး ရပ်သွားပြီး ရှုံ့မဲ့မဲ့အသံလေး ပျောက်သွားတယ်။ မြေကြီးပေါ်ချထားတဲ့ ချိုင့်လေးထဲမှာ ငါးကျပ်တန်၊ ဆယ်တန်တွေ ဟာဖွေးဖွေးကျလာတယ်။

ဟဲ့... ကောင်မလေးက အသံကောင်းသားပဲ။ ရပ်ကော ချောရဲ့လား။ ပြစမ်း... မျက်နှာကြည့်ရအောင်"

"ဒေစီဂျိန်း"

မင်းမင်း ဘယ်လိုမှ မတားလိုက်နိုင်ခင်မှာပဲ ဒေစီဂျိန်းက မိန်းမငယ်လေးရဲ့ခေါင်း အုပ်ဖုံးအုပ်ထားတဲ့ တဘက်ကို ဆွဲလှန်ပစ်လိုက်တယ်။

ဒီခဏဟာ မင်းမင်းအတွက် ဘယ်တော့မှ မေ့ပျောက်လို့ မရမယ့်ခဏဖြစ်သလို အပြစ်ကင်းစင်တဲ့ မျက်နှာပိုင်ရှင်မလေးအတွက်လည်း မေ့ပျောက်လို့မရမယ့် ခဏဖြစ်မယ်ဆိုတာ ဘယ်သူမှ မသိခဲ့ကြပါဘူး။

မျက်နှာလေးက ချောမောအပြစ်ကင်းလွန်းတယ်။

မျက်ခုံးနက်နက်ကလေး နှစ်ခုကြားမှာ မှဲ့နက်တလေးက

ထင်းထင်းကလေး။

မျက်ရည်ဝိုင်းနေတဲ့ မျက်လုံးလေးတစ်စုံက သနားစရာကလေး။

"ဟဲ့... ရုပ်လေးချောသားနဲ့ တဘက်ကြီးကို မဖုံးစမ်းပါနဲ့ဦး၊ နင့်နာမည် ဘယ်သူလဲ ပြောဦး"

"ပန်းညို"

"ဟင်... နင့်နာမည်ကလည်း ပန်တော်ပန်းနာမည်ကြီး။ ဘာလို့လဲ၊ ဒီပွဲလာရင်း မွေးလို့လား"

"မဟုတ်ပါဘူး"

"ပန်းညို"လို့ တိတ်တိတ်ကလေး ခေါ်ကြည့်နေတဲ့ မင်းမင်းရင်ထဲကို ဒေစီကျိန်းရဲ့အသံက ဖျက်လိုဖျက်ဆီး ဝင်လာတယ်။ ဘာတွေ လျှောက်ပြောနေမှန်းလည်း မသိဘူး။ ကောင်မလေး ကြောက်နေပြီ၊ အသံလေးတွေ တုန်လို့။

"ဟဲ့... နင် ဒီလိုပိုက်ဆံမကောင်းဘဲ အဆိုတော်တွေ ဘာတွေ လုပ်မလား။ အငြိမ့်ထဲမှာလေ၊ ဒီမှာ လာစမ်းပါဦး ဇာတ်ဆရာကြီးရဲ့၊ ဒီကောင်မလေး၊ မဖြစ်နိုင်ဘူးလား၊ ဖြစ်နိုင်ရင် ခေါ်သွားပါလား။ အဆိုတော် လုပ်ခိုင်း၊ မင်းသမီးလည်း ကရိုင်းပေါ့၊ ကျုပ် ထိုင်မသိမ်းတစ်စုံ ပေးမယ်။ ဘယ့်နှယ့်လဲ"

ဒေစီကျိန်းမိတ်ဆွေ ဇာတ်ဆရာက ပြုံးနေတယ်။ ဒေစီကျိန်းကို ကြောက်ရှာတဲ့ ပန်းညိုလေးကတော့ ဒေစီကျိန်း ခြံဝင်းထဲက ထွက်ဖို့ပြင်တယ်။

"ဟာ...နေပါဦး၊ ထိုင်ပါဦး ကလေးမရဲ့"

ခြံဝင်းထဲက ပရိသတ် တောင်းဆိုသံကြောင့် ပန်းညိုကလေး ပြန်ထိုင်တုန်းမှာပဲ မင်းမင်းအသံက အလျင်စလို ပေါ်လာတယ်။

"သူတို့ ထမင်းစားပြီးပလား မသိဘူး။ မစားရသေးဘူးနဲ့

တူတယ်။ ဟင်း... ဒီမှာ စားလိုက်ပါလား။ စားပြီးမှ ဆိုပေါ့"

မင်းမင်းဆီကို အကြည့်လေးတစ်ခု ပျတ်ခနဲ ရောက်လာပြီး ပျောက်သွားတယ်။ ပြီးမှ အသံတိုးတိုးလေး ထွက်လာတယ်။

"ဟိုကျမှပဲ စားတော့မယ်၊ ပန်းညိုတို့ကို အသွားက ဇရပ်က စောင့်နေမှာ"

"ဟာ... နစ်ချက်လောက် တိုးတော့မယ်"

"ရပါတယ်"

"ဟဲ့... သူတို့ကို ဟင်းထည့်ပေးလိုက် မင်းမင်း"

ဒေစီဂျိန်းက လှမ်းအော်ပြန်တယ်၊ ထည့်ပေးမှာပေါ့။ ကောင်မလေးအတွက် ဟင်းတွေ အများကြီး ထည့်ပေးရမှာပေါ့။ အများစားတဲ့ ပဲကုလားဟင်းအပြင် ကြက်သားကြော်လည်း ထည့်ပေးလိုက်တယ်။ ပြီးတော့ ဒေစီဂျိန်းအတွက် သီးသန့်ချက်ထားတဲ့ ပြည်ပန်းညို ဟင်းချိုလည်း ထည့်ပေးရမယ်၊ ပြည်ပန်းညို ဟင်းချိုဟာ အသံသမားတွေ ကောင်းတယ် ဆိုတာလည်း ကောင်မလေး သိမှာမဟုတ်ပါဘူး။ ဟိုက ဒီကပေးတဲ့ ဟင်းတွေနဲ့ပဲ စားရတာကို။ ဘုရားပေးတဲ့ အသံလေးကိုတော့ ဂရုစိုက်သင့်တယ် ပန်းညိုရဲ့၊

*"တကယ်တော့ ကျောက်တုံးသမားများဟာ... လောပန်လောင်းတွေပါ... တစ်နေ့နေ့... တစ်ချိန်ချိန် သိန်းကျောက်ရရင်... လောပန်ဖြစ်ပြီပေါ့"*

ဗီးဖိုထဲမှာ ဟင်းထည့်ရင်း မင်းမင်း လေလိုက်ချွန်တယ်။ ကြည့်စမ်း... ကောင်မလေးက ဒီသီချင်းမျိုးလည်း ပိုင်ပိုင်နိုင်နိုင် ဆိုတတ်တယ်။ ရွှဲနှဲ့နှဲ့အသံလေးကနေ ချိုရှင်ရှင်အသံလေးကို ပြောင်းပြီးတော့ ဆိုတယ်။ ကာဝေမလေးပဲ၊ လူတွေကို ပြုစားနိုင်တဲ့ ကာဝေမလေးပဲ။

*"အကြိုကုန်ရင်... သံတိုင်ရှောင်... ဆန်ကုန်တော့... လောပန်*

*ပြောင်းတဲ့... ဖိုးသမား ဘဝကတော့... ကျွန်တော်လည်း အဖြစ်မခံပါ... ဟိုကျင်းမရရင် ဒီကျင်း... ကျင်းခေါင်းတစ်ထောင် ကန်အောင်တူးမယ်... ကျောက်တူးသမားပါကွာ..."*

ပိုက်ဆံထည့်တဲ့ ချိုင့်ထဲကို ငါးကျပ်တန်၊ ဆယ်တန်တွေ ကျလာပြန်တယ်။ လေးဆယ့်ငါးကျပ်တန် နှစ်ရွက်ကို ထပ်ခေါက်ပြီး ချိုင့်ထဲကို ဖျတ်ဆို မင်းမင်း ပစ်ထည့်လိုက်တယ်။ ဒေစီဂျိန်း မြင်သွားလို့ကတော့ အသဲလွယ်လိမ့်မလဲ။ သူ ကြော်လော့်ထားတဲ့ ပိုက်ဆံကို ဒီလို ပက်ခနဲ သုံးရသလားဆိုပြီး ပုဆိုးထဘီကို အလံစိုက်လိုက်ပါလိမ့်မယ်။

"ရော့... ညီလေး၊ ဒီမှာ ထမင်းနဲ့ဟင်း၊ ကောင်းကောင်း ကိုင်နော်၊ အရည်တွေ ဖိတ်ကုန်မယ် သိလား"

ကောင်လေးက မင်းမင်းပေးတဲ့ ထမင်းဟင်း ကြွပ်ကြွပ်အိတ်တွေကို စုကိုင်ပြီး ပန်းညိုတို့သုံးယောက် ခြံဝင်းအပြင်ဘက်ကို ထွက်ကြတယ်။ ခြံဝင်းတံခါးကို လိုက်ပိတ်ရင်း မင်းမင်းက တိုးတိုးကပ်ပြောလိုက်တယ်။

"ပန်းညိုအတွက် ပြည်ပန်းညိုဟင်းချို ထည့်ပေးလိုက်တယ်၊ အသံမဝင်ဘူး သိလား"

တဘက် ဖုံးအုပ်ထားတဲ့ ခေါင်းကလေးက ညိတ်လိုက်တာလား၊ ငုံ့လိုက်တာလား မသိ၊ ခေါင်းကလေး လှုပ်ရှားသွားတာကိုတော့ မင်းမင်း မြင်ရတယ်။ ကာဝေမလေးက နောက်ကိုတော့ လှည့်မကြည့်ခဲ့ပါဘူး။

"မင်းမင်း၊ အို... မင်းမင်း"

ကြည့်ပါလား၊ ခေ့ာ်ပြီး အဘွားကြီး မကြီးနဲ့တော့ မလွယ်ဘူး။ ခဏကလေးတောင် အလစ်မပေးဘူး။

"ဘာလဲ... ဘာလဲ"

အိမ်အောက်ထဲ မင်းမင်း ဝင်လိုက်တယ်။ ဒေစီဂျိန်းက နှုတ်ခမ်းဆိုးနေရာက နှုတ်ခမ်းနီဘူးကို ပိတ်လိုက်တယ်။

"ဟဲ့... ဘာလဲရမှာလဲ။ ငါဝတ်မယ့်ဟာတွေ ယူခဲ့လေ။ လက်ဝတ်လက်စားတွေပါ ထုတ်ခဲ့၊ ပန်းရော ဘယ်မလဲ၊ ခေါင်းပေါင်းမယ့်ပဝါရော"

"ရှိတယ်၊ အကုန်အဆင်သင့်။ ခင်ဗျားအချိန်ကဖြင့် အတော်ကြီးရှိသေးတယ်"

"ခု ဘယ်အချိန်ရှိပြီလဲ။ ကဲ... ကြည့်ပါဦး နာရီ"

"သုံးနာရီ ထိုးတော့မယ်"

"အေး... အဲဒါ တော်သလား ပြောပါဦး။ လေးနာရီ မထိုးခင်နန်းအောက် ရောက်နေရမယ့်ဟာကို။ အံ့သြပါရဲ့။ သွား... အားလုံးအောက်ချခဲ့"

မင်းမင်း အိမ်အောက်က လှည့်ထွက်တာနဲ့ မိန်းမတွေ ရယ်သံကြားရတယ်။ မင်းမင်း သိသားပဲ။ ဒေစီဂျိန်း မဲ့ရွဲ့ပြီး အမူအရာလုပ်ပြနေပြီလေ။ ရှေ့မှာ မပြောရဲလို့ နောက်ကွယ်ကနေ မဲ့ရွဲ့နေတဲ့မိန်းမအမူအရာမျိုးကို ဒေစီဂျိန်းက အလွန်လုပ်ချင်တယ်။ မိန်းမအစစ်တွေထက် သာအောင်ကို လုပ်ပြပါလိမ့်မယ်။

ပိုးပုဆိုး ခရမ်းရောင်၊ ပိုးအင်္ကျီ နို့နှစ်ရောင်၊ ခေါင်းပေါင်းပဝါခရမ်းနဲ့ သစ်ခွခရမ်း၊ ခြေအိတ်အဖြူ၊ ရွှေချည်ထိုး ခြေနင်းဖိနပ်အားလုံးကို ဒေစီဂျိန်းတေးမှာ စုပုံချလိုက်တော့ မင်းမင်းကို ဒေစီဂျိန်းကကျေနပ်တဲ့ မျက်စောင်းထိုးပြန်တယ်။

လက်ဝတ်လက်စားဘူးကို မင်းမင်းဖွင့်ပြီး ထုတ်နေတဲ့အချိန်မှာ ဒေစီဂျိန်းက ခေါင်းပေါင်း ပေါင်းတယ်။ နှစ်ပေါင်းမြောက်မြားစွာ

နတ်က စားလာတဲ့ နတ်ကတော် ခေါင်းပေါင်းကို ငါးခါလောက် ဖျက်လိုက်ပေါင်းလိုက် လုပ်နေကတည်းက မင်းမင်း သိတာပေါ့။

"ကဲ… ဖယ် ဖယ်၊ ကျုပ်ပေါင်းမယ်။ ခင်ဗျားနဲ့ကတော့ တက်ပွဲ တက်လိုက်ရမှာ မဟုတ်ဘူး"

ဒေစီကျိန်း မျက်နှာတစ်ခုလုံး ဝင်းပသွားပြီး ပြုံးပြုံးကြီး ဖြစ်သွားတယ်။ မင်းမင်း ဘာပြောပြော ဒေစီကျိန်း မမှုတော့ပြီ။ ခေါင်းကလေး ကို အလိုက်သင့်မော့ပေးရင်း မင်းမင်း ခေါင်းပေါင်းပေးတာကို ကျေနပ် သဘောကျလို့နေတယ်။ ကျေနပ်တဲ့ ဟန်ဆောင်မျက်စောင်း ထိုးလိုက်၊ ဟန်ဆောင်အမှုံအရှုံ့တွေကို လုပ်လိုက်နဲ့ မင်းမင်း စိတ်မပါ လက်မပါ ပေါင်းပေးတဲ့ ခေါင်းပေါင်း မျက်ရုံးနှစ်ဖက်ကို ဖုံးဖိပြီး ပတ်တီးစည်း သလို ဖြစ်နေတာကိုတောင် မသိကျိုးကျွန် ပြုံးနေတယ်။

ပြီးတော့မှ မင်းမင်း အပြင်ကောထွက်တဲ့အချိန် ဘေးနားက မိန်းမ တွေလည်း၊ လစ်တဲ့အချိန်လောက်မှ ပြတ်ဆို ခေါင်းပေါင်းကို ပြင်ပေါင်း လိုက်တယ်။ မြန်လိုက်သလားလည်း မမေးနဲ့၊ လှလိုက်သလားလည်း မမေးနဲ့။ ဒီလိုခေါင်းပေါင်းမျိုးကို အကြိမ်ပေါင်းထောင်ချီပြီး ပေါင်း လာခဲ့တဲ့ နတ်ကတော်ပဲ၊ မပေါင်းတတ်ဘဲ နေမလား။ သူ ပေါင်းပေး တာကို စံချင်လို့၊ သူ ယုယတာ၊ ဂရုစိုက်တာကို စံချင်လို့ပါ။

"ရော့…ရော့… ပုလဲကြိုး၊ ရေမ်းဆွဲ ဆွဲမှာဆိုရင် ပုလဲကြိုးကို အရှည်ပဲ ဆွဲတော့။ အုန်းဆံကြိုးအကြီးလည်း ဆွဲဦးမှာ မဟုတ်လား"

မင်းမင်း စီမံသမျှကို သဘော… သဘောဆိုတဲ့ မျက်နှာပေးနဲ့ ကျေနပ်လို့နေတယ်။

"ဟဲ့… ပန်းပန်ပေးဦး"

မိန်းမတစ်စုရဲ့ လှောင်ရယ်သံတွေကြားမှာ မင်းမင်းက ပန်းပန် ပေးရပြန်တယ်။ ပြီးတော့ ပုဆိုး ကွဝတ်ပေးရပြန်တယ်။

"ဟဲ့... ဟိုဟာမတွေ ပြင်ထား၊ ဆင်ထားကြ၊ ဘယ်နနာရီ ထိုးပြီလဲ၊ သွားမယ်နော်၊ ငါ့နံပါတ်ဘယ်လောက်...ဟဲ့"

"ဆယ့်နှစ်၊ ဆယ့်နှစ် လိုပါသေးတယ်၊ စုနက သွားမေးပြီးသား၊ နံပါတ်ရှစ် တက်နေတုန်း ရှိသေးတယ်"

"အေး... ပြီးရော၊ ပြီးရော ပွဲတွေရော၊ ပုဆိုးတွေရော၊ စားတော်စာတွေရော ပြီးပြီနော်"

"ဒါ ကျွန်တော့်အလုပ်ပါ၊ ခင်ဗျား ငြိမ်ငြိမ်နေစမ်းပါ"

"အို ငြိမ်နိုင်ပါဘူးတော်"

ဒေစီကျိန်းရဲ့ နောက်ဆက်တွဲစကားတွေကို မိန်းမတွေက အားပေးအားမြှောက် ရယ်လိုက်တာနဲ့ ဒေစီကျိန်းက ပိုဆိုးတော့တယ်၊ ပြောချင်ရာတွေ ပြောတော့မယ်၊ ပြောချင်ရာပြော ကိုယ်လုပ်ရမယ့် အလုပ်ကို မြုံးမြုံးကလေးနဲ့ မင်းမင်း လုပ်လို့ရပါတယ်၊ ကြာတော့လည်း မင်းမင်း အရေးထူခဲ့ပါပြီ၊ ဟိုတုန်းက ဆယ့်ခြောက်နှစ်သား အရွယ်မှာသာ နွားစိမ်း၊ နွားရိုင်းလေး မိန်းမတွေ အလယ်ကနေ ရက်ကြောက်ထူပူပြီး ထွက်ပြေးခဲ့ဖူးတာ၊ နောက်တော့လည်း ဒါတွေနဲ့ နေသားကျခဲ့ပြီ၊ ယဉ်ပါးခဲ့ပါပြီ၊

"နံပါတ် တစ်ဆယ်ရောက်တော့မယ်၊ နံပါတ်ကိုး တက်နေပြီ"

နန်းကြီးကို ခြေမြှန်တော်လွှတ်ထားတဲ့ အခြောက်မ တင်တင်မြရဲ့ အော်သံ ပျာပျာတာတာလေး ဖြတ်ဝင်းဝက ပေါ်လာတာနဲ့ ဒေစီကျိန်း တစ်အိမ်လုံး လှုပ်ရှားသွားကြတယ်၊

ရေမ်းရောင် ယောကျ်ားနတ်ဝတ်လဲတော်နဲ့ မင်းသားကြီးတစ်ပါးလို ချောမောခဲ့ညားနေတဲ့ ဒေစီကျိန်းက ရှေ့ဆုံးက ထွက်တယ်။ သူ့နောက်ကမှ တက်ပွဲဒကာနဲ့ ဒကာမတွေ ကန်တော့ပွဲ၊ စားတော်စာပွဲ၊ ပုဆိုးအုပ်တွေနဲ့ ဖောင်းတော်တွေ တင်ထားတဲ့ ရွှေကလပ်တို့၊ တေီးလင်

ပန်းတို့ကို တစ်ယောက် စီကိုင်ပြီး တန်းစီထွက်ရမယ်။

အားလုံးဟာ ကောင်းမေပူ၊ လူမေပူ၊ အဖိုးတန်မေပူဆိုတဲ့ အဝတ်အစား နဲ့ လက်ဝတ်လက်စားတွေကို တတ်နိုင်သရွေ့ ဝတ်ဆင်ထားခြင်းဖြင့် နတ်ကတော်ရဲ့ ဂုဏ်ရှိန်ကို မြှင့်စေတယ်။ ဘုန်းတန်ခိုးအာဏာကို မြှင့်တင်ရာ ရောက်တယ်။

"ဖိနပ်တွေ ချွတ်ခဲ့ကြနော်၊ ဖိနပ်မစီးကြနဲ့"

ထွက်ခါနီးမှာ မင်းမင်းက လိုက်အော်သတိပေးတော့ အဖိုးတန် အဝတ်အစားနဲ့ လိုက်လျောညီထွေအောင် စီးထားတဲ့ အဖိုးတန် ဖိနပ်တွေကို ချွတ်ခဲ့ကြရတယ်။

နန်းကြီးပေါ်မှာ ဖိနပ်ထားစရာ နေရာလည်း မရှိဘူး။ ဘယ်သူမှ လည်း စောင့်ပေးမနေနိုင်ဘူး။ ဖိနပ်ကြီးတွေ ကိုင်ပြီး နန်းကြီးပေါ် တက်လို့ ကိုယ်တော်နစ်ပါးနားက ဖြတ်လို့လည်း ဘယ်သင့်တော်ပါ့ မလဲ၊ အဲဒီတော့ ဖိနပ်မစီးဘဲသွားတာ အကောင်းဆုံးပဲ။

ခြံဝင်းထဲက ထွက်ပြီး နန်းကြီးကို သွားရာလမ်းတစ်လျှောက်မှာ ဒေစီကျိန်းနဲ့ နောက်လိုက် နောက်ပါများ တက်ပွဲထွက် မြင်ကွင်းကို ကနားတဲအားလုံးက ငေးမောကြည့်ကြတယ်။ တက်ပွဲမတက်နိုင်ရှာတဲ့ နတ်ကတော်လေးတွေက ကနားတဲ ရှည်မျောမျောလေးထဲမှာ တောင် မြှန်း လာစရိတ်ကို ကြွေခါက် နတ်ပဟာရှာနေရင်းကနေ ဒေစီကျိန်းကို အားကျ ငေးမောကြတယ်။

နန်းကြီးရဲ့ ဘေးပေါက်အောက်နားကို ဒေစီကျိန်းတို့ ရောက်တဲ့ အချိန်မှာ နံပါတ်ကိုး တက်ပြီးသွားလို့ နန်းကြီး ရှေ့ပေါက်ကနေ ဆင်းသွားပြီ။ နံပါတ်ကိုး ဆင်းသွားတော့မှ ဘေးပေါက်လှေကားမှာ တန်းစီထားတဲ့ နံပါတ်ဆယ့်တစ်တက်မယ့် နတ်ကတော်အဖွဲ့ကို လှေကားတံခါးပေါက် ဖွင့်ပေးတယ်၊ အဲဒီအချိန်မှာ နန်းကြီးနောက်

ဘက်ကနေ အဆင်သင့် စောင့်နေတဲ့ နံပါတ်တစ်ဆယ်က နန်းကြီးရဲ့ အရှင်နှစ်ပါးရဲ့ ရောက်သွားပြီ။

နန်းကြီးနောက်ဘက်ကို ဝင်မယ့် တံခါးပေါက်မှာ နန်းထိန်းမျိုးတွေထဲက တာဝန်ကျတွေ စောင့်ကြပ်ထားတယ်။ တက်ပွဲတက်မယ့် နတ်ကတော်နဲ့ အဖွဲ့ကလွဲရင် တခြားမည်သူ တစ်ဦးတစ်ယောက်မှ တက်ခွင့်မရှိဘူး။ အထူးစိစစ်ပြီးမှ တက်ခွင့်ပြုတယ်။

နံပါတ်ဆယ့်တစ် ဝင်သွားပြီးတဲ့အချိန်မှာ နန်းတော် ဘေးတံခါးပေါက်ကို ချက်ချင်း ပြန်ပိတ်ပစ်လိုက်တယ်။ နံပါတ်ဆယ့်နှစ် ဒေစီဂျိန်းတို့အဖွဲ့က ဘေးပေါက်လှေကားရင်းမှာ အဆင်သင့်စောင့်ကြရတယ်။

လှေကားရင်းကနေ ဒေစီဂျိန်းက နန်းတော်ကြီးဘေး ကနားတဲခန်းတွေဆီကို လှမ်းလက်အုပ်ချီတယ်။ နန်းတော်ကြီးဘေး ကနားတဲခန်းတွေမှာ မိဖုရားကြီးတွေနဲ့ နတ်နေကြီး၊ နတ်ဝါကြီး။ မောင်းတွေ ရှိတယ်။ နန်းတော်ကြီးပတ်လည် ကနားတဲခန်းတွေက ဗွီအိုင်ပီ ကနားတဲခန်းတွေပေါ့။ အလကားရတာတော့ မဟုတ်ဘူး။ သူတို့လည်း ငွေးပေးရတာပဲ၊ တစ်ခန်း နှစ်ထောင်ပေးရတာပဲ။ နေရာကောင်းရတာ တစ်ခုပဲ။ နေရာကောင်းတော့ နတ်မေးတဲ့သူ များများလာတာ ပေါ့။ မိဖုရားကြီးတွေလည်း၊ နန်းကြီးပေါ် မတက်ရတဲ့အချိန် ကြွေခေါက်ရတာပဲ။ မောင်းတွေလည်း၊ အတူတူပေါ့၊ ကြွေမခေါက် နတ်မပေးလို့ ပိုက်ဆံ ဘယ်ကရမလဲ။

"မာမီရေ လှတယ်"

အောင်မယ် ဘယ်သူပါလိမ့်လို့။ မော်လမြိုင် စိန်မမ။ ပြင်ထားဆင်ထားလိုက်တာ ဖိတ်ဖိတ်တောက်လို့ပါလား။

"အေး... နင်လည်း လှတယ်ဟဲ့။ ဟိုမင်းသမီးနဲ့ တူတယ်။ ဘယ်သူဟဲ့ ဘာဗို၊ ဟဲ့ ပြောစမ်း"

ဒေစီဂျိန်းကတော့ လှပ်လိုက်ပြီ။ ဘေးနားက "ထွန်းအိမြွာဝိုင်" လို့ အော်လိုက်တော့မှ…

"ဒေအား… အဲ့ဒီမင်းသမီးနဲ့ တူတယ်ဟဲ့ စိန်မမ။ နင်က ဆယ့်သုံး လား ဟုတ်လား"

"ဟုတ်တယ် မာမီ"

စိန်မမက ဒေစီဂျိန်းကို လက်အုပ်ချီ ကန်တော့ရင်း ဖြေတယ်။ ဒေစီဂျိန်းပြောသလိုပဲ စိန်မမက ထွန်းအိမြွာဝိုင် ပြင်ပုံ ဆင်ပုံ ဆံထုံး ထုံးပုံအတိုင်း တူအောင်ပြင်ထားတယ်။ ရယ်ပုံ၊ ပြုံးပုံ၊ စကားပြောပုံ အမူအရာတွေပါ တုထားတယ်။ သူက မိန်းမ နတ်ချေ့မှာဆိုတော့ မိန်းမပုံပဲ ဝတ်လာတယ်။ သူတက်မှာက "ချေ့ပွဲ"ပေါ့။ ဒေစီဂျိန်းတို့လို ယောက်ျားနတ် (ဦးမင်းကျော်) ချေ့မယ့်ဟာတွေကျ တက်ပွဲပေါ့။ ကြိုက်တာနဲ့ တက်လို့ရပါတယ်။ ကိုယ်သန်ရာ သန်ရာပေါ့။

ဟိုတုန်းကတော့ ချေ့ပွဲနဲ့ တက်ပွဲမှာ မိန်းမနတ်ချေ့တဲ့ သူကို တက်ပွဲကြေး လျှော့ယူတယ်။ ခုတော့ တူတူဖြစ်သွားပါပြီ။ စားတော် တမှာတောင် သူက ပိုရသေးတယ်။ အစ်မတော် (မငွေတောင်) စားတော်တအတွက် ဆီထမင်းနဲ့ ငါးကြော်က သက်သက်ပါရသေး တယ်။ ပြီးတော့ ဟိုတုန်းက မိန်းမနတ်ချေ့ရင် အချိန်အများကြီး ရတယ်။ မိန်းမနတ်က အကတွေ များတာကိုး။ အနည်းဆုံး နာရီဝက်၊ တစ်နာရီ ရတယ်။ ခုတော့ မရတော့ပါဘူး။ တက်ပွဲတက်တဲ့သူက များလာတော့ ယောက်ျားနတ်တွေနဲ့ အတူတူပဲ။ ဆယ့်ငါးမိနစ် ဖြစ် သွားပြီ။

စိန်မမနောက်က ပါလာတဲ့ဟာတွေကလည်း မနည်းပါလား။ ဝတ်ထားစားထားတာတွေကလည်း ပျံလို့ လန်လို့။ အင်း… စိန်မမ ကလည်း နည်းတဲ့မိန်းမလျာမမှ မဟုတ်ဘဲ။ ဒီဘက် နှစ်နှစ်သုံးနှစ်

အတွင်း တအားတက်လာတဲ့ တမကော်မပဲ။ အသက်က လေးဆယ် လောက် ရှိဦးမှာ။ တက်ပွဲမှာ ဒီလို အချိန်ကောင်း၊ နံပါတ်ကောင်း ရဖို့ဆိုတာ တကယ့်ဗိုလ်အိုင်ပီ နံပါတ်၊ နံပါတ်ကောင်း။ တက်ပွဲက တစ်နေ့ ရှစ်ဆယ်၊ ကိုးဆယ် ရှိတာကို။

တက်ပွဲစတဲ့ ညနေ သုံးနာရီက ရှစ်နာရီ၊ ကိုးနာရီအတွင်း တက်ရတဲ့ နတ်ကတော်တွေကမှ တကယ့်ဗိုလ်အိုင်ပီနတ်ကတော်၊ နာမည်ကြီး နတ်ကတော်။ နံပါတ် ခုနစ်ဆယ်ကျော် ရှစ်ဆယ်ကျော်ကျပြီး ညနာရီ မြန်မှ တက်ရတဲ့ နတ်ကတော်က မျက်နှာငယ် နတ်ကတော်၊ နာမည်မရှိ ရှာသေးတဲ့ နတ်ကတော်ပေါ့။ ကိုယ့်ကြည့်မယ့်လူမရှိ ဘာမရှိ။ မိုးလင်း ခါနီး ပဲပြုတ်သည်နဲ့ ရောတက်ရတဲ့ နတ်ကတော်လေး။

"ဟဲ့… ဂျိန်း၊ ကျားယောင်ဆောင်သော ဂျိန်းပါလားဟဲ့"

"အောင်မယ်… ဆောင်ရောလားဟဲ့။ စော္တရာသူ အပျက်မရဲ့"

နန်းကြီးဘေးကို နောက်ထပ်ရောက်လာတဲ့ နံပါတ်ဆယ့်လေး။ ဆယ့်ငါးတွေနဲ့ ဒေစီဂျိန်းနဲ့ အရျင်းရျင်း၊ အော်ကြ၊ ဟစ်ကြ နှုတ်ဆက် ကြတယ်။ ဝတ်လာတဲ့ အဝတ်အစားအဆင် တန်ဆာချင်းလည်း ပြိုင်ကြ ဆိုင်ကြ ကြည့်ကြရင်းနဲ့ တက်ပွဲတက်ဖို့ စောင့်ရတဲ့အရသာဟာ တက်ပွဲတက်ဖူးတဲ့ နတ်ကတော်ချင်းပဲ သိတယ်။ ဒါ အရသာပဲ။ ဒီအရသာအတွက် တစ်နှစ်လုံး တက်ပွဲစရိတ်ကို ကြော်ကြရ၊ လှော်ကြ ရတာလေ။

"တစ်ဆယ်ပြီးတော့မယ်နော်… တစ်ဆယ်"

နန်းကြီးဘေး တံခါးပေါက်ဘေးကနေ မင်းမင်းက ဒေစီဂျိန်းတို့ အဖွဲ့ကို လှမ်းသတိပေးတယ်။ ဒေစီဂျိန်းက အသားနားစွင့်လိုက်တယ်။ ဟုတ်သားပဲ။ ဖေကြီးကျော် ဗိုးဆွဲနေပြီ။ နံပါတ်တစ်ဆယ် ပြီးတော့ မယ်၊ တစ်ဆယ်ပြီးရင် ဒေစီဂျိန်းတို့ နောက်ထဲဝင်လို့ရပြီ။

"အားလုံး... အားလုံး ကိုယ့်အဖွဲ့ ကိုယ်စစ်ပါ။ မဆိုင်တဲ့လူ မပါစေနဲ့။ ကိုယ့်လူ ကိုယ်စစ်ပါ"

ဒါမျိုးကတော့ ကိုမင်းမင်းတို့က ဖြစ်ပါတယ်။ တာဝန်ကျ နန်းထိန်းတွေက မအော်ရဘူး။ သူက ဆရာကြီး၊ တာဝန်ကျ နန်းထိန်းတွေနဲ့ သူက အဖွဲ့လေ။ သေးတံခါးပေါက်ကနေ သူက နေရာယူပြီးသားဆိုတော့ ကိုယ့်လူကိုယ် ကြိုက်သလောက် သွင်းလို့ရတာပေါ့။ မဟုတ်ရင် နန်းထိန်းအစောင့်တွေက လူများတယ်ဆိုပြီး ဖြတ်ချတတ်တယ်။

"ကဲ... လာ လာ၊ အားလုံးလာ"

နံပါတ်တစ်ဆယ် ထင်းသွားတာနဲ့ တေးတံခါးပေါက် ဖွင့်လာတယ်၊ မင်းမင်းရဲ့ခေါ်သံနဲ့ ခေစီကျိန်းတို့အဖွဲ့ မြန်မြန်ဝင်ရတယ်။

"ဟေ့...ဟေ့ ဟိုလူ ဘယ်သူလဲ။ ဘာလို့ တိုးဝင်နေတာလဲ၊ ဖယ်... ဖယ်"

ကိုယ့်အဖွဲ့ကိုယ်သိတဲ့ မင်းမင်းက လှမ်းအော်တော့မှ ကြားဖြတ် လိုက်ဖို့ကြိုးစားနေတဲ့လူ ထွက်သွားတယ်။ ဒါမျိုးကို နန်းထိန်းအစောင့် တွေက သိပ်သတိထားရတယ်။ နန်းကြီးထဲကို တက်ပွဲတက်နေတဲ့ အချိန် မဆိုင်တဲ့လူ ဝင်မလာဖို့ သိပ်အရေးကြီးတယ်လေ။ နန်းကြီး ထဲမှာ ပြဿနာတွေက ဖြစ်ပေါင်းများလှပြီ။

နန်းကြီးနောက်ထဲကို ခေစီကျိန်းတို့အဖွဲ့ ရောက်လာတာနဲ့ ပါလာတဲ့ ကန်တော့ပွဲတို့၊ စားတော်တော်ပွဲတို့၊ ပုဆိုးအုပ်တို့ကို နန်းကြီးမျိုးတာဝန်ကျ အမျိုးသမီးကြီးတွေက စုံမစုံ၊ စေ့မစေ့ စစ်ဆေးတယ်။ ကန်တော့ပွဲ ပါရဲ့လား၊ စားတော်စာ ပြည့်စုံရဲ့လား၊ ပုဆိုးအုပ် သုံးအုပ် ဟုတ်ရဲ့ လား။ ပဝါခြောက်ပိုင်ဟုတ်ရဲ့လား ဆိုတာကို စစ်ဆေးပြီး သူတို့ပွဲထည့် ရာတွေမှာ ပြောင်းပြီး ပြင်ရတယ်၊ မပြင်လို့လည်း မရဘူးလေ။

တက်ပွဲတွေက ဆက်နေတော့ အချိန်မရဘူး။ ကိုယ့်ထည့်စရာနဲ့ ကိုယ်ဆို တက်ပွဲပြီးရင် ပြန်လှယ်ရတာတို့ ဘာတို့ လုပ်ရဦးမယ်၊ အဲလို လှယ်နေဖို့ အချိန်မရဘူး။ ဒီတော့ နောက်မှာ နန်းကြီးက ထည့်စရာ၊ ပြင်စရာနဲ့ တစ်ခါတည်းပြင်ထား၊ ကိုယ့်အိမ်က ထည့်လာခဲ့တဲ့ ထည့်စရာတွေကို တစ်ယောက်ယူထား။ ဟိုနား ဒီနား ချမထားခဲ့နဲ့။ ဘယ်သူမှ ဒီအချိန်မှာ တာဝန်မယူဘူး။

နန်းကြီးမျိုး နန်းထိန်းမျိုး တာဝန်ကျ အမျိုးသမီးဝဝကြီးက ကြမ်းပြင်မှာ ခြေဆင်းထိုင်ရင်း ညောင်းညာပင်ပန်းတဲ့အကြောင်း ညည်းညူနေတယ်။ ဒါတောင် သူတို့တွေ ကိုယ့်ဈေးမျိုး အုပ်စုပေါင်း နည်းတာမဟုတ်ဘူး၊ အားလုံး အလှည့်ကျ တာဝန်ယူရတာ၊ နန်းထိန်းမျိုးတွေ နည်းတာမှတ်လို့၊ ဒါတောင် အလုပ်နဲ့လူနဲ့ မမျှဘူး။ နန်းထိန်းမျိုးမဟုတ်တဲ့ တခြားသူစိမ်းကလည်း နန်းကြီးတာဝန်ကို ထမ်းလို့ မရဘူးလေ။ နန်းထိန်းမျိုးမှ နန်းကြီးတာဝန်ကို ယူလို့ရတာ။

"ဓာတ်ပုံရိုက်မှာဖြင့် ရိုက်ကြလေ၊ မြန်မြန်လုပ်"

တက်ပွဲဒကာတွေနဲ့ ဒေစီကျိန်းကို မင်းမင်းက ဆော်ဩပြန်တယ်။ နန်းကြီးရဲ့ ခွင့်ပြုချက်နဲ့ ကန်ထရိုက်ယူရိုက်တဲ့ ကင်မရာတွေရဲ့ မီးရောင်တွေ နန်းကြီးနောက်ပိုင်းမှာ တဖျတ်ဖျတ် လင်းလက်နေကြတယ်။ ဒီမှာ ကင်မရာယူလာလို့ မရဘူး။ နန်းကြီးကင်မရာနဲ့ပဲ ရိုက်ခွင့်ရှိတယ်။ ဗီဒီယိုရိုက်ချင်လည်း ရတယ်။ ဗီဒီယိုရိုက်မယ်ဆိုရင် တက်ပွဲကြေး သွင်းကတည်းက နန်းကြီးမှာ တစ်ခါတည်း ငွေသွင်းစာရင်းပေးထားရတယ်။

ဒေစီကျိန်းတို့အဖွဲ့ ဓာတ်ပုံ လေးငါးခြောက်ပုံပဲ ရိုက်ရသေးတယ်။ ရှေ့က နံပါတ်ဆယ့်တစ် ဒိုးဆွဲသံကြားရပြီ။

"ကဲ... လုပ်... လုပ်၊ ကန်တော့ပွဲ ရွက်ထားလေ၊ ကားတော်စား

ပွဲတွေရော အားလုံး တန်းစီထား။ ကဲ... ခင်ပျားက ရှေ့မှာ သွားနေ လေ၊ ဘာလုပ်နေတာလဲ"

မင်းမင်းက အားလုံး အဆင်သင့်ဖြစ်ဖို့ ပျာယာခတ်နေတယ်။ ယောကျ်ားပုံ ခန့်ခန့်ကြီးနဲ့ ဒေစီကျိန်းက ကြာမှုပါပါ မဲ့ကာ ရှုံ့ကာ မျက်စောင်းထိုးတာနဲ့ ကျေနပ်လို့ နေတယ်။

"ဆယ့်တစ်ပြီးပြီ၊ ဝင်... ဝင်... မြန်မြန်ဝင်"

မင်းမင်းရှေ့ကနေ အားလုံးကို ဦးဆောင်သွားတယ်၊ ဒေစီကျိန်းတို့ နန်းကြီးရှေ့ဘက် အရှင်နစ်ပါးရှေ့ကို ရောက်တာနဲ့ ရှေ့က နံပါတ် ဆယ့်တစ်ရဲ့ကန်တော့ပွဲ၊ စားတော်ပွဲတွေ နန်းကြီးဘေးက အခန်းထဲ ရောက်သွားပြီ။ ငှက်ပျောသီး၊ အုန်းသီးတွေ၊ စားတော်စာတွေနဲ့ ပြည့်လျှံနေတဲ့ ဘေးခန်းထဲကို မြန်မြန်ဆွဲချပစ်လိုက်ပြီ။

ဒေစီကျိန်း အရှင်နစ်ပါးရှေ့အရောက် (နံပါတ်ဆယ့်တစ် နန်းကြီး ရှေ့ လေ့ကားထစ်ပေါ်မှာတင် ရှိသေးတယ်) ဆိုင်းက တန်းပြီး တီး တော့တာပဲ၊ အချိန်မရဘူးလေ အချိန်။ နောက်တက်ပွဲတွေ အများကြီး ရှိသေးတယ်လေ။

ချက်ချင်းပဲ ဒေစီကျိန်းက အရှင်နစ်ပါးနဲ့ ရှေ့မှာထိုင်နေကြတဲ့ သိုးဆောင်းမိဖုရားကြီးတွေကို ကန်တော့ပြီး နတ်ကြီးကောက်တယ်။

နတ်ကြီးကောက်ပြီးတာနဲ့ ဆိုင်းက ချီးချလိုက်တော့တယ်။ ဖေကြီးကျော် ကြက်လောင်းပေတော့။

"*ရွှေခန်းမင်းကျော် မြင်းပေါ်တင်ကာခေါ်...ဟေ့... ဟေ့... ဟေ့...*"

ဒေစီကျိန်း ကြက်ဖလားထဲကို တက်ပွဲဒကာ သုံးထောင်အုပ်နဲ့ လိုက်လာတဲ့ ပရိသတ်အဖွဲ့တွေက ပိုက်ဆံတွေ ထည့်ကြတယ်။

သူတို့တစ်တွေက ဒေစီကျိန်း ကြက်လောင်းမယ့် လျှောက်လမ်း

ဒေသတစ်ဖက်တစ်ချက်စီမှာ နေရာယူထားကြတယ်။ အရှင်နှစ်ပါး ရှေ့ကစပြီး ဒေသနှစ်ဖက်လုံး သံပန်းတွေအပြည့် ကာထားတဲ့ထဲမှာ သိုးဆောင်း၊ တောင်းဆောင်းတွေနဲ့ နန်းထိန်းတွေရယ်၊ တက်ပွဲတက်တဲ့ နတ်ကတော်နဲ့ နောက်လိုက်အဖွဲ့တွေရယ်ပဲ ရှိတယ်။ မဆိုင်သူ တစ်ယောက်မှ ဝင်လို့မရဘူး။ အဲ... လုံခြုံရေးအတွက်ထားတဲ့ ရဲနှစ်ယောက်တော့ ရှိတယ်။

တစ်ဖက်တစ်ချက်မှာ ကာထားတဲ့ သံပန်းရဲ့အဆုံးမှာ ဆိုင်းရှိတယ်။ ဆိုင်းနောက်မှာ ပိတ်ထားတဲ့ သံတံခါးရှိတယ်။ တက်ပွဲဝတဲ့ ညနေ သုံးနာရီကစပြီး သံတံခါးကို ပိတ်လိုက်တော့တာပဲ။ တက်ပွဲကို ကြည့်ချင်တဲ့သူက သံပန်းအပြင်က ကြည့်၊ အရှင်နှစ်ပါး ပန်းဆက်ချင်တဲ့သူတွေလည်း၊ အဲဒီအချိန်မှာ သံပန်းကြားက လှမ်းဆက်၊ အရှင်နှစ်ပါး ရှေ့မှောက်ကိုတော့ ဝင်လို့မရတော့ဘူး။

*"ရွှေစန်းမင်းကျော် မြင်းပေါ်တင်ကာခေါ်...ခေါ်... ခေါ်... ခေါ်... ခေါ်...ခေါ်"*

ဒေစီကျိန်းရဲ့ကြက်ဖလားထဲက ပြည့်ဖြိုးမောက်လျှံနေတဲ့ ငွေတွေကို မြင်တာနဲ့ ပါးလှုပ်နေတဲ့ အဆိုတော်က "ခေါ်... ခေါ်...ခေါ်" တွေ လှုပ်တော့တယ်။ မြင်တာနဲ့ သိလိုက်ပြီးပြီ။ အိမ်တွင်းဖောင်း ဆောင်း ဦးဘစီ၊ ငွေပေါတဲ့ ဒေစီကျိန်းလေး၊ "ခေါ်... ခေါ်...ခေါ်" တွေ လှုပ်တော့မှာပေါ့။ မဟုတ်လို့ကတော့လား။ ပိုက်ဆံမပေါတဲ့၊ ရေမလျှံတဲ့ မျက်နှာမွဲနတ်ကတော်လေးတွေများ ဆိုလို့ကတော့ "ရွှေစန်းမင်းကျော် မြင်းပေါ်တင်ကာခေါ်" ဒါပဲ။ "ခေါ်"ပဲ၊ ခေါ် တစ်လုံးပဲ။ အမယ်လေး... ပိုက်ဆံထွက်မယ့် နတ်ကတော်ကျ လှုပ်လိုက်ပါလိမ့်မယ်။ "ရွှေစန်းမင်းကျော် မြင်းပေါ်တင်ကာ ခေါ်... ခေါ်... ခေါ်... ခေါ်... ခေါ်" အဲဒီလို၊

"လာကြနော်… လာကြနော်… လာကြနော်… လာကြနော်"

ဟော… လာကြနော်တွေကလည်း ထပ်လို့။ ခေစီရှိန်း ကြက်ဖလား သုံးဖလား လောင်းရမယ်။ ပထမနှစ်ဖလားက အရှင်နှစ်ပါး အတွက် နန်းကြီးကို ပေးရမယ်။ နောက်တစ်ဖလားက ဆိုင်းအတွက်။ နန်းကြီးအတွက် နှစ်ဖလားက အနည်းဆုံး လေးထောင်ရှိရမယ်၊ တစ်ဖလားကိုနှစ်ထောင် အနည်းဆုံး ရှိရမယ်။ ကိုယ့်တက်ပွဲဒကာကတော့ တစ်ဖလားကို သုံးထောင် လုပ်ရှာပါတယ်။ လိုက်လာတဲ့ ဖရီသတ်ကောဆို တစ်ဖလားကို သုံးထောင်ကျော်ပါတယ်။

နန်းထိန်းမျိုး မိန်းမတစ်ယောက် လက်ခံနေတဲ့ ပီနန်အိတ်ဖြူကြီးထဲမှာ ပိုက်ဆံတွေ ပြည့်လျှံစပြုပြီ။ ဒါ နံပါတ်ဆယ့်နှစ်ပဲ ရှိသေးတယ်။ မနက်လင်းကာနီး တက်ပွဲအားလုံး ကုန်တဲ့အချိန်ဆို ပီနန်အိတ်ကြီးတွေ ငါးအိတ်ခြောက်အိတ် ပြည့်လျှံနေတော့တယ်။ ဒါတွေကြောင့် သံပန်းတွေကာပြီး လုံခြုံရေးလည်း ချထားရတာပေါ့။

"လာကြနော်… လာကြနော်
လိုက်ချင်သူ… လာကြနော်
လိုက်မယ့်သူတွေ… လာခဲ့နော်
ဇေကျော်က … ခေါ်တယ်လေး"

နောက်ဆုံး ကြက်ဖလားကို ဆိုင်းပစ်ပေးပြီးတာနဲ့ ခေစီရှိန်းတို့က ဟိုဘက်ဒီဘက် လက်ကိုင်ကြေး ငါးရာစီနဲ့ ဒိုးဆွဲတော့မယ်။

"ဟေ့… ဒိုး…ဒိုး… နန်းတော်ကြီးက ဒိုး"

ခေစီရှိန်းရဲ့ လက်ကိုင်ကြေးကို ကြည့်ပြီး တစ်ဆိုင်းလုံးက ဝိုင်းအော်တဲ့ ဒိုးသံတွေ နန်းကြီးပေါ်မှာ ဟိန်းလို့နေတယ်။ ဒီလိုဟိန်းမှ ခေစီရှိန်းတို့က ကြိုက်တာ။ ပေးမယ်။ ပိုက်ဆံပေးမယ်။ ဒိုးကြေးပေးမယ်။ ရော့ဟဲ့ အဆိုတော်တွေ။ ရော့ဟဲ့… ဝိုင်းသမားတွေ။ ရော့…

လုံခြုံရေးတွေ။

ကျန်တဲ့ပိုက်ဆံအားလုံးကို ဒေစီဂျိန်းက ကြဲချပစ်လိုက်တယ်။ ကောက်ချင်တဲ့သူ ကောက်ကြ။ သံပန်းအပြင်ဘက် လွင့်သွားလည်း အပြင်က လူတွေကောက်ကြ။

နန်းတော်က တက်ပွဲမှာ ဘာမှယူရတာ မဟုတ်ဘူး။ နန်းတော်ပေါ် အကုန်ထားပစ်ခဲ့ရတာ။ နတ်ကတော်ရတာက တက်ပွဲဝတ်တက်ရတဲ့ မှုဆိုးနဲ့ နန်းတက်ရတယ်ဟဲ့ ဆိုတဲ့ဂုဏ်ပဲ။ ဒါပဲ။ တချို့နတ်ကတော်တွေကတော့ လုပ်ကြတယ်။ လက်ကိုင်ငွေကြေးကို ကရင်းကဒေနမှုဆိုးထဲ အလစ်ထိုးပြီး ယူတာပေါ့။ ကိုယ်လည်း ငယ်တုန်းက လုပ်ဖူးပါတယ်။ ခုတော့ တော်ပြီ။ မက်လည်း သိပ်မမက်တော့ဘူး။ ပြီးတော့ ဒီခေတ်ကြီးက ဆိတ်ကွယ်ရာ မရှိဘူး။ ရုက်စရာကြီး။ မနစ်က နတ်ကတော်တစ်ယောက် အလစ်ဆိုပြီး အဲလို လုပ်ချလိုက်တာ။ ဗီဒီယို ရိုက်ထားတော့ ဗီဒီယိုထဲမှာကျ ထင်းထင်းကြီး ပေါ်ရောတဲ့။ ကဲ... ရုက်စရာကြီး။

"ကဲ... လာ...လာ... ထွက်မယ်၊ အားလုံး ဒီကထွက်မယ်"

ဆိုင်းချလိုက်တာနဲ့ မင်းမင်းရဲ့ဆော်ဩသံ ထွက်လာတယ်။ တက်ချိန် ဘယ်လောက်ရှိပါလိမ့်။ သူများထုံးစံ ဆယ့်ငါးမိနစ်တော့ ကမှာမဟုတ်ဘူး။ ဂျိန်းဆို ငါးမိနစ်လောက်ကတော့ ဗိုပြီးသားပဲ။ ဒိုးကြေးများနှာပေါ့။ ညနက်ပိုင်းလည်းရောက်၊ ဒိုးကြေးများနှာလည်း မရှိတဲ့သူတွေဆို ကိုးမိနစ်၊ ဆယ်မိနစ်နဲ့ ဆွဲချပစ်တာ ဘာမှတ်လို့လဲ။

"ကဲ... ဦးဘစိ၊ ဦးဘစိ"

နန်းတော်ရှေ့ဘေးလှေကားကို ထွက်ဖို့ ဖောက်ထားတဲ့ သံပန်းဘေးတံခါး အဝသေးလေးနားကို ရောက်တာနဲ့ မင်းမင်းရဲ့ သူ့စိတ်တိုရင်ခေါ်တတ်တဲ့ သတိပေးသံကို ဒေစီဂျိန်းက မျက်စောင်းနဲ့ တုံ့ပြန်တယ်။

တကာတဲ့ အဖေရယ် သိပါတယ်။ ဒေစီဂျိန်းက မုဆိုးခါးပုံစကို ယူတဲ့ပြီး လည်ပင်းကို ပတ်လိုက်တယ်။ အပြင်လူအုပ်ထဲ ရောက်တော့မှာမို့ လက်ဝတ်လက်စားတွေအတွက် လုံခြုံရေးလေ။

ဖြစ်မှုတာကိုး။ ဒီလိုအတွက်မှာ လုပြေးတာမျိုးတို့၊ ခုနက ကြက်လောင်းတဲ့၊ ပိုက်ဆံကြိုတဲ့အချိန်မျိုးမှာလည်း အပြင်က သူစိမ်း ပါလာရင် ကပ်ပြီး ကိုယ့်လူလိုလို ဘာလိုလိုနဲ့ ဆွဲကြိုးတွေဘာတွေ ဖြတ်သွားတတ်တယ်။ ကိုယ်က ဇောနဲ့ကနေတော့ ဘာမှမသိလိုက် တော့ဘူး။

မင်းမင်းဟာ ဂျိန်းအတွက် အဲဒါတွေ အားကိုးရတာပေါ့။ တက်ပွဲ တက်တဲ့အချိန်ဆို မိန်းမတေးနားက သူ ဘယ်တော့မှ မခွာဘူး။ စိုးရိမ်တာတွေ၊ ဂရုစိုက်တာတွေ။

"အေ့... အေ့... ကိုကြီး မူးတယ်ကွာဟေ့"

နန်းကြီးက နေအိမ်ဘက်ဆီကို ချိုးကွေ့လိုက်တာနဲ့ လည်ပင်း ပတ်လာတဲ့ မုဆိုးခါးပုံစကို ဖြတ်ဆို ဖြုတ်ချလိုက်ရင်း ဒေစီဂျိန်းက လှပ်ချလိုက်ပြီ။

လေချဉ်တွေ တအေ့အေ့တက်ပြီး နတ်ဝင်တတ်တဲ့ ဖကြီးကျော် တိုင်လိက ဒေစီဂျိန်းရဲ့မူပိုင်ဟန်၊ မူပိုင်စတိုင်လ်။ နေညှိလေမြိုတတ်တဲ့ ဖကြီးကျော်က နန်းကြီးပေါ်ကနေ လိပ်ပြာမစွာသေးဘဲ ကပ်နေသေး တဲ့သဘော။ ဒါ တက်ပွဲက ဆင်းရင် ဒေစီဂျိန်း လှပ်နေကျပဲ။ လိပ်ပြာရှင်ကို ဖကြီးကျော်က ချစ်လွန်းလို့ စီးလိုက်လာတာပေါ့။

"ဟေ့...ဟေ့... ကွပ်ပျစ်ပေါ်မှာ ကော်ဇောခင်းထား"

မင်းမင်းက အိမ်အဝင်ဝမှာ အရေးတကြီး လှမ်းအော်ပေးရတယ်။ တက်ပွဲတက်လာတာ ချွေးတွေသံတွေ တရွှဲရွှဲနဲ့ အိမ်ဘေးမန်ကျည်း ပင်အောက်က ကွပ်ပျစ်မှာ ဒေစီဂျိန်း နားသင့်တယ်လေ။

"ကြွပါဘုရား၊ အဖေကြီး ဒီကို ကြွပါဘုရား"

"အေး... အဖေကြီးကို ရေကြည်တော်ဆက်ဟဲ့"

အချိုရည် ပလစ်စတစ်ဘူးလေးကို ဗိုက်တပ်ပြီး မင်းမင်းက ယူလာတယ်။ တက်ပွဲဒကာမက ဖေကြီးကျော်ကို ယပ်သွင်းတယ်။

"ဟေ့... မောင်းမ၊ ကိုယ်တော်ကြီးနောက်က စားပြီး လိုက်ခဲ့၊ အောက်နန်းမှာ ကိုယ်တော် နန်းတက်ဦးမယ်ကွ၊ ပျော်ဦးမယ်ကွ"

"မှန်ပါဘုရား... လိုက်ပါ့မယ် ဘုရား"

ကွပ်ပျစ်ပေါ်ကနေ ဒေစီရိုန်းက ခုန်ဆင်းလိုက်ပြီး အချိုရည်ဘူးကို ကိုင်မြှောက်လိုက်တယ်။

"ဟေ့... အဖေကြီးရဲ့ သားတွေသမီးတွေ၊ နောက်လိုက် နောက်ပါတွေအားလုံး ပြေလယ်ပြင်အောက်နန်းမှာ ကိုယ်တော် ပျော်ဦးမယ်။ လိုက်ကြမှာလားဟေ့"

"လိုက်ပါ့မယ် ဘုရား၊ လိုက်ပါ့မယ်"

ခြံဝင်းထဲက လူအားလုံး လက်အုပ်လေးတွေချီပြီး ဝိုင်းအော်ကြရတယ်။

"အေး... ပြေလယ်ပြင်ပြီးရင် လက်ခြောက်ဇက်နန်း၊ ပြီးရင် ပဲ့ရဲ့နန်း၊ ဖေကြီးကျော်ရဲ့နန်းကို သွားမယ်ဟေ့"

အားလုံးက ဟေးခနဲအော်ပြီး လက်ခုပ်တွေ တီးကြပြန်တယ်။ ဖေကြီးကျော် ဒေစီရိုန်းကတော့ တအေ့အေ့ လေချဉ်တက်ရင်း ရှေ့ကနေ ထွက်တယ်။

"လာ ညီမွှား... ကိုကြီးကို တွဲ"

ဖေကြီးကျော်က မင်းမင်းကို မှီနွဲ့လိုက်တယ်။ အသက်ကြီးတော့ နည်းနည်းတော့ မောချင်ပြီ၊ အောက်နန်းတွေမှာကျ ခုန်ရပေါက် ရဦးမယ် မဟုတ်လား။

ပွဲတော်တစ်ကွင်းလုံးကို နတ်ဆိုင်းသံတွေက ဖုံးလွှမ်း စိုးမိုးထားတယ်။ ပွဲတော်ထဲက အောက်နန်းတွေပေါ်မှာ ဆိုင်းကိုယ်စီရှိတယ်။ အောက်နန်းတွေပေါ်မှာလည်း နတ်ကတော်တွေ နန်းတက်ကြတာကိုး။ နန်းကြီးတက်ပွဲကို မတက်နိုင်သေးတဲ့ နတ်ကတော်လေးတွေက အောက်နန်းတွေမှာ တက်ကြတယ်။ အောက်နန်းတက်ပွဲစရိတ်က နန်းကြီးတက်ပွဲ စရိတ်လောက် မကြီးဘူးလေ။ သုံးထောင်နဲ့ ငါးထောင်ကြားပဲ ရှိတာ။ နန်းကြီးတက်ပွဲလို ပုဆိုးအုပ်တို့ ဘာတို့ ပါစရာမလိုဘူး။ စားတော်တာပဲပေါ့။ အရက်တို့၊ ကြက်ကြော်တို့နဲ့ တခြားစားတော်တာတွေပေါ့။ တက်ပွဲကြေးကတော့ နန်းကြီးလိုပဲ ရှိတယ်။ နန်းကြီးလောက်တော့ မများဘူးပေါ့။ တက်ပွဲကြေးက ငါးရာပဲ။ ကြက်လောင်းကြေးနဲ့ လက်ကိုင်ကြေးက ထောင့်ငါးရာ ရှိရတယ်။ အောက်နန်းတွေမှာလည်း နန်းထိန်းတွေ ရှိတယ်။ အဲဒီ နန်းထိန်းတွေပဲ နန်းနဲ့ပတ်သက်တာ၊ တက်ပွဲနဲ့ ပတ်သက်တာတွေ အားလုံးကို လုပ်ပိုင်ခွင့်ရှိတယ်။ ပိုင်ဆိုင်ခွင့် ရှိတယ်။ နန်းကြီးတက်ပွဲထက် ပိုကောင်းတာတစ်ခုက အောက်နန်းတက်ပွဲက အချိန်ရတာပဲ။ နတ်ကတော်တစ်ဦးကို နှစ်နာရီလောက် တက်လို့ရတယ်။ နှစ်နာရီဆိုတော့ အားရပါးရ ရျော့ရကရတာပေါ့။

ဒေစီဂျိန်းတို့လို နန်းကြီးတက်တဲ့ နတ်ကတော်တွေက နန်းကြီးတက်ပွဲ တက်ပြီးတာနဲ့ အောက်နန်းတွေမှာ လိုက်ပြီး တက်ကြသေးတယ်။ ပျော်ကြသေးတယ်ပေါ့။ မင်းမင်း စိတ်ထဲမှာတော့ အောက်နန်းတွေဟာ သကြန်မဏ္ဍပ်တွေလိုပဲ။ နာမည်ကြီးဆိုင်းတွေနဲ့ နာမည်ကြီးအဆိုတော်တွေက နာမည်ကြီး သီချင်းတွေဆိုလို့၊ အဲဒီမှာ နာမည်ကြီးနတ်ကတော်တွေက တစ်နန်းဝင် တစ်နန်းထွက် ဝင်ကကြတာကိုး။ အဲဒီအရသာကို နတ်ကတော်တိုင်း မက်မောကြတယ်။ မက်မက်

မောမော မျော်ကြတယ်။ ဒေစီဂျိန်းတို့ဆို စတန့်လေးနဲ့တောင် မျော်လိုက်သေး။ နန်းကြီးတက်ပွဲကာတည်းက လိပ်ပြာတင်ပါလာတဲ့ မေကြီးကျော်က နောက်လိုက်နောက်ပါ အစုံအလင်နဲ့ တစ်နန်းဝင် တစ်နန်းထွက် မျော်တာလေ။

မင်းမင်းကလည်း မျော်ပါတယ်။ နောက်နန်းတွေ လျှောက်သွားရတဲ့ အရသာကို မင်းမင်းလည်း ကြိုက်တယ်။ တက်ပွဲဒကာ၊ ဒကာမတွေနဲ့ နောက်လိုက်နောက်ပါအားလုံးလည်း ကြိုက်တယ်။ စိတ်လွှတ်လက်လွှတ် မျော်ခွင့်ရတာကိုး။ မျော်ကြရတာကိုး။ နန်းကြီးနန်းတက်ပွဲ အောင်မြင်စွာပြီးဆုံးတဲ့ အထိမ်းအမှတ်လေ။ စိတ်လွှတ်ကိုယ်လွှတ် မျော်ကြစမ်း။

အောက်နန်းမှာ မင်းမင်း အရက်သောက်ခွင့် ရတယ်။ မူးအောင်သောက်လို့ ရတယ်။ တက်ပွဲဒကာတွေလည်း မူးကြတယ်။ အားလုံးပဲ မျော်မျော်ပါးပါး မူးကြတယ်လေ။

ကြည့်ပါလား။ ပြေလယ်ပြင် ရှမ်းမောင်နှမ နတ်နန်းရဲ့ မီးလုံးရောင်စုံတွေအောက်မှာ အားလုံးပဲ လှနေတယ်။ အားလုံးပဲ ရီဝေနေတယ်။ အားလုံးဟာ စိတ်တွေကို လွှတ်ပစ်လိုက်ဖို့ အဆင်သင့် ဖြစ်နေကြတယ်။

"ဟေ့... လာ...လာ...လာနော်.. ပျင်းသလားကွဲ့နော်. သီချင်းသွားဟစ်အော်... မင်းနစ်ပါးရဲပွဲတော်...ပွဲတော် စလားနောက်လား... မျော်...မျော်... တကြော်ကြော် ပျိုစိတ်မဆိုးနဲ့... ထုံးစံမို့နော်"

နတ်ဒိုးသံဟာ လူတွေရဲ့သွေးကြောတွေထဲကို ထိုးဖောက်ဝင်ရောက်နိုင်စွမ်း ရှိတယ်။ စိတ်ကို မြူးကြွသာယာစေတယ်။ ပြီးတော့ အချစ်သွေးကိုလည်း ကြွစေနိုင်ပါလား။ မူးယစ်ရီဝေနေတဲ့ မင်းမင်းနဲ့

နတ်နန်းထဲက မိန်းကလေးတစ်ယောက်နဲ့ ဘေးချင်းယှဉ်ကပ်ထားကြတယ်။ နတ်ရုပ်သူ ပရိသတ်ပြည့်ကျပ်နေတဲ့ ဒီလိုအချိန်မှာ ဘယ်သူက ဘယ်သူ့ကို အပြစ်ဆို လို့ရမလဲ။ ဘယ်သူက ဘယ်သူ့ကိုမှလည်း အပြစ်မဆိုကြပါဘူး။ အပြစ်မဆိုဘဲ အချစ်ပိုသွားကြတဲ့သူတွေသာ အများကြီး။ မင်းမင်း သိတာပေါ့။ သိလည်း သိခဲ့ဖူးပြီ။ ကြုံလည်း ကြုံခဲ့ဖူးပါပြီ။

ဟိုမှာလေ အဆိုတော်မလေးကို တက်ပွဲဒကာအဖွဲ့ထဲက ယောက်ျားတစ်ယောက်က ကိုးဆယ်တန်တွေ အင်္ကျီရင်ဘတ်ထဲ ထိုးထည့်ဖို့ချဖို့ကြိုးစားလို့။ အဆိုတော်မလေးကလည်း ဗီဝေဝေ ပြိုတီတီ အကြည့်တွေကို အပြုံးမပျက်ခံယူရင်း ငွေစက္ကူရွက်တွေကို ကျွမ်းကျင်လိမ္မာစွာ အဝတ်ထဲထည့်လို့။ ခပ်ငယ်ငယ် ဗိုင်းတော်တီးရှာစားလေးနဲ့ ပရိသတ်ထဲက ကောင်မလေးတစ်ယောက်ကလည်း ဗီဝေဝေ အကြည့်တွေကြားမှာ အပေးအယူတွေ မျှတာလို့။

ခေါင်ကျိန်းနောက်မှာ ကမ္ဘာစောင့်နေတဲ့ မိန်းမနတ်ဝတ်စုံနဲ့ မိန်းမလျာနတ်ကတော်ကတော့ ယိမ်းယိုင်နေတဲ့ သူငယ်အစင်လေးတစ်ယောက်ကို ချိုသာဖေးမရင်း အမိဖမ်းဖို့ ကြိုးစားလို့ နေတယ်။

"ဟေ့... ရွှေပြုး...ငွေပြုး... မွဲရတောင်ပြန်။

ပျော်မဆုံးလှတဲ့ ကိုးအညာပွဲတော် လာစေချင် ဖိတ်ခေါ်

နတ်နန်းထဲမှာ တစ်ယောက်ယောက်ကြဲချလိုက်တဲ့ ငွေစက္ကူရွက်တွေ ပလူပျံကျလာတယ်။ ကျပ်တန် ငါးကျပ်တန်အသစ်လေးတွေကို တစ်ယောက်နဲ့တစ်ယောက် တိုးဝှေ့ကောက်ကြရင်း အဆွဲအလွဲလေးတွေ ဖြစ်ပွားသွားခဲ့တယ်။ ကောင်မလေးတစ်ယောက်ရဲ့ ငါးကျပ်တန် ဆုပ်ထားတဲ့ လက်ကလေးကို မင်းမင်း အကြာကြီး ဆုပ်ထားလိုက်ရတယ်။ မူးနေတဲ့ တက်ပွဲဒကာတော့ အမျိုးသမီးတစ်ယောက် ရင်ခွင်ထဲ

ကျသွားတဲ့ ကျပ်တန်လေးတစ်ရွက်ကို အတင်းလိုက်လုတယ်။ အမျိုးသမီးကလည်း ရယ်လို့မောလို့။

ဖေကြီးကျော် ဒေစီကျိန်းက ခုန်ရင်း ပေါက်ရင်းကနေ ကဲနေတဲ့ လင်လေးကို မျက်စောင်းချည်း လှမ်းထိုးနေတော့တယ်။ မင်းမင်းက တော့ အဘွားကြီးကို မသိချင်ယောင်ဆောင်ရင်း ကဲဖို့ကိုပဲ ကြိုးစားတယ်။ တစ်ခါတလေတော့ ခွင့်လွှတ်မှပေါ့ဗျာ။ မိန်းမစစ်ရဲ့ အသားလေးတွေနဲ့ ထိတွေ့ သာယာစမ်းပါရစေဦး။ ဗိုဝိတ်နဲ့မဝိတ် ထိတွေ့ခြင်းက ဖြစ်ပေါ်လာတဲ့ ကြည်နူးသာယာမှုဆိုတာဟာ သဘာဝတရားက ပေးထားတာဗျ သိရဲ့လား။ လူဟာ သဘာဝတရားကို ဆန့်ကျင်ပြီး ကြာရှည်မနေအပ်ဘူး။ မနေသင့်ဘူး။ ကျိန်းစဘွန်းမကြီး ဒါတွေကို ခင်ဗျား ဘယ်တော့မှ နားလည်မှာ မဟုတ်ပါဘူး။

"ကဲ... အဖေကြီး ကွဲတော့မယ်ဟေ့။ ဒီနန်းမှာ ကြာကြာနေရင် လိပ်ပြာရှင် လင်လုခံရကိန်း မြင်တယ်"

ပရိသတ်က ဝေါခနဲ ရယ်ပေမယ့် မင်းမင်း မရယ်နိုင်ပါဘူး။ မရိုပြုံးကာလေးကို တပ်ဆင်ပြီး နန်းထဲက မြန်မြန်ထွက်တယ်။ ကိုယ့်ကို ရက်ရက်ရောရော အသားချင်း ထိထားပေးတဲ့ ကောင်မလေးရှေ့မှာ မျက်နှာ ဘယ်လိုထားရမလဲ။ ဒါမျိုးတွေက မင်းမင်းအတွက် ရိုးတော့ နေပါပြီလေ။ လူပုံလယ်မှာ မကျော်တိုင် တက်ပြနေကျ။ ဒေစီကျိန်းက တော့ ချစ်လို့ဟော့လို့ အရပ်ရှစ်မျက်နှာကြားအောင် အော်လိမ့်မယ်။ မင်းမင်းမှာတော့ ရက်ရုံကလွဲလို့ ဘာများတတ်နိုင်မှာလဲ။

*"ညနက်သန်းခေါင်လည်း လထွက်အောင်ပဲ ရွာရိုးကို သူလျှောက်လည်... အိမ်နားအနီးတွေ အားနာဦးပေါ့... မောင်မောင်ရယ်... ကိုကြီး တော့်လာရင်... ထန်းရည်အရက်တွေ အမြဲပါသမို့... ခန်းဆွေ့ထဲကို မထွက်ဝံ့အောင်ပ... ရွက်လှုပ်ပြီ မောင်မောင်ရယ်... နေ့လည်း*

မှုးတယ်.. ညလည်း မှုးတယ်... ထူးလည်း ထူးတယ်... ခွေ တစ်သန်းနဲ့ ရွှေဝန်းကျော်ကြီးရယ်"

ဒေစီဂျိန်း နောက်ဆုံးဝင်မယ့် ပခန်းနန်းကို ရောက်တာနဲ့ ဒီနေ့ မေတ်ဖေကြီးကျော်သီချင်းက ဆီးကြိုနှုတ်ဆက်တယ်၊ ပခန်းနန်း တစ်ဝိုက်မှာ ကိုကြီးကျော်နဲ့ အကြိုက်ချင်းတူတဲ့ ညီဖွားအရွယ်စုံက ယိမ်းယိုင်ကခုန်ကြလို့၊

ပခန်းနန်းထိန်းက ဗောင်းဆောင်းကြီး ဒေစီဂျိန်းကို ပျာပျာသလဲ ကြိုပြီး နောက်လိုက် နောက်ပါတွေကို နေရာချပေးတယ်၊ ဝိုင်းတော် တီးရွာတားကလည်း ဆိုင်းတီးရင်းက လှမ်းနှုတ်ဆက်တယ်။

"ဟေ့...ဒိုး...ဒိုး...ဒိုး..."

ဒေစီဂျိန်း ရှေ့က ကနေတဲ့ နတ်ကတော်က ဒိုးဆွဲပြီး ပေးသင့် ပေးရာတွေကို လက်ကိုင်ကြေးထဲက လျှောက်ပေးရင်း ဒေစီဂျိန်းကို နတ်ခေါ်ကြီး နတ်ဝါကြီးအနေနဲ့ လေးဆယ့်ငါးကျပ်တန်တစ်ရွက် ပေး သွားတယ်။ နတ်ချော့ပြီးတော့ ကန်တော့လည်း သွားတယ်။

"တိတ်တိတ်စေ...စမ္မောင်... မြည်မဟာမေ့ရွာ... အသေချာ ကြည့်... ဝေနေယျာအသိ... မြည့်ရှင်မင်းကျော်စွာပါနော် သတင်း နော် အဖြာဖြာမကျွင်း... အသိပြည်သူ နောင်မမှားဘဲ... မင်္ဂလာသွ နောင်ဘုရားပါမြန်းကြွလာမှာမို့... နန်းဘမရာအတွင်းက နတ်မပီက တဲ့... မင်းထွက်တဲ့စည်"

မင်းထွက်တော့မှာမို့ မင်းထွက်တဲ့စည်တဲ့။ ဆိုင်းဆရာရဲ့ ပါးနပ်မှု ပေါ့။ အောက်နန်းကို လာကာတဲ့လိပ်ပြာရှင် ပခန်းမင်းရဲ့ ဂုဏ်အရှိန် အဝါကို သိပြီးသားလေ။ ရွာဖားကိုယ်တိုင် မိုက်ကိုင်ပြီလေ၊

"မှတ်ပါ...အဖေကြီးပါ ဘုရား... အဖေကြီးပါ ဘုရား၊ မှုးမှုထူး၊ ထူးမှမှုးတဲ့ ပခန်းကျော်ကြီးပါ ဘုရား"

ဒေစီဂျိန်းရဲ့မှုပိုင်ဟန်အတိုင်း တဖေ့ဖေ့နဲ့ လေပြိုရင်း ဖေကြီး ကျော်ဝင်တာနဲ့ "ဟေ့... ဟေ့" ဆိုတဲ့ ညာသံပေးသံတွေ ပဓန်းနန်း တစ်ခုလုံးကို ဖုံးလွှမ်းသွားခဲ့တယ်။ မိတ်ကပ်နီရဲရဲ၊ နှုတ်ခမ်းရဲရဲနဲ့ အဆိုတော်မလေးက ခိုက်ကို ဟန်ပါပါလေး ကိုင်လိုက်တယ်။

*"ပြောသာပြောရ... မောလှတယ်... လင့်တွေရှာကို သူ နားမလည်... သိကွာရှိအောင် နေစမ်းကွယ်"*

အဆိုတော်မလေးက ဟန်မှုပိုပိုနဲ့ ဖေကြီးကျော်ကို လက်ညှိုးလေး ထောင်ပြလိုက်တော့ နောက်လိုက် နောက်ပါတွေရဲ့ "ဟေး"ခနဲ သဘောကျသံတွေ ဆူညံသွားတယ်။ ဟော... ထလာပါပြီ၊ နောက်လိုက် နောက်ပါထဲက ယိုင်တိုင်တိုင် လူတစ်ယောက် အဆိုတော်မလေးကို ဆုချပါတော့မယ်။

*"နေညှိဆိုရင်ကွယ်... ထန်းရည်ကို သူကြိုက်ပါသတဲ့.. နေထွက်နေစောင်းချိန်ထိ... ရွှေကြက်ကို သူလောင်းတယ်... ကိုကြီးကျော်... တကယ့်လွန်လွန်းပါတယ်"*

အဆိုတော်မလေးက ဟန်မှုရာတွေ ပိုများလာတယ်။ ဆုချတာတွေ ကလည်း များလာပြီလေ။

*"တောင်းပန်ပါ့မယ်... ကျောင်းအကာကြီးရယ်... အရပ်တကာ နယ်တကာ... သူ မပါရင် ပွဲမပြီးလို့... ဖွံ့ကြီးတဲ့ မောင်ကြီး ကျော်ရယ်...ကစားတာလည်း လျှော့ကွယ်... သောက်တာလည်း လျှော့ကွယ်... အမြှောင်တွေထားတာ လျှော့ဦးကွယ်... သာသနာချစ် တဲ့ ကိုကြီးကျော်ရယ်..."*

ဆိုင်းက ပိုပြီး မြိုင်ဆိုင်သလိုပဲ။ ရွာစားက ခေါင်းတညိတ်ညိတ်နဲ့ ရေကုန်ရေခန်း တီးနေတယ်။ စိန်ပေါလှိုင်ကြီး တီးရုပေမပေါ့ချာ။ ဖေကြီးကျော် ကြက်လောင်းတော့မယ်လေ။ ကြက်ဖလားထဲကို နှုတ်

ကတော်ရဲ့ လင်ကလေး ကြက်လောင်းကြေးတွေ လိုက်ခံနေပြီလေ။ ထောင်ကျော်မယ့်ဖလားမှန်း မြင်တာနဲ့ စိန်ပေါလွှင်ကြီးတို့က သိတယ်။ ပခန်း နန်းတီးစားနေတာပဲ အနှစ်နှစ်ဆယ်ရှိပေါ့။ ဖလားကြည့်လိုက်တာနဲ့ ထောင်ဖလား၊ ရာဖလား ဘာဖလားတုံး၊ သိနေပါပြီ။

သိရမယ်လေ။ စိန်ပေါလွှင်ကြီး မသိလို့ မရဘူး။ ဒီဖလားက ကိုယ်ရမယ့်ဖလား။ ဒီဖလားက ကိုယ့်အသက်၊ ဖလားထဲမှာ ပိုက်ဆံများမှ စိန်ပေါလွှင်ကြီးတို့ အသက်ရှူချောင်မှာ။ ဖလားထဲမှာ ပိုက်ဆံများလေ စိန်ပေါလွှင်ကြီး လက်သံပြောင်လေပဲသာမှတ်၊

သုံးချိုသုံးလားလောင်းတဲ့ ကြက်ဖလား၊ သုံးဖလားက စိန်ပေါလွှင်ကြီးတို့ ဆိုင်းအတွက်ပဲ။ ကျန်တဲ့ လက်ကိုင်ကြေးကတော့ နန်းပိုင်နန်းထိုင်နဲ့ နန်းထဲထိုင်နေတဲ့ ပေးသင့်ပေးရာတွေပေါ့။

ကြက်လောင်းကြေးဆို ဓားသွေးကြေးတို့၊ လှေထေးကြေးတို့ဟာ တကယ်တမ်းကျတော့ စိန်ပေါလွှင်ကြီးတို့နဲ့ပဲ ဆိုင်တယ်။ နတ်ကတော်က မနတ်ရဘူး။ ကိုကြီးကျော် ကြက်လောင်းကြေးအပြင် ရွှေကိုင်းကတော်တို့၊ အစမ်းမရယဉ်တို့၊ ကိုးမြို့တို့ရဲ့ ဓားသွေးကြေးတွေ ရှိသေးတယ်။ ကိုယ်တော်နှစ်ပါးရဲ့ လှေထေးကြေးဆိုတာလည်း ရှိတယ်။ ဒါတွေအားလုံးဟာ ဆိုင်းနဲ့ပဲ ဆိုင်တာကို နတ်ကတော်နဲ့ နန်းပိုင် နန်းထိုင်တွေက နတ်ချင်သေးတယ်။ ဘယ်ရမလဲ၊ သူတို့ တက်ပွဲကြေး၊ လက်ကိုင်ကြေး၊ ကန်တော့ကြေးတွေ ရပြီးပြီပဲဗျာ။ စိန်ပေါလွှင်ကြီးတို့အတွက်လည်း ချန်ဦးမှပေါ့။ ကိုယ်က အလကား ဝင်တီးရတာမှ မဟုတ်ဘဲဗျာ၊ နန်းပိုင်နန်းထိုင်တွေကို ပိုက်ဆံပေးတီးရတဲ့ ဥစ္စာ။

သမားရိုးကျရတဲ့ ပခန်းမင်းနန်း ကန်တော့ကြေးက ငါးရာပေးရတယ်။ နန်းလိုတာသုံးက တစ်ထောင်၊ ပွဲတော် ခုနစ်ရက်ကိုပေါ့။

ဒီစုနစ်ရက်မှာ စိန်ပေါလွှင်ကြီးတို့က ဒီနန်းကို လာတက်တဲ့၊ လာရျော့တဲ့ နတ်ကတော်တွေ၊ နတ်ရျော့သူတွေရဲ့ ကြက်ဖလားမှန်သမျှရဲ့ မားခေါင်းကြေး၊ ခလုတ်ထေးကြေး၊ သဒ္ဒါကြေးတွေကို ရမယ်။

ပိုက်ဆံက ရတာတော့ ရပါတယ်။ ပခန်းကျော်နန်းပဲ။ ရျော့မယ်သူ၊ တက်မယ့်သူ မရှိ။ ခြောက်ကပ်နေတဲ့ နန်းမျိုးတော့ ဘယ်တော့မှ မဖြစ်ဘူး။ ရျော့သူ၊ တက်သူမရှိ ပခန်းကျော်က အမှုးသမားခေါ်လာတာပဲ။ ပိုက်ဆံက ရပါတယ်။ ဒါပေမယ့် ကိုယ့်မှာလည်း စရိတ်စကတွေက ရှိသေးတာကိုး။ အဖွဲ့အစည်းနဲ့ ထမင်းစရိတ်၊ သရေစာစရိတ်နဲ့ ကိုယ့်တွက်ကိုလည်း မြက်မြက်လေး ကျန်ချင်သေးတာကိုး။ ကဲ… ဆိုင်းသယ်ရတဲ့ကားခကိုက အသွားအပြန် သုံးထောင်ငါးရာပျာ၊ ထမင်းစရိတ်ကလည်း သုံးထောင်ငါးရာ၊ လေးထောင်လောက် ကျတယ်။ စုစုပေါင်း ကိုယ်က တစ်သောင်းကျော်လောက် ရင်းထားရတယ် ပြောပါတော့။

ဟိုတုန်းကတော့ ဒီလိုပိုက်ဆံတွေ ဘယ်ပေးရမတုန်းဗျာ၊ တစ်ရွာလုံးမှာရှိတဲ့ နန်းတွေက ဆိုင်းအားလုံးကို တီးရတဲ့ လူတစ်ယောက်ပဲရှိတယ်။ "ဘိုးဆင်"တဲ့။ အရှင်နှစ်ပါး ကောက်ထားတဲ့ လက်ယာတော်ဆိုင်းဘိုးဆင်က ဘယ်သူ့တပည့်တုန်းဆိုတော့ စိန်ဗေဒါရဲ့အစ်ကို၊ ဆရာစိမ့်တပည့်။

ဘိုးဆင်ရဲ့အမွေကို ဘယ်သူရတုန်းဆိုတော့ ဘိုးဆင်ရဲ့တူ ဦးပြည့်(ဆရာပြည့်)က ရတယ်၊ ဝိုင်းချစ်မောင်လို့လည်း ခေါ်တယ်။ ဇော်ဂျီဗိုဝင်သား စားထားတဲ့ ဝိဇ္ဇာတွေရဲ့သားမို့ ဝိဇ္ဇာပြည့်လို့လည်း ခေါ်တယ်။

ရွာထဲမှာ နန်းတွေကလည်း ဒီလောက် ဘယ်များသေးမတုန်း။ တောင်ပြုံးတစ်ရွာလုံးမှာ အရင်ရှိတဲ့ မူလနန်းက နည်းနည်းလေးရယ်။

အိမ်တွင်း ရုနစ်ဖော်နန်း၊ တရေးတော်ကြီးနန်း၊ မန္တလေးဘိုးတော်နန်း၊ မမဥနန်း၊ အမေဆည်တော်နန်း ဒါလောက်ပဲ။

နောက်မှ နောက်တိုးနန်းတွေ ပေါ်လာတာ။ တလိုင်းကျော်နန်း၊ ပခန်းကျော်နန်း၊ ပြေလယ်ပြင်မောင်တော်၊ နမတော်တို့၊ ပြည်ကန်တော် မောင်နှမတို့၊ အမေရေယာဉ်၊ ကိုးသိန်းရှင် ရွှေနဘေ၊ နံ့ကာရိုင်း၊ ပသီမောင်တော် နှမတော်၊ သားပိုက်မယ်တော်၊ မငွေတောင်၊ ဘိုးညို၊ သိုက်နန်းရှင်၊ မဏိစည်သူ၊ ဓားနင်းဘိုးတော်၊ ရွာတော်ရှင်၊ ခမဲ့ဘိုးဘိုး၊ ကိုးမြို့ရှင်၊ ပုလဲယဉ် အများကြီးပဲ၊ အများကြီးပဲ။ နန်းတွေက တစ်နှစ်တစ်နန်း တိုးတာပဲ။ တစ်ပြည်လုံးက နတ်ကွန်းတွေ တောင်ပြုန်းမှာ လာစုတာပဲ။

နန်းတွေ တိုးလာတဲ့အကြောင်းရင်းက ရှင်းပါတယ်လေ။ တောင်ပြုန်းပွဲကြီးက တဖြည်းဖြည်း တစ်ပြည်လုံး အတိုင်းအတာနဲ့ စည်ကားလာတော့ နတ်ပွဲကြီးကို မှီနေတဲ့ နီးနွယ်ဆက်စပ်နေတဲ့ လူအားလုံး စားရသောက်ရတယ်။ ဒီတော့ နတ်ကတော်လုပ်ချင်တဲ့သူတွေ များလာတယ်။ အထူးသဖြင့် မိန်းမလျာတွေပေါ့။ တကယ် နတ်အစစ် မကောက်ဘဲနဲ့ တိုးဝေး နတ်ကတော်တွေပေါ့။ ကိုယ့်နားလည်မှုနဲ့ကိုယ် ခွဲယူကြတာပေါ့။ စိန်ပေါ်လွှင်ကြီးတို့ ပခန်းနန်းဆိုရင် ပွဲဦးဆောင်းတဲ့နေ့ ရသမျှကို နန်းထိုင်က ယူတယ်။ လပြည့်ကျော်တစ်ရက် ပခန်းမင်း ပို့တဲ့အနေနဲ့ သက်သက်တီးရတဲ့ ပွဲနေ့ရသမျှကို နန်းပိုင်က ယူတယ်။ ကြားပွဲတော်ရက် ရတာတွေကိုတော့ နားလည်မှုနဲ့ ခွဲယူပေါ့။

ပွဲတော်ကြီး စည်ကားလာတော့ နတ်ကတော်၊ နန်းပိုင်၊ နန်းထိုင် လုပ်ချင်သူတွေမှ မဟုတ်ဘူး၊ ဆိုင်းတီးချင်သူတွေကလည်း မတရား များလာတော့တာပဲ။ အဲဒီမှာ ပိုက်ဆံပေးတီးတဲ့ နည်းစနစ် စတင်တော့ တာပဲဗျာ။ အဲ… ဘယ်နန်းက ပိုက်ဆံပိုရမလဲ၊ ပိုရတဲ့နန်းကို

တစ်ယောက်နဲ့တစ်ယောက် အလုအယက် ဝိုင်းပေးကြတာတွေ ဘာတွေဖြစ်ကုန်တယ်။ ဒါပေမယ့် ပေးတယ်ဆိုတာ ရလောက်တော့ ဘယ်များမလဲ။ နည်းနည်းလေးပါ။ ဒီပခန်းနန်းမှာ ဟိုတုန်းက တီးတဲ့ ဆိုင်းဆရာ ဦးတင်အောင်တို့လက်ထက်မှာ ငါးရက် တစ်ရာပဲ ပေးတာ။ ချီးရေတော်သုံးပြီးမှ စတီးရတာဆိုတော့ ငါးရက်ပဲ တီးရတာကိုး။ ဟိုတုန်းက အရှင်နှစ်ပါး ချီးရေတော်သုံးပြီး နန်းပေါ်ကို ပြန်ရောက်မှ တစ်ကွင်းလုံးက ဆိုင်းတွေ စတီးရဲတာ။ အရှင်နှစ်ပါး နန်းပေါ်ရောက်မရောက် လူတစ်ယောက်ကို လွှတ်ထားရတာ။ အခုတော့ ဘယ်ဟုတ်တုန်း။ ရေချိုးတော်သုံးခန့် မနက်လင်းတာနဲ့ တစ်ကွင်းလုံး ပွက်ပွက်ရိုက် စတီးကြတော့တာပဲ။

အဲဒီမှာ စိန်ပေါ်လွင်တို့ ဆိုင်းတွေ အလုအယက် မညီမညွတ်တွေဖြစ်ကုန်ကြတဲ့အတွက် "နတ်ဆိုင်းများ ညီညွတ်ရေးအသင်း"ဆိုပြီး ဖွဲ့ကြရတယ်။ ပွဲတော်ကို ရဟန်းပျို အုပ်ချုပ်တဲ့ အချိန်ပေါ့။ ကိုယ့်ဟာနဲ့ကိုယ် ကိုယ့်အထက်မြန်မာပြည်၊ မန္တလေးဆိုင်းတွေချင်းမှ လုယက်နေရတဲ့ထဲမှာ အောက်မြန်မာပြည် ရန်ကုန်ဆိုင်းတွေက ဆင်းချလာကြပါလေရော။ ဘယ်ရမလဲ၊ နတ်ဆိုင်းများ ညီညွတ်ရေးအသင်းကနေ ရဟန်းပျိုအဖွဲ့ကို တန့်ကွက်တာပေါ့။ ရန်ကုန်ဆိုင်းတွေ ချက်ချင်းပြန်ရတယ်။ အဲဒီထဲကပဲ အခုထိ ရန်ကုန်ဆိုင်းမတီးရဘူး။ ရဟန်းပျိုအဖွဲ့က တစ်ခါတည်း ဈေးနှုန်းသတ်မှတ်ပေးလိုက်တယ်။ ပွဲတော်တစ်နှစ်ကို ငါးရာနဲ့ တီးစေလို့။

မလွယ်ဘူး၊ မလွယ်ဘူး။ အတိုက်အခိုက်တွေကတော့ နာမည်ကြီးတဲ့ နန်းပေါ်မှာ မှတည်ပြီး ရှိနေတာပဲ။ ပိုက်ဆံရတဲ့နန်း၊ တန်ခိုးရှိတဲ့နန်းဆို အတိုက်အခိုက်များပြီးပဲ၊ နန်းချင်းက မတူဘူး။ လူတန်ခိုးရှိတဲ့နန်းရှိတယ်။ နတ်တန်ခိုးရှိတဲ့ နန်းရှိတယ်။

ပိုက်ဆံရှိတဲ့၊ ဂုဏ်ရှိတဲ့ လူတွေဝိုင်းကိုးကွယ်တဲ့ နတ်ကတော်တွေ အတက်များတဲ့ အရှေ့များတဲ့နန်းဟာ လူတန်ခိုးရှိတဲ့ နန်းပေါ့။ ပြောနေစရာမလိုဘူး။ လူတန်ခိုးရှိတဲ့နန်းက ပိုက်ဆံပိုရတာပေါ့။ စိန်ပေါ်လွင်ကြီးရဲ့ပခန်းကျော် နန်းကတော့ လူတန်ခိုးလည်း ရှိတဲ့နန်း၊ နတ်တန်ခိုးလည်း ရှိတဲ့နန်း ဖကြီးကျော်ကလည်း စိန်ပေါ်လွင်ကြီးကို တခြားအရောက် မခံပါဘူး။ သူ့အနားမှာပဲ ထားပါတယ်။

နတ်ဆိုင်းတီးစားတဲ့ စိန်ပေါ်လွင်ကြီးကို လူတွေက မေးကြတယ်။ ခင်ဗျား နတ်ယုံသလားတဲ့။

ယုံတယ်၊ စိန်ပေါ်လွင်ကြီး ယုံတယ်။ စိန်ပေါ်လွင်ကြီး အရင် ဆိုင်းပိုင်မရှိဘူး။ ဒီနန်းရောက်ပြီးမှ ဆိုင်းဝယ်ရတယ်။ အိမ်ကလေး ဝယ်နိုင်တယ်။ အိမ်ငှားအဝေ ကျွတ်တယ်။ လွတ်တယ်။ စိန်ပေါ်လွင် မှ မယုံရင် ဘယ်သူယုံတော့မှာလဲ။ ဟော... အရေးအခင်းနှစ် တောင် ပြုန်းပွဲတုန်းက ဆိုင်းတွေအားလုံး မန္တလေးပြန်ရောက်တော့ လက်စွပ် ပေါင်ကြ၊ ရွှေပေါင်ကြ၊ မောင်းပေါင်ကြ၊ ကြေးပေါင်ကြနဲ့ စိန်ပေါ်လွင် ကြီးက အမြတ်ငါးထောင်လောက် ကျန်တယ်။ ဒုက္ခမဖြစ်ဘူး။ ပခန်း ကိုကြီးနန်းမှာ စိန်ပေါ်လွင်ကြီး တီးနေတဲ့ အနှစ်နှစ်ဆယ် ကာလပတ် လုံး ရှုံးပြန်ရတယ်လို့ မရှိပါဘူး။ မြတ်ပြန်ရတာချည်းပဲ။ မနှစ်ကဆို မရေမတွက် ရတယ်။ သုံးသောင်းကျော်ရတယ်။ ခါတိုင်းဆိုရင် တစ်သောင်းခွဲ၊ နှစ်သောင်းပဲ။

ဒီတော့ စိန်ပေါ်လွင်ကြီးတို့က ကိုကြီးကျော်နဲ့ အရှင်နှစ်ပါးကို ညတိုင်း ကန်တော့အိပ်တယ်။ စိန်ပေါ်လွင်ကြီးကို "မ" တာကိုး။ စိန်ပေါ် လွင်ကြီး စံစားရတာကိုး။

ဟော ပြောရင်းဆိုရင်း စိန်ပေါ်လွင်ကြီးရင်ခွင်ထဲ ကြက်ဖလား ကျလာပြီ။ နစ်ရာတန်တွေ အတော်များပါလား။ ငွေတွေယူပြီး

ကြက်ဖလားကို စိန်ပေါ်လွင်ကြီး ရှိရှိသေသေ ထဆက်တယ်။

"ဟော့... ဒီဆိုင်းက ဘယ်သူပေးတာလဲကွ"

"မှန်ပါ၊ အဖေကြီးပေးတဲ့ ဆိုင်းပါဘုရား"

"ရွာစားကတော့ ဘယ်သူ့တပည့်လဲကွ"

"ဖေကြီးကျော်တပည့်ပါ ဘုရား၊ တပည့်ရင်းကြီးပါ ဘုရား"

"အေး... အဖေကြီးပေးမယ်ဟော့၊ ကဲ... စိန်ပေါ်လွင်နဲ့ အဖေကြီးနဲ့ နှစ်ယောက်တည်း... နှစ်ယောက်တည်း၊ ဒိုး..."

"ဟော့... ဒိုး...ဒိုး...ဒိုး...ဒိုး"

စိန်ပေါ်လွင်ကြီးက ပတ်လုံးကလေးတွေကို သူ့လက်ကြီးနဲ့ မညှာမတာ ရိုက်တယ်။ ပတ်လုံးကလေးတွေပေါ်ကို ခေါင်းပေါင်း ထုံးစံအတိုင်း ကလေးဆယ့်ငါးကျပ်တန် တစ်ရွက်စီ တင်ပေးတယ်။ ချွေးဥတွေစီနေတဲ့ စိန်ပေါ်လွင်ကြီးမျက်နှာက ပြုံးရွှင်ဝင်းပလို့။ များများပေးပါ အဖေကြီးရေ၊ ဆိုင်းကားလေး ဘာလေး ဝယ်နိုင်အောင် "မ" စမ်းပါဦး။ ဒီနန်းက လည်း ဘယ်မှမရောက်အောင် အတိုက်အခိုက်တွေကို ဖယ်ရှားပေးဦး။

နန်းထဲကို ကျပ်တန်အသစ်အုပ်က ဆုတ်လွှင့်လိုက်တဲ့ ငွေ့အသစ်လေးတွေ ပလူပျံကျလာတယ်။ ဆိုင်းပေါ်မှာလည်း ဝဲလို့။ ဒီနတ်ကတော်အကြောင်းကတော့ စိန်ပေါ်လွင်ကြီး သိပြီးသား။ ရက်ရောပါတယ်၊ ရက်ရောနိုင်အောင်လည်း တပည့်တပန်းတွေက တောင့်တာကိုး။ ဒီနတ်ကတော်က နန်းကြီးတက်ပွဲကို တစ်နှစ် ငါးပွဲ ခြောက်ပွဲရတဲ့ နတ်ကတော်ပဲ၊

တချို့နတ်ကတော်တွေကျလည်း ရှားပါးပုံရှာ၊ နတ်ကတော် လုပ်ချင်တာ၊ တက်ပွဲတက်ချင်တာလည်း များလို့၊ ပါးစပ်ခနား၊ လက်ခနား လိုက်တာလည်း ရှာလို့ ရိုတဲ့ထဲကပဲ။ နန်းမှာ တက်ပွဲတော့ လာတက်တယ်။ ပြီးတော့ ကြက်ဖလားကျ တစ်ရာနဲ့ နှစ်ရာပြီးရော လုပ်သွား

တတ်ကြတယ်။ တချို့ကျတော့ လာချေး၊ ချေးပြီး ဆိုင်းကို အစိတ် လောက် ပေးသွားတာမျိုးတွေ ရှိတယ်။ အဲလိုအခါမျိုးကျတော့ စိန်ပေါ လွှင်ကြီးတို့ မိုက်ဆဲ့ပြီး လူမိုက်လုပ်ရတော့တာပေါ့။ "ဒီမှာ နတ် ကတော်၊ ခင်ဗျား စိန်ပေါလွှင်ကို ဒီလို လူပါးဝလို့ မရဘူး။ ခင်ဗျား ကဖနေတာကို ချွေးသီးချွေးပေါက်ကျအောင် ကျုပ် တီးပေးနေတာ ပျော်လွန်းလို့ တီးနေတာ မဟုတ်ဘူး နားလည်လား။ ပိုက်ဆံလိုချင်လို့ တီးနေတာ။ တန်ရာတန်ဖိုး ပိုက်ဆံလိုချင်လို့ တီးနေတာ။ ခင်ဗျား ငွေအစိတ် ကျုပ်က ဘာလုပ်ရမှာတုန်း။ လာခဲ့၊ ကျုပ်ဝိုင်းထဲကို ငွေသုံးရာ လာထည့်၊ တစ်ပြားမလျှော့နဲ့၊ လာမထည့်မချင်း ဒီနန်းထဲက ခင်ဗျား ထွက်လို့မရဘူး။ ထွက်ရဲထွက်ကြည့်၊ စိန်ပေါလွှင်အကြောင်း သိသွားမယ်" တွေ ဘာတွေလည်း လုပ်ရသေးတယ်။

အဲဒီလို နတ်ကတော်မျိုးတွေနဲ့တော့ မတွေ့ပါရ၊ မဆုံပါရစေနဲ့ ဗျာ။ ဟောဒီလို ငွေကို ရေလို၊ လေလို သုံးနိုင်တဲ့ နတ်ကတော်မျိုးနဲ့သာ အမြဲတွေ့ပါရ၊ ဆုံပါရစေ။ ဟောဒီလို နတ်ကတော်မျိုး တစ်နေ့ကို ငါးယောက်၊ ခြောက်ယောက်သာ လာ... စိန်ပေါလွှင်ကို ငွေလျှံပြီ။

အားရပါးရ တီးနေတဲ့ စိန်ပေါလွှင်ကြီးကို ဖဒိစီကျိန်းက ခုန်ရင်း ပေါက်ရင်း လက်ညှိုးနဲ့ လက်မဝိုင်းပြီး "ဝ" တော့ တော်တော့လို့ ပြလိုက်တာနဲ့ စိန်ပေါလွှင်ကြီးက ကမျာကယာ ဆိုင်းရပ်ပေးလိုက်တယ်။

ဖဒိစီကျိန်းက လင်သည်ကလေး လက်ထဲမှာ လက်အုပ်ချီရင်း ပျော့ခွေသွားခဲ့တယ်။ အသွားကြီး အတော်မောသွားရှာတာလား၊ မူးသွားရှာတာလား မသိဘူး။ သောက်တာလည်း တော်တော်များ တယ်။ မိန်းမလျာမကြီး နတ်ဝင်တုန်းက ဖကြီးကျော်ရဲ့ ကျားကျား လျားလျား ဟန်ပန်တွေ ပျောက်ပြီး သားလေးပစုံးမှာ ကန့်ကလျ မိန္နဲ့နေပုံများတော့ ပါးစပ်ကလည်း ရှိန်းစဘွှန်းမကြီး တုံးစံအတိုင်း

ပေါက်ကရတွေ အော်လို့ နန်းထဲကနေ ယိုင်ယိုင် ယိုင်ယိုင်နဲ့ ထွက်တယ်။

"ဟဲ့... ဟိုရှေ့က လက်လက် လက်လက်တွေက ဘာတွေတုံး"

ကြည့်စမ်း။ ဒါ သိလျက်သားနဲ့ တမင်သက်သက် လုပ်တာ။ မျက်နှာချင်းဆိုင်က တက်ပွဲတက်ဖို့ ထွက်လာတဲ့ နတ်ကတော်လေး ဝတ်စားထားတာကို သူ မြင်ရက်သားနဲ့။

"ဟဲ့... မင်းမင်း။ ဘာတွေတုန်းလို့ဆို"

"ဟာ... ခင်ဗျားသိရဲ့သားနဲ့။ နန်းကြီးတက်ပွဲသွားတဲ့ နတ်ကတော် ခင်ဗျား မမြင်ဖူးဘူးလား"

"ကြော်... အေးအေး သနားပါတယ်။ သနားပါတယ်။ ဖြစ်သွားပုံများ စိတ်တွေလှုပ်ရှားနေတာ ခေါးကတွဲတောင် သွားရတယ်။ ဒီလိုပဲ၊ အစကတော့ ဒီလိုပဲ၊ တို့တုန်းကလည်း ဒီလိုပါပဲ။ ကြောက်ဒူးတွေများ တုန်လို့"

ဒေစီကျိန်းပြောလည်း ပြောစရာ။ နတ်ကတော် မိန်းမလျာမလေးက စိတ်လှုပ်ရှားပြီး မျက်နှာလေးက ငယ်လို့။ ခေါးက လှုနစ်ယောက်ထိန်းတွဲခေါ်သွားရတယ်။ တက်တဲ့ နတ်ကတော်လေးမှန်း အရိုန်ကြည့်တာနဲ့လည်း သိနိုင်တယ်။ ညဗိုင်းရောက်ပြီလေ။ နံပါတ် ဘယ်ကောင်းတော့မလဲ။ ကြည့်ရတာ ကိုယ့်နံပါတ်မရောက်ခင် စိတ်စောပြီး အစောကြီးကတည်းက သွားစောင့်တဲ့ပုံပဲ။

"မင်းမင်း"

"ဘာလဲ"

"ငါမူးတယ်၊ ငါ များသွားတယ်"

"အင်းပါ၊ များရင်လည်း အိမ်ကျ အိပ်လိုက်ပေါ့"

"အေး... အိပ်မယ်၊ နင့်ရင်ခွင်မှာ ငါအိပ်မယ်"

မင်းမင်းက ငြိမ်သက်သွားတယ်။ ဒါ သူ့အကျင့်ပဲ။ ဒီလိုပဲ ငြိမ်သက်သွားပြီးရင် ထွက်လာတတ်တဲ့ စပ်တိုးတိုး ကြိမ်းမောင်းသံလေးကို ခေတ်စီကိုန်း မျှော်လင့်နေတယ်။

"အရွှပ်မကြီးနော်" ဆိုတဲ့ ကြိမ်းမောင်းသံလေးလေ။

"မင်းမောင်၊ ငါပြောတာ ကြားလား"

ကြည့်လေ... ကိုယ်က သူ့ကို နှစ်ယောက်တည်းကျမှ ခေါ်တဲ့ နာမည်ခေါ်ပြတာတောင်မှ သူ့ဆီက ငြိမ်သက်မြဲ။ မင်းမောင် နင် ငါ့ကို မချစ်တော့ဘူးလား။ ငြီးငွေ့ပြီလား။ ဒီမှာ နင်က ဘယ်လောက် အေးစက် အေးစက် နင့်ကို ငါ ချစ်တယ်။ နင့်ရင်ခွင်မှာ ဒီည ငါအိပ်မယ်။



## နန်းတက်ပွဲများ
## ဝါခေါင်လဆန်း (၁၂) ရက်

ပွဲတော်ရဲ့အစည်ဆုံးနေ့ ထုံးစံအတိုင်း နေပူပူအောက်မှာ လူ ပင်လယ်လှိုင်းကြီးကို တွေ့နိုင်တယ်။

နတ်ဒိုးသံဟာ ပွဲတော်တစ်ကွင်းလုံးကို ဖုံးလွှမ်းထားတယ်။

ဘယ်နေရာသွားသွား နတ်ဒိုးသံကို ကြားနိုင်တယ်။

ကနားတဲခန်းများစွာက ကြေခေါက်သံတွေဟာလည်း ဒီနေ့ အဆူညံဆုံးပဲ။

ရှည်မျောမျော ကနားတဲခန်းလေးတွေပေါ်မှာ လူတွေ အပြည့် အိုးလေးတွေ တုပ်လို့။ ကနားတဲခန်းတွေပေါ်က နတ်ကတော်အားလုံးမှာ နတ်တစ်ပါးပါး ပူးဝင်နေကြပြီး ထိုင်ရင်းနဲ့ ယိမ်းယိုင်နတ်ဝင်ကြတယ်။ များသောအားဖြင့် ကတော့ မင်းနှစ်ပါးနဲ့ ပခန်းဦးမင်းကျော်ပေါ့။

ဟိုကနားတဲပေါ်မှာ ဖေကြီးကျော်၊ ဒီကနားတဲပေါ်မှာလည်း ဖေကြီးကျော်၊ ဟိုကနားတဲပေါ်မှာလည်း မင်းကြီးမင်းလေး၊ ဒီကနားတဲပေါ်မှာလည်း မင်းကြီးမင်းလေး။

လူအားလုံးကတော့ ကိုယ်ရောက်နေရာ ကနားတဲပေါ်က မင်းကြီးမင်းလေးကို၊ ဖေကြီးကျော်ကို ရှိသေပျပ်ဝပ်စွာ ဒူးတုပ်ရှိခိုးကြရင်း မ,နိုင်းကြလို့၊

အရောင်းအဝယ်ကောင်းအောင် မ ပါဘုရား။

ထီပေါက်အောင် မ ပါဘုရား။

ရာထူးတက်အောင် မ ပါဘုရား။

နိုင်ငံခြားသွားရအောင် မ ပါဘုရား။

တိုက်တည်ရအောင် မ ပါဘုရား။

အက်စ်အီးဝယ်နိုင်အောင် မ ပါဘုရား။

သားတွေသမီးတွေ ဂုဏ်ထူးများများနဲ့ အောင်အောင် မ ပါဘုရား။

မ ပါဘုရား များစွာကို မင်းနှစ်ပါးနဲ့ ဖေကြီးကျော်တို့က ဖြစ်စေဟဲ့လို့ တာဝန်ယူအာမခံတဲ့အခါ ကန်တော့ကြေးနဲ့ ကြက်လောင်းကြေး၊ ပုလင်းဖိုးတို့ကို ဝမ်းသာအားရ ဆက်ကြတယ်၊ ဖေကြီးကျော်ရဲ့ ဝါသနာအရ "ဟေ့... အဖေကြီးက လုပ်လို့ "မ" ဖြစ်လာခဲ့ရင် ဘယ်နှယ့်လဲကွ"လို့ လောင်းစားတဲ့အခါ "မှန်ပါ.. ဖြစ်လာခဲ့ရင် အဖေကြီးအတွက် ပျော်ပွဲများ ပေးပါမယ်ဘုရား၊ တက်ပွဲများ ပေးပါမယ်ဘုရား"နဲ့ အပေးအယူ ကတိစကားတွေကို လျှောက်တင်ကြရပြန်တယ်။ နတ်ကတော်တွေရဲ့ ကန်တော့ပွဲနဲ့ ကြက်ဖလားထဲမှာ ငွေတွေနဲ့ မောက်လျှံနေတယ်၊

ဒီလိုနေ့ကတော့ ဆုတောင်းပြည့်ဘုရားဝင်းထဲ တစ်နေရာမှာ

ပိတ်ဖြူလေးခင်း၊ ဖလား ဓလေးရွေးချ နတ်ပေဟာတဲ့ နတ်ကတော်တောင် ဖလားထဲ ပိုက်ဆံပြည့်တယ်။ ဆယ်တန်၊ ငါးကျပ်တန်၊ ကျပ်တန် ကလေးတွေပေါ့၊ လူတန်ခိုးရှိတဲ့ ကနားဘဲတန်းတွေပေါ်က ဖလားတွေ ထဲမှာလိုတော့ ကိုးဆယတန် နှစ်ရာတန် မပါဘူးပေါ့။

ဘုရားဝင်းထဲမှာ နတ်ဓမးတဲ့သူတွေက ညဆို တစ်ချပ် ငါးကျပ် တန် ဖျာငှားအိပ်ပြီး မနက်ကျ ပါလာတဲ့ စားအိုး စားခွက်လေးနဲ့ ဖြစ်သလို ထမင်းဟင်းချက်စားတဲ့ ရွာနီးချုပ်စပ်က နွမ်းပါးတဲ့သူတွေ။

ဘုရားဝင်းထဲမှာ ဖျာငှားစားတဲ့သူတွေ ရှိတယ်။ ဈေးပေါပေါ ထမင်းဆိုင် ရှိတယ်။ ဘုရားအထွက်မှာ ဟင်းချက်စရာ ပျံကျဈေးလေး လည်း ရှိတယ်။

ဒီလိုရက်မှာ ဖျာငှားစားသူတွေလည်း ပျော်ကြတယ်။

ငါးတောင်းပက်ပက်လေးတွေနဲ့ အဆောင်သင့် ကန်တော့ပွဲလေး တွေ ရောင်းတဲ့သူတွေလည်း ပျော်ကြတယ်။

ရောင်စုံ တောင်းတော်ပဝါရောင်းတဲ့သူတွေလည်း ပျော်ကြတယ်။

ဆုတောင်းပြည့်ဘုရားဝင်းထဲက မင်းနှစ်ပါး လှူဒါဝတုန်းက ဒိုးထိုးဆော့ကစားခဲ့တဲ့နေရာမှာ ဒိုးကလေးတွေကို သွားဆက်ဖို့အတွက် ဒိုးကလေးတွေရောင်းတဲ့ ဒိုးသည်ကလေးတွေလည်း ပျော်ကြတယ်။ ပန်တော် ပန်းသည်လေးတွေကတော့ မျက်စိတောင် မဖွင့်တော့ဘူး။ ဒီရာသီမှာပေါ်တဲ့ မြစ်ကြီးနား နာနတ်သီးသည်တွေ၊ အအေးဆိုင်တွေ၊ ပွဲတော်မုန့်သည်တွေ၊ တောင်ဖြူန်းလက်ဆောင် ဆွဲကြိုး၊ လက်ကောက် ရွှေတုဆိုင်လေးတွေ၊ ခါးပိုက်နှိုက်တွေ၊ လူပင်လယ်လှိုင်းလုံးကြီးကို အမှီပြုပြီး အားလုံးပဲ ပျော်ကြပါတယ်။

မုန့်ဖက်ထုပ်၊ ဝဲလှူမုန့်၊ ကဓရောကရာ စတဲ့ ပွဲတော်မုန့်ထုပ်လေးတွေ ကို ကိုင်ပြီး လည်ပင်းတွေ၊ လက်တွေမှာ ဝင်းဝင်းလက်နေအောင်

ရှေ့ဆွဲကြိုး၊ ရှေ့လက်ကောက်အစုတွေကို အဖျော်ဝတ်ဆင်ထားကြတဲ့ လူတွေဟာ ကနားတဲခန်းတွေပေါ်မှာ ရောက်ရှိနေကြတဲ့ မင်းနှစ်ပါးနဲ့ ဖေကြီးကျော်ဆီကို တိုးဝှေ့သွားလာနေကြတယ်။ ဒါပေမယ့် နန်းကြီးအနီး ခြံဝင်းထဲက ဂျိန်းစဘွန်းမကြီး ဒေစီဂျိန်းရဲ့ နတ်နန်းအိမ်ပေါ်မှာ မှီးကပ်ရောက်ရှိနေတဲ့ နတ်ကတော့ မင်းနှစ်ပါးနဲ့ ဖေကြီးကျော် မဟုတ်ဘူး။ မိန်းမတွေ အလွန်သဘောကျတဲ့ အမေဂျမ်းနတ်လေး။

"ဟဲ့... အမေက လမ်းဆုံက ဂျမ်းဘုံဟဲ့။ ပါးစပ်ကလည်း စပ်ကြမ်းကြမ်းပဲ။ အမေက ထန်းရည်လေး အရက်လေးလည်း ကြိုက်တယ်။ အမေ့လင်က ကိုတက်ခါး၊ သူနိုးကြီး တောက်ပြားဆိုတဲ့ ကိုတက်ခါး၊ ကိုတက်ခါးက နေပြည်တော်မှာ ရွှေတိုက်စိုးဘဝနဲ့ ကောင်းစားပြီး အမေ့ဆီပြန်မလာတော့ အမေက လိုက်သွားတယ်။ နေပြည်တော်နား အမေရောက်သွားတော့ ဘုရင့်တပ်မတော်ကြီး ချီလာတာကို အမေက တောသူပဲ၊ ဘယ်သိမလဲ။ လမ်းကို ဖြတ်ပြေးတော့ ဟဲ့... ဘုရင့်တပ်မတော်ကြီး ချီလာတာကို တပ်ဦးက ဖြတ်ကူးရဲတာ ဘယ်သူလဲဟဲ့ ရေမတော်သွင်းဆိုပြီး အမေ့ကို စစ်သားတွေက ဖမ်းတော့ အမေက ထန်းရည်ကလည်း မူးမူးနဲ့ အယုတ္တ အနတ္တကုန်အောင် ဆဲချလိုက်တယ်ဟဲ့"

အမေဂျမ်းရဲ့ ညစ်ညမ်းကြမ်းတမ်းတဲ့ အဆဲတွေကို မိန်းမတွေက ရှက်မှက်နှာတွေနဲ့ သဘောကျရယ်ကြတယ်။ သာမန်အချိန်ဆို ဘယ်နားထောင်ရဲပါ့မလဲ။ ဒါ နတ်ဝင်လို့ နားထောင်ရဲတာပေါ့။ နတ်ကတော်ကလည်း သာမာန်အချိန်ဆို ဒီလို ဂုဏ်သရေရှိ မိန်းမတွေရှေ့ ဘယ်ဒီလိုထွက်ရဲမလဲ။ ဒါ နတ်ဝင်နေလို့ ထွက်ရဲတာပေါ့။

ဒေစီဂျိန်းကတော့ ပြောင်းဖူးဖက်ဆေးလိပ်ကြီးကို အဘွားကြီးလို ဖွာလိုက်၊ လက်ဖက်ဆီစိမ်လေး ကောက်မြုံလိုက်၊ အရက်လေး

တစ်ကျိုက်ကျိုက်လိုက်၊ ပြောချင်တဲ့ ညစ်တီးညစ်ပတ်တွေကို အဓမ ဂျမ်းအကြောင်းပြုပြီး ပြောလိုက်ဝံ့နဲ့ ကြော်တဲ့ ရှော့တဲ့လုပ်ငန်းမှာ ကောင်းကောင်းကြီး အရှိန်ရနေတော့တယ်။

"အေး... အဲဒီမှာ ဒါလောက်ရှိုင်းပျကြမ်းတမ်းတဲ့ တောသူမဆိုပြီး အမေ့ကို ရိုက်သတ်ပစ်လိုက်ကြလို့ အဓမ သေရတာ။ ဘယ်ကို ရိုက်သတ်တယ်ဆိုတာကိုရော ပြောရဦးမလား"

"တော်ပါတော့ အဓမရယ်၊ မပြောပါနဲ့တော့၊ မပြောပါနဲ့တော့"

ဘေးနားက မင်းမင်းက ဒေဗီကျိန် အကြောင်းကို သိလို့ အသာဝင် ထိန်းတယ်။ နည်းနည်း တွေတောတောဖြစ်နေတဲ့ ဒေဗီကျိန်းက မင်းမင်းကို မျက်စောင်းထိုးကြည့်တယ်။

"ဟင်... အမယ်လေး... ကိုတက်ခါးပါလား။ မောင်ကိုတက် ခါး"

ဒုက္ခပါပဲ။ ပြောမိကာမှ ပိုဆိုးကုန်ပြီ။ အဲဒါမျိုးတွေ သိပ်ရက်တာ၊ သိပ်စိတ်ညစ်တာ၊ မင်းမင်း မအီမသာမျက်နှာနဲ့ သူ့ပေါ်လှဲ့ရလိုက်တဲ့ ဒေဗီကျိန်း အဓမဂျမ်းကို အသာထိန်းပေးထားရတယ်။ လူရှေ့သူရှေ့မှာ ဒါမျိုးမလုပ်ပါနဲ့လို့ ဘယ်နခါပြောပြော ဘယ်တော့မှ မရဘူး။

ဒါပေမယ့် ခုလိုအချိန် မင်းမင်း စိတ်မဆိုးရဲဘူး။ သူ့ကို ပစ်ပြီး ထမသွားရဲဘူး။ မင်းမင်းလုပ်လိုက်ရင် အဓမဂျမ်းထက်တောင် ကြမ်းတဲ့ အဓမကျိန်းက လူရှေ့သူရှေ့မရှောင် အရှက်ခွဲပြလိမ့်မယ်။ အဓမဂျမ်း အရှိန်နဲ့ ပိုတောင်ဆိုးနိုင်တယ်။ တစ်ခါ မင်းမင်းခံရပြီးပြီလေ။ ပျော်ပွဲ ပေးတဲ့ ကနားပွဲတစ်ပွဲမှာ သူ အဓမဂျမ်းဝင်တော့ ထုံးစံအတိုင်း မင်းမင်းက လုပ်ပေးနေကျဖြစ်တဲ့ ပဝါစွန်းမှာ ပရုတ်ဆီသုတ်ဖို့ကိစ္စ မေ့သွားတယ်။

အဓမဂျမ်းက သူ့ဘဝအကြောင်း ခုနလိုပြောပြီး ကိုတက်ခါးကို

လွှမ်းတဲ့အခါမှာ မျက်ရည်အစစ်ကျပြီး ဆိုင်းနဲ့ ကမ္ဘာလေး ပဝါစွန်းကို ပရုတ်ဆီသုတ်ဖို့ မင်းမင်းက မေ့နေတော့ ဘယ်လောက်တို့တို့ မျက်ရည်မထွက်တော့ဘူး၊ မထွက်တော့ မင်းမင်းကို အသာကပ် မေးတယ်။ အဲဒီမှာ ဟာ.. မေ့သွားတယ်လို့ မင်းမင်းကလည်း ပြောလိုက်ရော အမေဂျမ်းဘဝနဲ့ ဆဲလိုက်ဆိုလိုက် ပြောလိုက်တာ ရစရာကို မရှိတော့ဘူး။ အေးလေ မင်းမင်းဘဝမှာ ရုက်ခြင်းဆိုတာကို မေ့ထားခဲ့ရတာ ဘယ်လောက်ကြာပြီလဲ။

"ကဲ... ကောင်မတွေ ဘာရယ်ကြတာလဲ။ နင်တို့က ဟင်... ကိုတက်ခါးက ငါ့လင်ဟဲ့ သိလား။ တေးသီမဆုံးတဲ့ အေးကြည်ကုန်းက အမေဂျမ်းလင်။ ဟဲ့... ဟဲ့... ဆက်ကြဲ၊ ငါ့ထန်းရည်ဖိုး၊ လက်ဖက်ဖိုး"

မိန်းမတစ်သိုက် ရှိရှိသေသေ ရှေ့တိုးပြီး ဝိုက်ဆံတွေ ဆက်ကြတယ်။ ဒေစီကျိန်းက ခေါင်းတုန်တုန်၊ လည်တုန်တုန် မျက်စိမှုန်မှုန်အဘွားကြီး ဟန်ပန်အမူအရာနဲ့ မိန်းမတစ်ယောက်ကို လက်ကာကြည့်တယ်။

"ဟဲ့ကောင်မ၊ နင် အရောင်းအဝယ်တစ်ခု မိဌာန်ထားတယ် မဟုတ်လား။ အေး... အဲဒီအရောင်းအဝယ် အောင်မြင်အောင် အမေက လုပ်ပေးမယ်တော့်၊ လုပ်ပေးမယ်"

ဒေစီကျိန်းရဲ့နောက်ဆက် ညစ်တီးညစ်ပတ်စကားတွေကိုပဲ မိန်းမက လက်အုပ်ချီ နာခံယုံကြည်လို့ နေတယ်။

"ဟဲ့... ဟိုကောင်မ တစ်ယောက်ကရော။ ရှေ့တိုးဟဲ့၊ အမေ့နားလာ၊ လင်မူကြောင့် ရင်ထုနေရတဲ့ကောင်မ၊ ဘာမှ မပူနဲ့။ အမေ မြန်မြန်ပေးမယ်။ အမေ ထာဘီတစ်ခါယမ်းရှိတယ်ဟဲ့။ ကိုတက်ခါးတုန်းကလည်း အမေ့မယ် ဒီလိုပဲ၊ ကြားလားဟဲ့... ဟိုကောင်မ"

ရွှေတွေ၊ စိန်တွေ သီးနေတဲ့ မျက်နှာမသာမယာနဲ့ မိန်းမ တစ်ယောက်က ရွှေတိုးပြီး လေးဆယ့်ငါးကျပ်တန် တစ်ရွက်ဆက် တယ်၊ တစ်ခါတည်း အမေရှမ်းက ဖြတ်ဆိုးပြီး လှွင့်ပစ်လိုက်တယ်။

"ငါက ဒီပိုက်ဆံလောက်ကို ဘာလုပ်ရမှာတုံးဟဲ့။ ဟင်း... ညည်းက အမေရှမ်းအတွက်ကျ နမြောတယ်။ အောက်လမ်းတွေနဲ့ ကုတ်ရိုက်ဖို့ကျ ကုန်ချင်သလောက်ကုန်၊ ဟုတ်လားဟဲ့"

"မဟုတ်ပါဘူး အမေရယ်၊ ကျေနပ်ပါ။ အမေ့သား ပြန်လာတော့ မျှော်ပွဲများ ကျင်းပါ့မယ်"

"ဟော့... မလိုချင်ဘူး။ ခုချက်ချင်းလုပ်၊ လေမလိုချင်ဘူး။ လေပေးရင် လေရမှာပဲ၊ နတ်ကလည်း ရှင်းရှင်းပဲ ပြောတတ်တယ်"

ဟော... လုပ်ကုန်ပြီ။ ဒေစီဂျိန်းစကားတွေ ပါလာပြီ။ ထုံးစံ အတိုင်း မင်းမင်းက စပ်ပြုံးပြုံးနဲ့ ဟိုမိန်းမကို အသာမေးငေါ့ပြရင်း အခြေအနေကို ဝင်ထိန်းရတယ်၊

ဟိုမိန်းမက ပိုက်ဆံအိတ်ဖွင့်ပြီး နှစ်ရာတန်တစ်ချပ် ထုတ်ရှာပါ တယ်၊

"လမ်းဆုံက ဂျမ်းဘုံ၊ နှမည်တစ်လုံးနဲ့နေတာ၊ သူများဆီ မသွားခဲ့ ရစေကို အတင်း ဓားပြတိုက်မတောင်းဘူး။ မကျေနပ်ရင် ပြန်ယူ သွားပါ"

ကြည့်... ကြည့်၊ လုပ်လိုက်ပါလိမ့်မယ်၊ ဒေစီဂျိန်းတို့ကတော့ လုပ်လိုက်ပါလိမ့်မယ်။ ဟိုမိန်းမယ် ကျေနပ်ပါ အမေရယ်... အမေ ရယ်နဲ့ ပြောလိုက်ရတာ။ မင်းမင်းကပါ "ကျေနပ်ပါ အမေ" ဘာညာနဲ့ ဝင်ထိန်းမှ နောက်မိန်းမတစ်ယောက်ဆီကို ကူးသွားတယ်၊

ဒီလိုပဲ ဒေစီဂျိန်းတို့ကတော့ မင်းမင်း ဘယ်လိုပြောပြ၊ ပြောပြ ဘယ်တော့မှ မရဘူး။ ကိုယ့်အလုပ်က သူတို့ဆီက ပိုက်ဆံရအောင်

တောင်းဖို့ အရေးကြီးတာ၊ ပါးစပ်ကလေးပဲ၊ ပါးစပ်ကလေးက လိမ္မာဖို့ပဲ၊ ချိုသာဖို့ပဲဆိုတာ ဘယ်တော့မှ နားမလည်ဘူး။ ငါက ချိုချိုလေးနဲ့ လိမ်ရမှာပေါ့ဆိုတာတွေက လုပ်လိုက်သေးတယ်။

ဒါ လိမ်တာမှ မဟုတ်တာ၊ မင်းမင်းကတော့ ကိုယ် ထမင်းစား နေတဲ့ ဒီအလုပ်ဟာ လိမ်စားတဲ့အလုပ်လို့ မထင်ပါဘူး။ ပိုက်ဆံတွေ ပိုလျှံနေတဲ့သူတွေက သူတို့အကျိုးအတွက် ပေးတဲ့ပိုက်ဆံကို မင်းမင်း တို့ ခွဲဝေစားကြတာပါ။ ဒေစီကျိန်းကို မှီခိုနေတဲ့အဖွဲ့၊ ဆိုင်းမိသားစု၊ နောက်ဆုံး ငှက်ပျောသီး၊ အုန်းသီးသည်လေးတွေအဆုံး ခွဲဝေစားကြ ရတယ်။

ဒီခေတ်ကြီးမှာ မိသားစုတော်တော်များများကို ဒီအလုပ်က ထမင်း ဝအောင် ကျွေးနိုင်တယ်လေ။ ဒီတော့ ပိုက်ဆံတွေ ပိုနေတဲ့သူတွေဆီက ပိုက်ဆံရအောင် တောင်းတာဟာ တရားတယ်လို့ မင်းမင်းထင်တယ်၊ အရှုပ်မကြီးရယ်၊ ခင်ဗျား ကြော်လော်နေတာတွေဟာ မိသားစု တော် တော်များများ ထမင်းစားဖို့ ဖြစ်တဲ့အတွက် ခင်ဗျား ကူသိုလ်ရပါတယ်။

"အေး...အေး၊ လိုချင်တာရစေ့မယ်ဆိုရင် ကျေနပ်တယ် မဟုတ် လား၊ အမေ့မှာဘီ တစ်ခါမယာမ်းရပါဘူး သမီးရဲ့၊ ဟုတ်ရဲ့လား"

ဒေစီကျိန်းတစ်ယောက် ကြော်လို့လော်လို့ ကောင်းနေတုန်းမှာပဲ မိန်းမတစ်ဖွဲ့ တပုန်းဗုန်း အိမ်ပေါ်တက်လာကြတယ်။

"ကိုဘစီ... ကိုဘစီ၊ ကျုပ်တို့ ဆွဲကြိုးဖြုတ်ခံရလို့"

"ဘာဟဲ့"

အမေကျမ်း ရုတ်တရက် ကြောင်သွားတယ်။ မိန်းမတွေက ဒေစီ ကျိန်းကို ကိုဘစီပဲ ခေါ်တဲ့ အောက်ဘက်က ရွှေမျိုးတောသူဒွေးတွေ၊ ပြီးတော့ ဒီနေ့ညနေ တက်ပွဲဒကာတွေ။

"ဟဲ့... ဘယ်သူ့ဆွဲကြိုးလဲ"

ခေဒီကျိန်းတို့ကတော့ ချက်ချင်း ခေဒီကျိန်းဆီက အမေဂျမ်း လိပ်ပြာ ရွာသွားတယ်။

"ကျုပ်ဆွဲကြိုးလေး၊ နှစ်ကျပ်သား ကြိုးကြီး။ လုပ်ပါဦး ကိုဘစီ၊ နတ်မေးပါဦး"

"ခြော်...ဟဲ့... ငါ မပြောလိုက်ချင်ဘူး။ ခါးပိုက်နှိုက်က ဖြတ် သွားတာ နတ်က တတ်နိုင်မလား။ ကဲ... ညည်းတို့ ငါ့ အတန်တန် မှာလိုက်ရဲ့သားနဲ့။ ဟဲ့... မင်းမင်း လာ"

ခေါ်ပြီ ခေါ်ပြီ၊ သူလုပ်ချင်ရာတွေ လုပ်ဖို့အတွက် မင်းမင်း ခေါ်ပြီ၊ ဒီမှာ... အမေဂျမ်း ပရိသတ်တွေကို ပြေလည်အောင် မင်းမင်း က ရှင်းပြနေတုန်း ရှိသေးတယ်။

"ဘာလဲ...ဘာလဲ ခင်ဗျားက ဘာလုပ်မှာလဲ"

"ဟဲ့... ဘာလုပ်ရမှာလဲ၊ ရဲစခန်းတိုင်မှာပေါ့။ သွား... နင်က ရဲစခန်းမှာ တိုင်ချက်သွား ဖွင့်၊ ငါက ငွေခင်ဆီ သွားမယ်"

"ဘာလုပ်ဖို့လဲ။ ငွေခင်က ဘာလုပ်ဖို့လဲ"

"ဟဲ့... နင်သိသားနဲ့။ မပွဲချင် ငွေခင်ဆီသွား၊ ကိုယ်က အရှုပ် အမှုကိစ္စဖြစ်ပြီ။ သူ့ဆီက ရဲစခန်းထက်တောင် မြန်ချင်မြန်ဦးမယ်။ သွား... သွား... ငါပြောတာလုပ်။ ဟဲ့... ပိုက်ဆံရှိရဲ့လား။ ရော့... ပိုက်ဆံက ပါသွားမှ"

လုပ်တော့မယ်၊ လုပ်တော့မယ် ကြည့်၊ ခုန အမေဂျမ်း မိန်းမတွေ ဆက်ထားတဲ့ ပိုက်ဆံတွေထဲက နှစ်ရာတန်တစ်ချပ် လှမ်းယူတယ်၊ တော်သေးတယ်။ ဟိုဆွဲကြိုးဖြတ်ခံရတဲ့ မိန်းမက ဒီကယူ... ဒီကယူ ဆိုပြီး ပိုက်ဆံလှမ်းပေးလို့၊

ဟော... သူကတော့ အိမ်နေရင်းဝတ် ပုဆိုးထဘီ ဖိုသီဖတ်သီ ကြီးနဲ့ ခုံဖိနပ်ကြီးစီးပြီး ဘောက်ဆတ် ဘောက်ဆတ်နဲ့ ထွက်သွားပြီ၊

"အဖော်တစ်ယောက် ခေါ်သွားပါလား"

"မလိုဘူး၊ ဘယ်သူမှ မလိုက်ခဲ့နဲ့"

ဒေစီကျိန်းက ပြန်အော်ပစ်လိုက်ပြီး ဘောက်ဆတ် ဘောက်ဆတ်နဲ့ ကနားတဲခန်းတွေကြားထဲ တိုးဝင်သွားတယ်၊ သွားရင်းက အိတ်ထောင်ထဲက မျက်မှန်ကို ထုတ်တပ်တယ်၊ မျက်စိက မှုန်ပြီလေ၊ မျက်မှန်က တပ်ရပြီ၊ ငါးဆယ်ကျော် ခြောက်ဆယ်တွင်းပဲ မှုန်ပြီပေါ့၊ လူကသာ အရွယ်တင်လို့ ငါးဆယ်ကျော် မထင်ရတာ၊

ငွေခင်ကို ဘယ်မှာ လိုက်ရှာရပါ့မလဲ၊ ဒါလောက် ပြွတ်သိပ် တိုးနေတဲ့ ကနားတဲတွေကို တစ်ကနားဝင် တစ်ကနားထွက် လိုက်ရှာရင်တော့ သေလိမ့်မယ်၊ ဒီအခြောက်မ ကနားက နေရာအတည်တကျ ရှိတာ မဟုတ်ဘူး၊ ဒီနှစ် တစ်နေရာ၊ နောက်နှစ် တစ်နေရာ၊ ပြောင်းချင်ရာ ပြောင်းနေတာ၊

ဒီဟာမက လူပေ၊ လူတေ၊ လူရွှတ်မ၊

နာမည်တစ်လုံးနဲ့နေတာ၊ "မေချင် ငွေခင်ဆီသွား" တဲ့၊

သူ့နာမည်ရင်းက သောင်းခင်ပါ၊ ရှုပ်ရမယ့်ကိစ္စ၊ မေ့ရမယ့် ကိစ္စမှန်သမျှ သူ မပါရင် မပြီးဘူး၊ ပြီးတော့ ဘယ်အချိန်ဖြစ်ဖြစ် သူ့ကြည့်လိုက်ရင် ဘိုင်ပြတ်နေတာချည်းပဲ၊ သူ့လက်ထဲ ပိုက်ဆံက ဘယ်တော့မှ ကြာကြာမနေဘူး၊

ဒါကြောင့် သူ့ကို ဝိုင်းပြီး ငွေခင် ငွေခင်နဲ့ ခေါ်ရင်းက ငွေခင် ဖြစ်သွားရော၊ ပွဲတော်တွင်းမှာ အတိုးနဲ့ ငွေချေးချင်လား၊ ရွှေပေါင်ချင်သလား၊ ရောင်းချင်သလား၊ နတ်ပုံတော် ပေါင်ချင်သလား၊ ကြက်ဖလား ပေါင်ချင်သလား၊ တောင်ရှည်ပုဆိုး ပေါင်ချင်သလား၊ ထိုင်မသိမ်း ပေါင်ချင်သလား၊ မိန်းမလျှာ ယောကျ်ားချင်း အလဲအလှယ် လုပ်မလား၊ ယုတ်စွအဆုံး ခါးပိုက်နှိုက်စံရရင်တောင် သူ့ဆီ သွား

စုံစမ်း၊ ရဲစခန်းထက် မြန်မြန်သိနိုင်တယ်။

သူ့ကို ကိုးကွယ်တဲ့သူတွေထဲမှာ ခါးပိုက်နှိုက်တွေ ပါတယ်လေ။ ကဲ... ဟုန်ရော၊ အဲဒီတော့ အရှုပ်အပွေကိစ္စတွေနဲ့ ပတ်သက်ရင် ငွေခင်ဆီသွား။ "မပွချင် ငွေခင်ဆီသွား" ပဲ။

သူနဲ့ ဒေစီကျိန်းတို့ကျ တစ်ရွယ်တည်း၊ ရွယ်တူသူငယ်ချင်းတွေ။ တောင်ပြုန်းပွဲကို ရောက်တာကျ ငွေခင်က စောတယ်။ ဒေစီကျိန်း ရောက်တဲ့နှစ်မှာ သူက အလည်မဖြစ်နေပြီ။ နန်းကြီးရှေ့ သံတံခါး ရှိရာမှာ စုန်ကြရင်း သူငယ်ချင်းဖြစ်သွားကြတာ။ မဟုတ်တာ မှန်သမျှ သင်ပေးတဲ့ဆရာလည်း ဆရာပေါ့။ ဒေစီကျိန်းနဲ့ကို အောက်ဘက်က နတ်ကနားပွဲတွေ လိုက်ကနေသေးတယ်။ ဟိုတုန်းက သူကလည်း ဆံပင်ရှည်နဲ့၊ ဆံပင်တစ်ရပ် လူတစ်ရပ်။ အောက်ဘက်က နတ်ဆိုရင် ဆံပင်ရှည်နဲ့မှလေ။

"ဟဲ့... ဒေစီကျိန်းကြီး၊ ဘယ်တုံးဟဲ့။ လင်ပျောက်လို့လား"

အေးကနားတဲတွေဆီက လှမ်းအော်တဲ့ အခြောက်မ အသံပြာပြာ ပေါ်လာတာနဲ့ ဒေစီကျိန်းက မိန်းမလျာတို့ရဲ့ပင်တိုင် လက်သုံးအဆဲ ဖနဲ့ ကိုင်တုတ်ပစ်လိုက်တယ်။ ကြည့်စမ်း၊ ဘယ်သူလဲလို့၊ လက်ကောက်မ မိနွှေလေ။ မိတ်ကပ်တွေနဲ့၊ ပန်းတွေနဲ့၊ ကြွေကလပ်ရှေ့မှာ စီးကရက်ကြားညှပ်နဲ့ ကြော်လှော်နေတာလေ။

"ဟဲ့... ငွေခင့်နန်းက ဘယ်နားမှာလဲဟဲ့။ လက်ကောက်မ"

"သူက နတ်သမီးပဲဟဲ့။ တာဝတိံသာမှာ နေမှာပေါ့"

ဒေစီကျိန်းက ဒုတိယအကြိမ် ဖနဲ့ကိုင်တုတ်လိုက်ပြန်တယ်။

"ဟဲ့... ပြောစမ်း၊ ဘယ်နားမှာတုံး"

"တကယ်မသိဘူး။ သူများတွေ မေးသွား"

ဒေစီကျိန်း နောက်တစ်ကြိမ် ထပ်ဆဲပြီး ဘောက်ဆတ် ဘောက်

ဆတ်နဲ့ ကနားတဲတွေကြား တိုးပြန်တယ်။

လက်ကောက်မဆိုတဲ့ဟာမ ပါးရေ နားရေ တွန့်တာတောင် အရှိုး က မပြောင်းဘူး။

ဒေစီကျိန်းရယ်၊ ငွေခင်ရယ်၊ လက်ကောက်ရယ်က သက်တူရွယ် တူ သူငယ်ချင်းတွေ။ ဟိုတုန်းက မိန်းမလျှာပေါက်စလေးတွေဘဝနဲ့ တောင်ပြုန်းမှာ အတွဲညီခဲ့ကြတာပေါ့၊ ဘာမှ မသိဘူး၊ လုလုပပ ဝတ်စားပြီး သံတဲခါးရိုးရာ ကဖို့ရယ်၊ လူတွေနဲ့ တရှုန်းရှုန်းလုပ်ဖို့ရယ် ဒါပဲ။ အချိန်တန် သူငယ်ချင်းသုံးယောက် ဖြီးလိမ်းပြီး ထွက်ကလိုက် ကြ၊ ပျော်လိုက်ကြ၊ မိုးလင်းပေါက် လျှောက်သွားပြီး ပြန်လာအိပ်၊ နိုးတာနဲ့ ရေမိုးချိုးစားသောက်၊ ပြင်ဆင်ပြီး ပြန်ထွက်၊ ဘယ်လိုပျော်မှန်း မသိဘူး။

သူငယ်ချင်းသုံးယောက် ကနားတဲလေး တစ်တဲမှာ စုငှားနေကြ တာ။ တစ်နှစ်တာတော့ ငှားတဲ့လူတွေများတယ်။ နင်တို့က လူရှင်းတွေ၊ နင်တို့လည်း ကျယ်ကျယ်ဝန်းဝန်း နေရအောင် ဘုန်းကြီးကျောင်းထဲ နေကြဆိုပြီး ကနားတဲတွေ ငှားစားတဲ့ မသိန်းသိန်းဆိုတဲ့ မိန်းမက လောဘတိုက်ပြီး ဒေစီကျိန်းတို့ကို ဘုန်းကြီးကျောင်းဝင်းထဲ ထားပေး တယ်။ ဒါပေမယ့် သူတို့ချင်း ပိုက်ဆံအဝေမတည့်မှုနဲ့ ဘုန်းကြီးက ပစ္စည်းတွေ ဆွဲလွှင့်ပစ်ပြီး ကျောင်းထဲက နှင်ထုတ်လိုက်တာပေါ့၊

သူငယ်ချင်းသုံးယောက် ဘုံပျောက်ရော။ ရယ်လည်း ရယ်ရ၊ စိတ်ကလည်း ညစ်ပေါ့။

"ဟော့… အချိန်တန် အမှန်ဖြစ်ရင် ကျေနပ်တယ် မဟုတ်လား၊ ဘုရင်ကျော် သခင်ကျော်၊ ဖေကြီးကျော်အကြောင်း သိတယ်မဟုတ် လားဟော့"

ဟိတ်နဲ့ ဟန်နဲ့ ကြိမ်းမောင်းလိုက်တဲ့ အသံလာရာဆီကို ဒေစီကျိန်း

လှမ်းကြည့်လိုက်တော့ အလို... နတ်မိမယ် စိမ်းကလျာပါလား။ မကြာခင်က လင်နဲ့ကွဲထားတဲ့ စိမ်းကလျာ။

"လိပ်ပြာရှင်က လင်တရှူးနေတာပါတော့။ လင်တရှူးနေတာပါ"

ဒေစီကျိန်းက အော်အော်လျှောက်လျှောက် လျှောက်ရင်း နောက်ပစ်ခဲ့တယ်။ ဖကြီးကျော် ပုံးနေတဲ့ စိမ်းကလျာကတော့ နောက်သွားတဲ့ ဒေစီကျိန်းကို ဒေါသဖြစ်ဖြစ်နဲ့ စိတ်ထဲမှာပဲ ဆဲနိုင်တော့တယ်။

ညော်နံ့တွေမွှန်ပြီး ကက်ဆက်သံ ဆူညံမှုက်နေတဲ့ လက်ဖက်ရည်ဆိုင် တစ်ဆိုင်နားက ဒေစီကျိန်းဖြတ်တော့ ဆိုင်ထဲက လူပြောင်လူနောက်လေးတစ်ရက မကြားတကြား လှမ်းစတယ်။ ကျိန်းစွန်းမကြီးတို့ ဖြစ်သွားလိုက်ပုံများ သဘောကျတဲ့ မျက်စောင်းကို ချိတ်၊ တင်ပါးကို ယမ်းတဲ့ပြီး ဖြစ်သွားတာ၊ ခြောက်ဆယ်ကျော်ပေမယ့် ဖောက်သည်က မျှော်ချင်သေးတယ်။

"ကျိန်း... ဘယ်လိုလဲ"

"ဩော်... မလွှမ်း၊ ငွေခင့်လိုက်ရှာနေတာ"

ဒီတစ်ခါတော့ ဒေစီကျိန်းက ကောင်းကောင်းမွန်မွန် ရပ်နှုတ်ဆက်တယ်။ မိန်းမလျာ အလွှမ်းက ရန်ကုန်သူ၊ ဗိုင်းကောင်းကျောက်ဖိတရုတ်ကပြားမ၊ ဘွဲ့ရတွေဘာတွေ ရပြီးသား၊ မျက်မှန်လေးနဲ့ ပိန်ပိန်ဖြူဖြူ၊ ခပ်အေးအေး နေတတ်တယ်။ သူ့လည်း သူ့ဟာနဲ့သူ ကိုးကွယ်သူ့တွေနဲ့ တန်ခိုးထက်သား။ ဒါပေမယ့် မိန်းမလျာမတို့ ထုံးစံအတိုင်း လင်ကို အမ်းရတာနဲ့ ကုန်တာပဲ။

"ငွေခင် ဘယ်နားမလဲ သိလား"

"ဟိုခင်း... အရင်သူဌေးကုန်း ရှိပါရောလား။ အဲဒီ မြောက်နားမယ် ပြောတယ်"

"ဟုတ်ပြီ ဟုတ်ပြီ၊ သွားမယ် မလွှမ်း"

ဒီဟာမ ငွေခင်ဟာ သူငွေးကုန်းနားကကို မခွာနိုင်ဘူး။ သူငွေးကုန်းပျက်တာတောင် ဒီနား ဝဲလည်လှည့်နေတယ်။ အင်း... မလွှမ်းပြောသလို အရင်သူငွေးကုန်းဆိုတာ ဟိုတုန်းက တကယ်ရှိခဲ့ဖူးတာပေါ့။

ရန်ကုန်တို့၊ မန္တလေးတို့၊ မော်လမြိုင်တို့၊ ပုသိမ်တို့ မြို့ကြီးတွေက သူငွေးကတော်တွေ၊ သူငွေးမတွေ အခေနများတဲ့ ကနားတဲအစုလေးပေါ့။ ပိုက်ဆံကလည်း ပေါပေါ၊ လွတ်ကလည်း လွတ်လပ်၊ မိန်းမလျာဆိုတဲ့ဟာတွေကလည်း (ကိုယ်ကာစပြီး) အကြော်အလှော်တွေကတတ်ကြပါဘိသနဲ့၊ အမျော်တွေစုံ ကုန်ကြတာပေါ့၊ မိန်းမလျာတွေရဲ့လင်လေးတွေနဲ့ ခပ်ရှုပ်ရှုပ်သူငွေးမ၊ သူငွေးကတော်တွေရဲ့ ဇာတ်လမ်းတွေ။ ခပ်လည်လည် ယောကျ်ားတစ်ပိုင်း မိန်းမလျာတွေနဲ့ ဇာတ်လမ်းတွေ။ သူငွေးမတွေ၊ သူငွေးကတော်တွေ ပိုက်ဆံကုန်၊ ဆွဲကြိုးကုန်၊ လက်ကောက်ကုန်၊ နောက် ပါသမျှကုန်ရော။ အဲဒီမှာ အဲဒီနေရာ ကနားတဲအစုလေးကို သူငွေးတွေ ကုန်လို့ "သူငွေးကုန်၊ သူငွေးကုန်" နဲ့ ခေါ်ရင်း ကာလရွေ့လျားတော့ "သူငွေးကုန်း" ဖြစ်သွားရော။

သူငွေးကုန်း စည်ကားစဉ်က ငွေခင်တို့က သူ မပါရင် မပြီးတဲ့ ဆရာမကြီးပေါ့။ ဘယ်သူငွေးမရဲ့ ကောင်လေးနဲ့ ဘယ်သူငွေးမရဲ့ ကောင်လေး အလဲအလှယ်၊ ဘယ်သူငွေးမ လက်ကောက် အရောင်းအဝယ်၊ ဆွဲကြိုးအရောင်းအဝယ်၊ သူငွေးမတွေ ဆေးထိုး၊ ဆေးစားကိစ္စ။ သူအကုန်ပါ။ ပွဲချင်ရင် ငွေခင်ဆီသွား၊ ပွဲချင်သမျှ ငွေခင်ရပဲ။ သူငွေးကုန်း ကောင်းစားစဉ်ကပဲ သူ့လက်ထဲ ငွေမပြတ်တာ တွေ့ဖူးတယ်။

သူငွေးကုန်းပျက်တော့လည်း တချို့သူငွေးမတွေ သနားစရာကြီးပါ။ တွေ့တဲ့ကောင်လေး စွဲလမ်းပြီး နောက်နှစ်လာကုန်၊ နောက်နှစ်လာ

ကုန်နဲ့ နောက်ဆုံး အိမ်ထောင်တွေ ဘာတွေ ပျက်ပြီး ကောင်လေးရဲ့ မိန်းမ မိန်းမလျှာ နတ်ကတော်ဆီမှာ ခိုကပ်နေရင်း ထမင်းချက်တွေ ဘာတွေဖြစ်လို့၊ ယုံနိုင်စရာမရှိဘူး။ ဝဋ်တွေပေါ့။ ဝဋ်တွေ… ဝဋ်တွေ။

ဒီနားပေါ့။ အရင်သူဌေးကုန်းဟာ ဒီနားပေါ့။ ကနားတဲတွေပေါ်မှာ တဲနဲ့မလိုက် ကော်ဇောကြီးတွေ၊ လေးဆင့်ချိုင့်ကြီးတွေ၊ ရေခဲချိုင့်ကြီးတွေ၊ ဇာခေါင်းအုံး၊ ဖဲခေါင်းအုံးကြီးတွေနဲ့။ စိန်ရောင် ရွှေရောင်တွေက လည်း ဖျတ်ဖျတ် ဖျတ်ဖျတ်။ အိုး… ကောင်ငယ်အရွယ်အစားစား လေးတွေကလည်း ခြေချင်းလိမ်လို့။ စားကြ၊ သောက်ကြ၊ ရယ်ကြ၊ မောကြ၊ ညကြလို့။

ဒီသူဌေးကုန်းကို ဒေစီဂျိန်း ပုဆိုးထဘီအလဲတင်ပြီး လိုက်ခဲ့ဖူးပေါ့ တော်။ အိမ်ကဟာလေးပေါ့။ ဘယ်သူရှိရဦးမတုံး။ တစ်နှစ်ဟာ ညကြီး ပြန်မလာ၊ ပြန်မလာနဲ့ လက်စသတ်တော့ သင်းက အဲဒီကုန်း ရောက် နေတာကိုး။ အိုး… ဂျိန်းဇဘွန်းမပဲ မနက်လေးနာရီ ထသွားတာ။ အချိန်ကောင်းကို သွားတာ၊ အဲဒီအချိန်က အရက်ခွဲလို့ အကောင်းဆုံး အချိန်လေ။ ဟိုမှာ ရန်များဖြစ်ရရင် ဘယ်လိုပြန်ပြောမယ်ဆိုတာ တစ်ညလုံး စာစီထားတာ။

သူဌေးကုန်း ရေ့တည့်တည့်ကနေ ရှက်ပြီးပြန်ပြောရင်း ဘယ်လို ပြောမယ်ဆိုတာ တစ်ညလုံး စာစီထားတာ။ သူဌေးကုန်း ရေ့တည့် တည့်ကနေကို လှမ်းပြီး ခုနစ်သံဘင်ပစ်လိုက်တာ၊ "ဟဲ့… မင်းမင်း ထွက်ခဲ့စမ်း" ဆိုတာက အစချီပြီး တတ်သမျှ မှတ်သမျှ အဆဲအဆို အယုတ္တ အနတ္တတွေနဲ့ ကြိမ်းလိုက်တာ သူဌေးကုန်းကို ငြိမ်လို့၊ ဂျိန်း ဇဘွန်းမအကြောင်း၊ သိတဲ့ မိန်းမလျှာတွေကလည်း ဘယ်လှုပ်ရဲမလဲ။ သူဌေးကုန်းတစ်ခုလုံးကို ပုပ်စော်ပိုနံအောင် အပုပ်ရည်တွေ ထပ်ဖြန်းပစ် ခဲ့တယ် အေးရော။

ဟိုကောင် မင်းမောင်ကိုလည်း မှတ်လောက်သားလောက်အောင် လက်ဆွဲပြီး တစ်လမ်းလုံး အော်အော်ပြီး ပြလိုက်တယ်။ "ဟောဒီမှာ ကျုပ်လင် အရှက်မရှိတဲ့ သူဌေးကုန်းက ခေါ်ခဲ့ရတာပါတော့။ ကြည့်ကြပါတော့"နဲ့ ကောင်းကောင်း အရှက်ခွဲပေးလိုက်တယ်။ ဒါမှ သင်းမှတ်မှာ။ နောက်မလုပ်မှာ။

အရင်နဲ့မတူတဲ့ သူဌေးကုန်းဟောင်း ကနားတဲလေးတွေ နားကနေ ငွေခင်ရှိမယ့်ဘက် ဒေစီကျိန်း ဖြတ်အထွက် ဂျိန်းဘွန်း မျက်လုံးတွေက ကနားတဲ တစ်တဲထောင့်မှာ အကျီလဲနေတဲ့ အရင်သူဌေးကုန်းရဲ့ ရုပ်ပါတော်၊ သူဌေးမကြီးတစ်ယောက်ကို မြင်ဖြစ်အောင် လှမ်းမြင်တယ်။

"ဟယ်... သူဌေးမကြီး၊ ဆံပင်တွေကို ဖြူလို့၊ တောင်ပြန်းပြန်လာပြီလား၊ သူဌေးကုန်း ပြန်ဖွင့်ဦးမလို့လား"

ဒေစီကျိန်းမုန်း သိတာနဲ့ မိန်းမကြီးက မျက်နှာပျက်သွားပြီး ချက်ချင်း ပြန်ပက်တယ်။

"မိန်းမချောင်အလုပ်တွေ မိန်းမလျာတွေပဲ လုပ်တာဟေ့ သိလား"

"အေး... ဟုတ်တယ် ဟုတ်တယ်။ ကျုပ်တို့ကတော့ မိန်းမချောင်ပဲ၊ အမြိတမ်းကို ရှင်နေတာ၊ တော်တို့ကမှ ကြေးမရတဲ့ အကြီးစား"

တဲ... မှတ်ပြီလား၊ ဒေစီကျိန်းပါတဲ့၊ မိန်းမလျာပါတဲ့၊ မိန်းမလျာလာမစမ်းနဲ့၊ မိန်းမလျာ ဆိုတာ အရှက်ကုန်ပြီးသား၊ မွေးကတည်းက ဆိုင်းဘုတ်တင်ထွက်လာတာ၊ ပက်ခနဲ ပြောချပြီး ဘောက်ဆတ်ဘောက်ဆတ်နဲ့ ထွက်လာတဲ့ ဒေစီကျိန်းနောက်မှာ သူဌေးမအိုကြီး ကုပ်ပြီး ကျန်ရစ်ခဲ့ရှာတယ်။

"အို... လေလွင့်ရှက်ပါ၊ လေလွင့်မ နင့်လိုက်ရှာရတာနဲ့ ငါ အသက်ထွက်တော့မယ်ဟဲ့"

ကနားတဲရှေ့မှာ အရက်ခွက်ကိုင်ပြီး ထိုင်နေတဲ့ ငွေခင်ကို

တွေ့တွေ့ချင်း ဒေစီဂျိန်းက ဖအော်လိုက်တာနဲ့ ငွေခင်က မိန်းမလျာတို့ရဲ့ နှုတ်ဆက်အဆဲနဲ့ တုံ့ပြန်လိုက်တယ်။

"ဘာကိစ္စ နင်က ငါ့လိုက်ရှာရတာလဲ။ လင်လဲချင်လို့လား"

ဒေစီဂျိန်းက တစ်တစ်ခွခွ တစ်လုံးဆဲလိုက်ပြန်တယ်။ ငွေခင်ကတော့ သူ့မူပိုင်ဟန်အတိုင်း ပုဆိုးလတ်လတ်ပေါ်မှာ ရုပ်အင်္ကျီလက်တိုကြောင်ကြောင်ကျားကျား အပြင်ထုတ်ဝတ်လို့ လက်တစ်ဖက်က အရက်ခွက်၊ တစ်ဖက်က စီးကရက်၊ မျက်နှာလေးက လုံးလုံး၊ နှုတ်ခမ်းပါးနဲ့ မျက်လုံးလေး ပေကလတ် ပေကလတ်နဲ့ ဒီနေ့ ဘာများရှုပ်ရမလဲလို့ စဉ်းစားနေတဲ့ပုံ။

"ဟဲ့... ငွေခင်၊ ငါ့အမျိုးတစ်ယောက် ခုနကတင် ဆွဲကြိုးဖြတ်ခံရလို့ နင် စုံစမ်းပေးစမ်းပါ"

"အို... ငါနဲ့ဘာဆိုင်လို့လဲ။ ငါက စခန်းမှူးမှ မဟုတ်တာ၊ ရဲမှ မဟုတ်တာ"

ဒေစီဂျိန်းက တစ်ခွန်း ထပ်ဆဲလိုက်ပြန်တယ်။

"ဟဲ့... ခါးပိုက်နှိုက်တွေနဲ့ နင်သိတာပဲ၊ နင့်လင်တွေပဲ"

"အလိုတော်... မသိပေါင်၊ ရဲကြားရင် ငါ ဖမ်းခံရအောင် နင် လာလုပ်မနေနဲ့။ ခါးပိုက်နှိုက်တွေနဲ့သိရအောင် ငါက သူတို့ဂိုဏ်းချုပ်ကြီးလည်း မဟုတ်ဘူး၊ သူတို့ အခါပေးလည်း မဟုတ်ဘူး"

ဒေစီဂျိန်းကတော့ ရစ်နေတဲ့ ငွေခင့်အကြောင်းသိချင်း ဆဲလို့ချည်းသာ နေရတော့တယ်။

"နင့်အဆက်အသွယ်တွေ ရှိသားပဲ။ ငါ့ဆီ ဘာလာရောလိုလဲ၊ နင်က အင်မတန် တန်ခိုးထက်တဲ့ ဇောင်းဆောင်းကြီးပဲ။ နင့်ကိုးကွယ်တဲ့ ကြီးကြီးမာစတာတွေ၊ သူဌေးတွေ ရှိသားပဲ။ ငါက နှုတ်ကတော် အစုတ်အပြတ်၊ ဘာလုပ်ပေးနိုင်မှာလဲ"

ရစ်ချင်တိုင်း ရစ်နေတဲ့ ငွေခင့်ကို ထဲနေ၀် ‘လို့ ဒေစီကျိန်း ဘာမှမတာတ်နိုင်တော့ဘူး။

“ဟဲ့ကောင်မ၊ အပိုတွေ တော်တော့၊ အရက်ပေးစမ်း၊ အရက်မရှိဘူးလား”

“မရှိဘူး၊ ငါ့လာမစီးနဲ့”

“ဟဲ့... ငါ့ကို နင်လိမ်ပြန်ပြီ။ နင့်တဲထဲမယ် ရမ်သေတ္တာကြီး ငါမြင်ခနရဲ့သားနဲ့”

ငွေခင်က ကနားတဲထဲကို တစ်ချက် လှမ်းကြည့်လိုက်တယ်၊

“အေး... အဲဒါမြင်လို့ အထင်မကြီးနဲ့။ ငါ့ဟာ မဟုတ်ဘူး။ မန္တလေး တရုတ်တန်းက တရုတ်ကလေး ညီအစ်ကို ရောင်းဖို့ လာပို့ထားတာ။ မနေ့က တစ်လုံးဖောက်သောက်မိလို့ နှစ်ရာနှစ်ဆယ် ထည့်ရဦးမယ်၊ ဟိုဘက်မယ် ရှိသေးတယ်။ ပက်စီသေတ္တာ၊ ဟိုနား အဓအားဆိုင်က ကောင်မလေး လာပို့ထားတာ၊ ရောင်းဖို့။ မုနကမှ သောက်ချင်လို့ တောတစ်ဆယ်ဖိုး သွားဝယ်လာတာ၊ အထင်မကြီးနဲ့၊ ငွေခင့်အကြောင်း နင်သိတယ်။ ပုံတော်တွေ ကာထားတဲ့ တင်းတိမ် အနီက မြစ်ကြီးနား ဆရာတင့်ဆီက ငှားထားတာ၊ ကန်တော့ပွဲ နစ်ပွဲက ရွာထဲက မွေးစားသမီး လာပို့သွားတာ၊ အပေါ်မှာ တန်းထား တဲ့ ကျပ်တန်လေးတွေက တပည့်တစ်ယောက် လာလုပ်သွားတာ”

“ဟဲ့... ဒါလောက်လည်း မကြွားပါနဲ့”

ငွေခင်တို့ကတော့ ပြောကာမှ ပိုဆိုးတော့တယ်၊

“ငွေခင်တို့က သစ်ငုတ်မြင့်တုံ၊ မြက်မြင့်တုံနဲ့ နေရတာ။ ဖြစ်သလိုပဲ။ ဆန်လေးလုံးချင်းပဲ ဝယ်စားတယ်။ မီးသွေးဖို တစ်လုံးရှိတယ်၊ တစ်နေ့က ဈေးထဲသွားပြီး ထမင်းဟင်းချက်ဖို့ မြေအိုးသုံးလုံး ဝယ်ခဲ့တယ်။ အကောင်းက ဆယ့်ငါးကျပ်၊ အရှုံ့က တစ်ဆယ်ဆိုတော့

အရှုံ့နှစ်လုံး ဆယ့်ငါးကျပ်နဲ့ ဆစ်ဝယ်လာခဲ့တယ်၊ ခေါက်ရေအိုး ကောင်းတာက အစိတ်၊ နှုတ်ခမ်းပုံတာက ဆယ့်ငါးကျပ်တဲ့။ နှုတ်ခမ်း ပုံတာ ယူလာခဲ့တယ်"

ဟော… ကြည့် ကြည့် လုပ်တော့မယ်။ ငွေခင်တို့ကတော့ ဒေစီကျိန်းမယ် မဆဲနိုင်ဘဲ ရယ်ရတော့တယ်။ ပေတဲ့၊ တေတဲ့၊ ရှုတ် တဲ့နေရာတော့ နှစ်ယောက်မရှိတဲ့ ကောင်မ။ ဒေစီကျိန်းတို့ ရှုတ်တာ၊ ရှဲ့တာတွေ သူ့ဘယ်မီလိမ့်မတုံး။

သူ ပိုက်ဆံမရှိတော့ဘူးဆို ဘာလုပ်မယ် မှတ်လဲ။ သူ့ကြက်ဖလား သွားပေါင်မှာ။ ပြီးတော့မှ သူ့တာပည့်တစ်ယောက်ယောက် ရှူဖြိုး လာတော့မှ ငါ့ကြက်ဖလား သွားရွေးဆိုပြီး ခိုင်းတာ။ သူ့ကြက်ဖလား လေးက ငွေအစစ်ကလေးလေ။

ငွေခင်တို့ မေ့တာ၊ ရှုပ်တာတွေကတော့ ပြောစရာရှည်းပဲ။ တစ်ခါဟာ ဒေစီကျိန်းဆီက သူ မိန်းမနှုတ်ချောချင်လို့ ဆိုပြီး မင်းသမီး ထိုင်မသိမ်း ထဘီတစ်ထည် ငှားသွားတယ်။

ဪ… သင်း လုလုပပ ဝတ်ပါစေတော့ဆိုပြီး အကောင်းစား လေး ကိုယ်က ငှားလိုက်တယ်။ ဟိုတုန်းက ပေါ်တဲ့ နှစ်ထပ်ဇာရှိပါ ရောလား။ ဇာအဝါရောင်ပေါ်မှာ ပုလဲတွေ ကပ်ထားလိုက်သေးတာ။ ကိုယ်က အလှကြိုက်၊ အကောင်းကြိုက်ဆိုတော့ သေချာချုပ်ထား တာ၊ အဲဒါကို ငှားလိုက်ပြီး တစ်ရက်လည်း မလာ၊ နှစ်ရက်လည်း မလာ၊ ဒီတောင်ပြုန်းပွဲမှာပေါ့။ ပွဲတော်တွင်းကြီးမှာ။ ဒါနဲ့ တစ်နေ့ကျ တော့ အိမ်က တောက်တိုမယ်ရ အခြောက်မလေးက "မာမီ မာမို့ထဘီ ညကပွဲမှာ မင်းသမီး ရှုပါရုံ ဝတ်ကနေတာ တွေ့ခဲ့တယ်"တဲ့။ ဘယ်ရ မလဲ။ ချက်ချင်း ပွဲထဲ လိုက်သွားတာပေါ့။ နေ့ခင်းကြီး ပွဲနောက်ထဲ ဝင်သွားပြီး ဒေါသဖြစ်ဖြစ်နဲ့ မင်းသမီး ရှုပါရုံ ဘယ်မှာလဲ ဘာလဲနဲ့

မိန်းမလျာတို့ထုံးစံ အော်ကျယ် အော်ကျယ်လုပ်တော့ မင်းသမီးက ရက်လွန်းလို့။ အဲဒီမှာ အရှုပ်မငွေခင်က ရှိတယ်။ မင်းသမီးခုတင် ပေါ်မှာ၊ ဒေစီကျိန်းအသံကြားတာနဲ့ စောင်ခေါင်းမြီးခြုံထားတာ။

ဒေစီကျိန်းက ပြောလွန်းမက ပြောတော့မှ စောင်ခေါင်း မြီးခြုံထဲ ကနေ ဝုန်းခနဲထပြီး "ဟဲ့... ရော့ဟဲ့ နင့်ထဘီ" ဆိုပြီး ပစ်ပေါက် ပေးပြီး ဆောင့်အောင့်ထွက်သွားတယ်။ အဲဒီ မင်းသမီးရှုပါရုံကို သူက တစ်ညနှစ်ဆယ်နဲ့ ထဘီကို ငှားစားနေတာလေ။ ကဲ... ရှုပ်ပုံက အဲဒီလို။

"ဟဲ့... နင် တက်ပွဲနေရာ ရောင်းဦးမလား၊ လိုချင်တဲ့သူ ရှိတယ်"

ဟော... လာပြီ။ ကြည့်၊ ရှုပ်ဖို့ ပွေဖို့ လာပြီ။

"မရောင်းပါဘူး။ အသက်ကြီးပါပြီ၊ ဒါမျိုးတွေ မလုပ်ပါရစေနဲ့၊ ငယ်တုန်းကသာ ပျော်လို့လုပ်တာ"

ငွေခင်က မျက်စောင်းထိုးပြီး ဆဲတယ်။ နှုတ်ခမ်းပါးကလည်း နှုတ်သီးကို ချွန်လို့၊ ဟုတ်တယ်လေ၊ ကြီးကျယ်စကားပြောတာ မဟုတ်ဘူး။ ဒေစီကျိန်း၊ မလုပ်ချင်ပါဘူး။ မင်းမောင်ပြောသလို သိက္ခာရှိရှိနေရမယ့် အရွယ်ရောက်ပြီ၊ ဟိုတုန်းကတော့ ဘာရယ် မဟုတ်ဘူး။ ငယ်တော့ ပျော်တာနဲ့ ကိုယ့်တက်ပွဲနေရာကို ရောင်းတာ။ ကိုယ့်တက်ပွဲနေရာက ရှေ့ကျတာကိုး။ ရှေ့နေချင်တဲ့သူတွေ၊ နံပါတ် ကောင်းကောင်း လိုချင်တဲ့သူတွေက ဝယ်ကြတယ်။ ဟိုတုန်းက ဘာမှ လည်း ကြေးမရပါဘူး၊ အရက်နှစ်လုံးနဲ့ ငွေတစ်ရာလောက် ရတာပဲ။ ခုတော့ ဈေးကြီးမှာပေါ့၊ ဒေစီကျိန်းတို့ လုပ်မယ်ဆိုရတာပေါ့။ ကိုယ်က တက်ပွဲလေး ငါးပွဲရှိတာ။ တစ်ရနေ့နှစ်ပွဲလောက် တက်နေရတာ။ နံပါတ်တွေကလည်း ရှေ့ဆုံးချည်းပဲ။ ကိုယ့်တက်ပွဲဒကာ လိုက်မလာတဲ့

တက်ပွဲမျိုး။ နေရာရှောင်းလိုက် ရတာပေါ့၊ ဒါပေမယ့် မလုပ်ချင်ပါဘူး။ နန်းကြီးသိရင်လည်း ဘယ်ကောင်းမတုံး။ နန်းကြီးကလည်း သိတာနဲ့ ချက်ချင်း အရေးယူမှာ။ နောက်နှစ် လုံးဝ တက်ပွဲနေရာ ပေးတော့မှာ မဟုတ်ဘူး။ လုပ်တဲ့သူတွေကတော့ လုပ်နေကြတာပဲ။

"ဟဲ့... ဒီနှစ် ပခန်းကို ငါ နှင်နဲ့လိုက်ခဲ့မယ် ကြားလား"

"အမယ်လေး... မလိုက်ခဲ့ပါနဲ့။ ရှိကြီး နိုးပါရဲ့ မယ်မင်းကြီးမရယ်"

ဒေစီဂျိန်းက အဟုတ် လက်အုပ်ချီလိုက်တော့ ငွေခင်က ဆဲပြန်တယ်။

"နှင် မော်တော်လိုက်ငှားပေးဦးမလို့လား။ ဘာတဲ့... မော်တော်ဆလင်လေးက နှုတ်ခမ်းမွေးလေးနဲ့ ပြောပါဦး"

ငွေခင်က ဆဲလို့ရှည်းနေတယ်။ ပခန်းသွားတုန်းကလည်း ပခန်းမို့ ငွေခင်ရှုပ်တာတွေလေ။ ပခန်း ဦးမင်းကျော်ပွဲက ပခန်းမှာ တခေါင်းလဆိုပွဲသပ်သပ်ရှိတယ်။ တောင်ပြန်းလိုပဲ နတ်ကတော်တွေ အကုန်သွားရတာပေါ့။ သွားရတဲ့ခရီးကတော့ နည်းနည်းကြမ်းတယ်။

ကားတစ်တန်၊ ရထားတစ်တန်၊ မော်တော်တစ်တန်၊ လှည်းတစ်တန် သွားရတာ။ ရန်ကုန်ကနေ မန္တလေးကို မီးရထားနဲ့။ မန္တလေးကနေ ကားနဲ့ မြင်းခြံသွား။ မြင်းခြံကနေ မြစ်ဆိပ်ကို မြင်းလှည်းနဲ့သွား မြစ်ဆိပ်ရောက်မှ ကို တစ်နာရီကျော်လောက် သွားရသေးတာ။ အဲဒီကမှ မော်တော်လေးတွေနဲ့ မြစ်ကြောင်းကနေ သွား၊ ပခန်းရောက်။ ရေစကြို ဘက်က သွားတဲ့လမ်းလည်း ရှိတယ်။

အဲဒီမြစ်ဆိပ်မှာပေါ့။ ကိုင်း... မော်တော်ငှားမယ်ဆိုတော့ ငွေခင်နဲ့ တွေ့ရော။ အေး... သွား နှင် မော်တော်ငှားချည် ဆိုပြီး ငွေခင့်ကို စိတ်ချလွှတ်လိုက်တယ်။ ငှားလာတဲ့ မော်တော်က မော်တော်လည်း

မဟုတ်ဘူး။ ပုံထောင်စက်လေ့၊ အမိုးမပါ၊ အကာမပါ၊ အိမ်သာမပါ၊ လမ်းတစ်လျှောက်လုံး နေတွေပူ၊ သီးတွေ ဝမ်းတွေချုပ် ဖြစ်ကုန်ကြတယ်။ ဒါနဲ့ ငွေခင့်ကို ဗိုင်းဆဲကြ ဆိုကြ အပြစ်တင်ကြတော့ မော်တော်ကို မကြည့်ဘဲ မော်တော်ဆလင်ရဲ့ဓာတ်ပုံ ကြည့်ငှားလာတာတဲ့။ ကောင်းကြသေးလား။ ဓာတ်ပုံထဲက နှုတ်ခမ်းမွှေးလေးနဲ့ မော်တော်ဆလင်ကို ကြိုက်ပြီး ငှားလာတာတဲ့လေ။ ကဲ… ငွေခင်တို့ကတော့။ ဒါပေမယ့် သူ့နေရာနဲ့ သူတော့လည်း ငွေခင်က အားကိုးရပါတယ်။

ပန်းမှာပဲ ဒေစီကျိန်းနဲ့ ကနားတဲအပေါ်အောက် နေရတဲ့ နတ်ကတော်မိန်းမတွေ အပေါ်က ရေနွေးကျမှုတို့၊ ရေကျမှုတို့၊ ခြေသံပြင်းမှုတို့နဲ့ ရန်ဖြစ်ကြရော။ ဒေစီကျိန်းတို့က အပေါ်က…။

ရန်ဖြစ်ကြတော့ ဒေစီကျိန်းက ဒေါ်သန့်။ ဟဲ့… ငါ့အကြောင်း သိရမယ်။ နင်တို့ကို နတ်နဲ့တိုက်မယ်။ ဘာညာနဲ့ ကြိမ်းပစ်လိုက်တယ်။ ပြီးတော့မှ ငွေခင်ကို လက်တို့ပြီး "ငွေခင် လုပ်လိုက်စမ်း။ ငါ တစ်ရာ ပေးမယ်"ဆိုပြီး နိုင်းလိုက်တယ်။ ဟော… နောက်တစ်နေ့ မနက် လည်းကျရော အောက်က နတ်ကတော်မိန်းမတွေ၊ ပါလာတဲ့ ကိုးကွယ်သူ မိန်းမတွေရဲ့ထဘီတွေ၊ ဗီနပ်တွေ၊ စတီးချိုင့်တွေ အကုန်ပျောက်ရော။

မိန်းမတွေ ကြောက်လိုက်ကြတာ။ တစ်ခါတည်း တန်းပြောင်းသွားတာပဲ။ ဟော… ငွေခင်တို့ ရေတွေ ရှင်လို့၊ အရက်လေး တမြမြ၊ စီးကရက်လေး တဖွာဖွာ၊ သူငယ်လည်း အမ်းလို့။ ဒေစီကျိန်းက ချေင်တာနဲ့ "ဟဲ့… ငါ့ကိုတော့ နင့်စတီးချိုင့်တစ်လုံးပေးဖို့ ကောင်းတာပေါ့"လို့ ပြောတော့ "ငါ ဘာလုပ်လို့လဲ။ နင့်နတ်က စွမ်းလို့ဖြစ်တာ ဥစ္စာ"တဲ့။ ငွေတစ်ရာတော့ တောင်းသွားတယ်။

"ကဲ… ငွေခင် နင်က ငါ့ကို အရက်လည်း မတိုက်၊ ဘာလဲ

မတိုက် ငါသွားမယ်။ ငါပြောတာ ဒေသချာနားထောင်၊ ဖြတ်ခံရတဲ့ကြိုးက နှစ်ကျပ်သား။ ရှေးတုန်းက အမ်စီပုံ"

"ဟဲ့... ရဲကို သွားပြော၊ ငါ မသိဘူးဆို"

ဒေစီဂျိန်းက ဆဲလိုက်တယ်။

"နင်မသိဘူးဆို နင့် နတ်သတ်လေ... ကဲ"

"သတ်"

"နင့်နတ်ဖမ်း"

"ဖမ်း"

ဒေစီဂျိန်းက နောက်တစ်ခွန်း ထပ်ဆဲလိုက်ပြန်တယ်။

"ဒါပဲ၊ ညနေ ငါ့ဆီ လာစကားပြန်လှည့်။ အိမ်မှာ ဧည့်သည်တွေနဲ့။ ညနေတက်ပွဲအတွက်လည်း ဘာမှမလုပ်ရသေးဘူး"

ဒေစီဂျိန်း ထုံးစံအတိုင်း စိတ်မြန်လက်မြန် ဖုန်းချပြီး သူ့ခုံဖိနပ်ကို စီးတယ်။

"ဟဲ့... ပိုက်ဆံပေးခဲ့ဦး"

သိပြီးသား၊ သင်းအကျင့်ကို သိပြီးသား။ သိလျက်သားနဲ့ ဒေစီဂျိန်းက မျက်စောင်းထိုး လိုက်တယ်၊

"ဘာပိုက်ဆံတုံး ပြောပါဦး"

ငွေခင့်နှုတ်ခမ်းပါးတွေ တင်းတင်းစေ့ပြီး မျက်လုံးတွေ ပေကလပ်ပေကလပ် ဖြစ်လာတယ်။

"နင့်ကို နတ်ပွဲကစိုင်းရင် နင် အလကား လိုက်ကသလား။ အဆစ်ပေးပြီးတော့ လိုက်ကသလား"

ဒေစီဂျိန်းက တဟားဟား ရယ်လိုက်တယ်။ ပြီးတော့မှ အိတ်ထောင်မပါတဲ့ အကျႌပုတ်ပြရင်း...

"ငါ့မှာ တစ်ပြားမှ မပါဘူး။ ညနေလာခဲ့၊ ငါသွားပြီ"

ဒေစီကျိန်းနောက်မှာ ဇွေခင်တစ်ယောက် "ဖေ"ချင်းမိုးမှုန်ပြီး ကျန်နေခဲ့တော့တယ်။



ရဲစခန်းက ထွက်ထွက်ချင်း မင်းမင်း အိမ်ပြန်မလို့ပါဘဲ၊ အိမ်မှာ ဧည့်သည်တွေလာလို့ ဒေစီကျိန်းမရှိရင် ဘယ်သူ ဧည့်ခံမလဲ။ မင်းမင်း ရှိမှ ဖြစ်မှာ။ အရွယ်မကြီးက သူ့အပေါင်းအသင်းတွေနဲ့တွေ့ရင် တော်တော်နဲ့ ပြန်လာမှာမဟုတ်ဘူး။ မိန်းမလျာတို့ ထုံးစံ ပေါက်တတ်ကရတွေ၊ ညစ်တီးညစ်ပတ်တွေ ပြောပြီး ဟီးဟီးဟားဟား လုပ်နေမှာ၊ ညနေတက်ပွဲအမီတော့ ပြန်လာကောင်းပါရဲ့။

ရဲစခန်းက ထွက်ပြီး ပွဲတော်လူအုပ်ကြီးကို မင်းမင်းရှောင်ရင်းရှောင်ရင်းနဲ့ လူသွားလူလာနည်းတဲ့ လမ်းကြားတွေထဲ ရောက်သွားတယ်။

အဲဒီမှာ လှသူဇာမနဲ့ သွားတွေ့တော့တာပဲ။ ဒေစီကျိန်းသာ သိရင်တော့ "ဟဲ့… နင့်ခြေထောက်က အဲဒီဘက် အလိုလို ဆွဲသွားတာကိုး။ တွေ့မှာပေါ့"လို့ ပြောဦးမယ်။

လှသူဇာမတို့ ကနားတဲဆိုတာ သိလိုက်တာနဲ့ မမြင်ချင်ယောင်ဆောင်ပြီး မင်းမင်း ဖြတ်လျှောက်သွားမလို့ပါပဲ။ ဒါပေမယ့် လှသူဇာမပါတဲ့၊ မျက်စိက လျင်လိုက်တဲ့ ဖြစ်ခြင်း။

"ဟဲ့… မင်းမင်း၊ လာပါဦး မတိုင်တော့ဘူးလား"

"ဟာ… မတိုင်တော့ဘူး၊ အလုပ်တွေ ရှိသေးတယ် မာမီ"

မင်းမင်းပြောင်းတော့ မိန်းမတစ်ယောက်လို အရုအခံအဖြည့်အစွက်တွေနဲ့ ပြင်ဆင်ထားတဲ့ လှသူဇာမက မိန်းမတစ်ယောက်လိုပဲ နီရဲတွတ်နုတ်ခမ်းလေးကို လှလှပပ မဲ့တယ်။

"စိမ်းကားလိုက်တာ မောင်ရယ်။ ခဏလေးပါ လာပါဦး။ ပြော

စရာရှိလို့"

ဘယ်ကောင်းတော့မလဲ။ ကနားတဲ့ပေါ် မင်းမင်း တက်ထိုင်ရတော့တယ်။ ဒေစီကျိန်းသာ ဆိုရင်တော့ ပြောလိုက်ပါလိမ့်မယ်။ နင်တို့က ထိုင်ချင်လို့ ညှိပြုလုပ်နေတာ မဟုတ်လားလို့။ လှသူဇာမေ ကနားတဲက သုံးခန်းတွဲ ယူထားတာ။ အလှအပတွေ ပြင်ဆင်ထားတာလည်း အပျံစားပဲ။ ပိုးအိပ်ရာခင်းတွေ ဘာတွေနဲ့ အိပ်ခန်းကို ဖွဲ့ထားတယ်။

"ကဲ... မျက်လုံးကလည်း ဘယ်ဝဲနေတာတုံး။ ရော့... သောက်၊ မန္တလေးရမ်အစစ်။ ကြက်ကြော်လေးနဲ့ မြည်း"

လှသူဇာမေရဲ့ ရောင်စုံမျက်နှာက မရှိမချဉ်နဲ့။ မင်းမင်း အနားကို အသာကပ်လိုက်တယ်။

"ပါတယ်၊ စပ်ပေးဦး၊ သုံးပေးဦး"

"ဘယ်မှာလဲ၊ ဈေးကြီးမှာပါ။ မဟုတ်တဲ့ဈေးတွေ"

"အေးဒါ... မဟုတ်တာတွေ ရှုပ်စွဲပြန်ပြီ"

လှသူဇာမေက ပုံတော်တွေဆီ လှမ်းလက်အုပ်ချီလိုက်တယ်။

"မမှန်တာပြော နတ်သတ်ပါစေတော်။ တကယ်ပါ၊ မာမို့အကြောင်း မင်းလည်း သိသားနဲ့၊ မယုံရင် စကာနေဦး"

လှသူဇာမေက အရှယ်နဲ့မလိုက်အောင် ဖျတ်ဖျတ်လတ်လတ်ထသွားတယ်။ သူလည်း ဒေစီကျိန်းတို့နဲ့ မတိမ်းမယိမ်းထဲကပဲ။ သူက နည်းနည်းပဲ ငယ်မှာ။

"ကိုမင်း... ဒီကိုလာ"

လှသူဇာမေက ပိုးအိပ်ခန်းကျဉ်းကျဉ်းလေးဝကနေ လှမ်းခေါ်တယ်။ မင်းမင်း အသာထသွားတော့ မှောင်မည်းမည်း ပိုးအိပ်ခန်းကျဉ်းလေးထဲမှာ အရေးပေါ် လျှပ်စစ်မီးက မီးရောင်လေး လင်းလာတယ်။ အိပ်ခန်းဝကနေ မင်းမင်း လှမ်းမြင်နေရတယ်။

အိပ်ချင် မပြေတပြေ မျက်လုံးလေးနဲ့ မိတ်ကပ် မပြယ်တပြယ် ကောင်မလေး တစ်ယောက်၊ ပြီးတော့ နစ်နစ်မြိုက်မြိုက် အိပ်နေတဲ့ ကောင်မလေးတစ်ယောက်၊

"ဘယ့်နယ်လဲ၊ ဒါလေးလေ၊ ဒီလောက် ရှိတယ်"

လှသူဇာမေက လက်တစ်ချောင်းထောင်ပြတယ်၊ တစ်ထောင် ပေါ့၊ မင်းမင်းက နာခေါင်းရှုံ့ပြတော့ မိန်းမလျာမျက်စောင်းကို လှလှပပ ချိတ်ပြတယ်၊

အိပ်ချင်မူးတူး တစ်ထောင်တန်လေးက အလုပ်သဘောအရ လုစ်ခနဲ ပြုံးပြရင်း ပြန်အိပ်ပျော်အသွားမှာ အိပ်မောကျနေတဲ့ ဘေးက ကောင်မလေး ဖျတ်ဆို နိုးလာတယ်၊

မင်းမင်းစိတ်ထဲ တစ်မျိုးပဲ၊ မနေ့က မင်းမင်းကြိုက်ချင်သလို ဖြစ်သွားတဲ့ ပိုက်ဆံတောင်းတဲ့ အဆိုတော်မလေး မျက်နှာလေးနဲ့ တော်တော်တူတယ်၊ မိတ်ကပ်မပါ၊ ဘာမပါ မျက်နှာပြောင်လေးနဲ့ အားငယ်ပြီး အရာရာကို ကြောက်နေတဲ့ မျက်နှာမျိုးလေး၊

မင်းမင်း လှည့်ထွက်ခဲ့တော့ လှသူဇာမေလည်း ထွက်လိုက်လာတယ်၊ ကနားတဲပေါ်က မင်းမင်း ဆင်းလိုက်တော့ လှသူဇာမေက...

"ဟောတော်... သွားပြီလား၊ ဘယ်လိုလဲ"

"ညဘက်မှ လာခဲ့မယ်လေ၊ ညနေတက်ပွဲရှိတယ်"

"လာခဲ့နော်၊ ဟဲ့... မင်းမင်း ပွဲပေးမှာပါဟဲ့"

"အင်းပါ... အင်းပါ"

လှသူဇာမေတို့ကတော့ မလွယ်ဘူး၊ သူက မကောင်းမှုဆို အကုန် ဖါသနာထုံတဲ့ မိန်းမလျာ နတ်ကတော်၊ သူ့ဆီမှာ လိုချင်တာရမယ်၊ ပြီးတော့ သူက ကြားထဲက ပိုက်ဆံဖြတ်စားတယ်၊

ဒေဒီလိုင်းက လှသူဇာမေများဆို အလွန်မှန်း၊ တူတယ် တန်တယ်

မထင်ဘူး။ လူသူဇာမလိုဟာတွေ ဒီပွဲတော်ထဲမှာ အများကြီးပါ။

ကနားတဲတန်းတွေကြားက မင်းမင်း ဖြတ်ထွက်လိုက်တယ်။ ကနားတဲပေါ်မှာ ခြွေရံသင်းပင်းနည်းနည်းနဲ့ နတ်ဝင်ယိမ်းယိုင်နေတဲ့ ရှေးနတ်ကတော် အဘွားအိုကြီးတစ်ယောက်ကို မြင်ရတယ်။ ဟစ်ခေါင်းလုံးဖွေးနေတဲ့ ဆံပင်နဲ့ ပိုးပဝါဖြူနဲ့ ဝလာထဘီရှားညိုရောင် ချိတ်နဲ့ဟာ လိုက်ဖက်ပြီး ကျက်သရေ ရှိတယ်။

မျက်စိမှိတ်ပြီး ခေါင်းကလေးတုန်တုန် ကွမ်းလေးမြုံမြုံနဲ့ နတ်ကတော်ကြီးကို မင်းမင်း လှမ်းလက်အုပ်ချီလိုက်တယ်။ သနားပါတယ်။ အကြော်အလော်ကောင်းတဲ့ မိန်းမလျာ နတ်ကတော်တွေကိုမှ နတ်ကတော်လို့ ထင်ကြတော့တဲ့ ဒီခေတ်ကြီးမှာ ရှေးနတ်ကတော် အဘွားအိုကြီးတွေကို ကိုးကွယ်သူ နည်းပါးသွားပါပြီ။ မိန်းမစစ်စစ် နတ်ကတော်ဟာ တောင်ဖြူန်းမှာ သိပ်နည်းသွားပြီ။ နတ်ကတော်ဆိုရင် မိန်းမလျာမှ ဆိုတဲ့ခေတ်ကို ရောက်သွားပြီ။

အိမ်ဝိုင်းထဲမှာ အပြည့်ဆောက်ထားတဲ့ ကနားတဲတွေ ကြားကနေ လူရှင်းမယ့်လမ်းကြားကို မင်းမင်းထွက်ဖို့ ကြိုးစားပေမယ့် မလွယ်ဘူး။ ဒီနေ့ ဒီရက်ကတော့ ဘယ်လမ်းကြားမှ လူမရှင်းဘူး။ လူကတော့ တိုးနေရမှာပဲ။ လူ့ရေစီးကြောင်းထဲမှာ ကိုယ်လည်း တဖြည်းဖြည်း လိုက်ရွေ့ရမှာပဲ။

*"အို... သူငယ်ချင်းရေ... ခုတော့ ယော်ကျွမ်းရွေ... ခုလို ပြန်လည်ဆုံတွေ့ရတာ ဝမ်းသာမဆုံးနိုင်ပေ... ခုလို ပြန်လည်ဆုံ တွေ့ရတာ..."*

ချိုးနွဲ့ငိုးရှုနေတဲ့ သီချင်းသံဟာ လူ့ရေစီးကြောင်းထဲကို တိုးဖောက်ဝင်ရောက်လို့ လာခဲ့တယ်။ ဟိုကောင်မလေးပဲ။ ပန်းညိုလေ... ပန်းညို၊ ဘယ်နားကများ ဆိုနေပါလိမ့်၊

 

မြူပ်သိပ်နေတဲ့ ဟိုဘက် ကနားတဲတန်းတွေဘက်ကို မင်းမင်း လှမ်းကြည့်တယ်။ အဝတ်ထုံသံလေးကတော့ တဖြည်းဖြည်း နီး လာသလိုပဲ။

*"ဒီတံတားလေးပေါ်မှာ နစ်မြောက်တဲ့ ကာစားကြမ့်တွေ… မှတ်မိ ပါတယ် အတွေးရေ… မှတ်မိပါတယ် အသက်ရေ… ငယ်က ကျွမ်း တဲ့ ငယ်ကျွမ်းဆွေ"*

တောက်တက် လှမ်းအောင်ဆိုတတ်တဲ့ ကောင်မလေးပဲ။ သနားသွား အောင်လည်း စွမ်းဆောင်နိုင်တယ်။ ဒီအသံကလေးကို ကြားရင် ဘယ် သူမှ မသနားဘဲ မနေနိုင်ပါဘူး။ ဗိုက်ဆာမထည့်ဘဲလည်း မနေနိုင်ပါ ဘူး။

လူရေစီးကြောင်းထဲကနေ မင်းမင်း ထွက်လိုက်တယ်။

ဟိုဘက် ကနားတဲတွေဘက်ကို တိုးဝင်ခဲ့တယ်။

ဟော… ဟိုမှာ ပန်းညိုကတော့ သူ့ပုံစံအတိုင်း ခေါင်းလေးငုံ့၊ မျက်နှာလေးကို တအက်လေး ဖုံးအုပ်လို့၊ ဘေးနားက တောက်တုတ် ကောင်မလေးက စဉ့်အိုးအဝတ်ဖုံလေး တီးလို့။

ထမင်းထုပ်၊ ဟင်းထုပ်ဆွဲရတဲ့ ကောင်လေးကတော့ ကနားတဲ ပေါ်က မိန်းမလျာတစ်ယောက် ထည့်ပေးနေတဲ့ ထမင်းတစ်ခဲကို ချိုင့်လေးနဲ့ ခံနေတယ်။

အိတ်ထောင်ထဲက ဆယ့်ငါးကျပ်တန်လေး နစ်ရွက်ကို မင်းမင်း စမ်းသပ်နိုက်ယူနေတုန်းမှာပဲ ရုတ်တရက် လူအုပ်ကြီးက ဝုန်းခနဲ ပြိုဆင်းလာခဲ့တယ်။

"ခါးပိုက်နှိုက်… ခါးပိုက်နှိုက်"

ဖြော်… ပြာသနာပဲ။ နီးရာ ကနားတဲ တစ်တဲပေါ်ကို မင်းမင်း ခုန်တက်လိုက်ရတယ်။ မိန်းမလျာတွေရဲ့ အသံမျိုးစုံ ဆော်ဟစ်သံ

တွေနဲ့အတူ လူအုပ်ကြီးက ကောရှပ်တွေးသွားပြီး ပုံမှန်ပြန်ဖြစ်ချိန်မှာ ပန်းညိုတို့ဆီ မင်းမင်း ကြည့်လိုက်တော့ ခြေဘ်... ဒုက္ခပဲ။

ပန်းညိုမောင်လေးလက်ထဲက ထမင်းတွေ ဟင်းတွေ မြေကြီးပေါ် အကုန်ပြန့်ကြဲနေပြီ၊ ပန်းညိုခေါင်းပေါ်က တဘက်ကလေးလည်း မရှိတော့ဘူး။ အဲဒါတော့ ကောင်းတယ်၊ မင်းမင်းကြိုက်တယ်၊ ကောင်မလေးမျက်နှာကို ကြည့်လို့ရတယ်။

သနပ်ခါးပါးကွက်ကလေးနဲ့ ချစ်စရာကောင်းနေတဲ့ ပန်းညိုက ဒါတော့ သူလည်သား။ ပိုက်ဆံထည့်တဲ့ ချိုင့်လေးက သူ့ရင်ခွင်ထဲမှာ။

"မောင်လုံးက သိပ်အတာပဲ။ မြဲမြဲကိုင်ထားမှပေါ့ဟ။ ထမင်းတွေ ဟင်းတွေ အများကြီးပဲ၊ နပြောပါတယ်"

ဖုံတီးတဲ့ ကောင်မလေးက မျက်ရည်ဝိုင်းနေတဲ့ သူ့မောင်လေးကို ပြောဆိုနေတယ်၊

"ငါ့တဘက်လေး လူတွေထဲ ပါသွားပြီ"

ပန်းညိုက ညည်းညူရင်း "သွားစို့"တဲ့။ ရုတ်တရက် မင်းမင်း သူ့ရှေ့မှာ ရပ်လိုက်တော့ သူရှက်သွားပြီး မှုန်းစိုစရာ သူ့တဘက်ကို ယောင်ယမ်းရှာတယ်။ တော်တော်ကြောက်တတ်တဲ့ ကောင်မလေး။

"ကဲ... လာ၊ တို့ဘက် လိုက်ခဲ့ကြ။ ထမင်းတွေ ဟင်းတွေ ပြန်ထည့်ပေးလိုက်မယ်"

ဖုံတီးတဲ့ ကောင်မလေးနဲ့ ကောင်လေးက မင်းမင်းကို ကြည့်တယ်။ ပန်းညိုကတော့ ခေါင်းကို ငုံ့လို့။

"မှတ်မိလား၊ မနေ့တုန်းက နန်းကြီးနားက အိမ်ကလေး၊ ကြက်သားကြော်တွေ၊ ဟင်းချိုတွေ ပေးလိုက်တာလေ"

"သိပြီ၊ သိပြီ ပိုက်ဆံတွေ အများကြီးရတဲ့အိမ်"

ဖုံတီးတဲ့ ကောင်မလေးက ဝမ်းသာအားရ အော်လိုက်တယ်၊

"ကဲ... ဒါဖြင့် လာကြ၊ လိုက်ခဲ့ကြ"

"မလိုက်ခဲ့တော့ဘူး။ အဘွား ထမင်းဆာနေလိမ့်မယ်"

ပန်းညိုဆီက အသံတိုးတိုးလေး ထွက်လာတယ်။

"မလိုက်တော့ ပန်းညိုတို့အဘွားကို ထမင်း ဘယ်လိုကျွေးမှာလဲ၊ ဒီမှာ ထမင်းမှ မရှိတော့တာ"

ပန်းညိုက ရှက်လို့ချည်းနေတယ်။

"ဝယ်ကျွေးတော့မယ်"

ပန်းညိုက "သွားစို့"တဲ့။ ပြောရင်း ငုံ့တီးတဲ့ ကောင်မလေး မြဲထားတဲ့ ပုဆိုးပိုင်းအနွမ်းကို ဆွဲယူတယ်။ ပြီးတော့ ခေါင်းပေါ်မှာ မြဲလိုက်တယ်၊ ပန်းညိုကို ဟိုကောင်မလေးကလည်း ပြောရဲပုံ မတူဘူး၊

"ကဲ... ဒါဖြင့်၊ ရော့... ပန်းညိုတို့အဘွားကို ထမင်းဝယ် ကျွေးလိုက်"

မင်းမင်းလှမ်းပေးတဲ့ ဆယ့်ငါးကျပ်တန် နှစ်ရွက်ကို ပန်းညိုက ချိုင့်လေးနဲ့ခံတယ်။ ပြီးတော့ အသံတိုးလေးနဲ့ "သီချင်းပြန်ဆိုပြရဦး မှာလား"တဲ့၊ သနားပါတယ်၊ ဒါပေမယ့် ကောင်မလေးကို မင်းမင်း စချင်နေတယ်၊

"ဘာသီချင်းဆိုပြမှာလဲ"

"မသိဘူးလေ။ ဆိုနိုင်းတာပေါ့"

"တို့ကြိုက်တဲ့သီချင်း ရလို့လား"

"ဘာသီချင်းလဲ"

မခံချင်စိတ်နဲ့ ပုဆိုးပိုင်းအုပ်ထားတဲ့ ပန်းညိုမျက်နှာလေး မော့လာ တယ်၊

"သက်ဆိုင်သူသို့လေ... ရလား"

"ရတာပေါ့"

"ဟာ... အစ်ကို သွားမလုပ်နဲ့၊ သူက သီချင်းတွေ အများကြီး ရတာ"

စုံတီးတဲ့ ကောင်မလေးက ဝင်ပြောတော့ ပန်းညိုပြုံးပြီး ခေါင်းငုံ့သွားတယ်။

"ဆိုရမှာလား။ မဆိုရရင် သွားတော့မယ်။ အဘွား စောင့်နေလိမ့်မယ်"

"သွားပါရှာ၊ သွားပါ။ နောက်တစ်ခါဆိုပြပါ။ ပန်းညိုတို့နေတာက ဘယ်နားမှာလဲ"

"ရွာမြင်ဘက်က ဇရပ်ပျက်ကြီးမှာ"

ပန်းညိုခေါင်းက ငိုက်သွားပြီး ရှေ့ကနေ သွားတော့တယ်၊ ဪ... အဲဒီဇရပ်ကြီးကို မင်းမင်းသိတာပေါ့။ အနယ်နယ် အရပ်ရပ်က နွမ်းပါးတဲ့ လူပေါင်းရဲ့ တည်းခိုရာ နေရာကြီးပေါ့၊

"ညအကျင်္ကျ ထွက်ရသေးလား"

"မထွက်ပါဘူး။ မောလွန်းလို့ ထမင်းစားပြီး အိပ်ပျော်သွားတာပဲ"

သီချင်းဆိုနေတဲ့ အချိန်ကလွဲရင် ဒီကောင်မလေးဟာ ချစ်စရာ သနားစရာ ကလေးလေးပါ။

"ဘယ်ကို လိုက်မလို့လဲ"

ပန်းညိုက သူတို့နဲ့လိုက်လာတဲ့ မင်းမင်းကို ခေါင်းလေး စောင်းပြီး မေးတယ်။

"မလိုက်ပါဘူး ခင်ဗျာ၊ ကျွန်တော်က ဒီဘက်ကနေ အိမ်ပြန်မှာပါ"

ပြောရင်းနဲ့ မင်းမင်းက ကနားတဲလမ်းကြားတစ်ခုထဲကို ချိုးကွေ့လိုက်တယ်။

"နက်ဖြန် အိမ်ဘက်လာခဲ့နော်"

ဖျတ်ခနဲ လှမ်းကြည့်လိုက်တဲ့ ကောင်မလေးကို မင်းမင်း မျက်လုံးတစ်ဖက်မှိတ်ပြရင်း ပြုံးပြလိုက်တယ်၊

ပန်းညို ရက်တတ်တဲ့ မင်းအမူအရာလေးတွေဟာ တို့စိတ်ကိုလှုပ်ရှားစေတယ်။ ဒေစီကျိန်းသာ သိရင်တော့ တို့ကို ပြောဦးမယ်။ နင်ဟာဓလ မိန်းမအစစ်ဆိုရင် ဘယ်သူ့ကိုပဲဖြစ်ဖြစ် စိတ်ဝင်စားတာပဲမဟုတ်လားလို့ မညှာမတာ အပြောခံရဦးမယ်။

သူ နားမလည်ပါဘူး။ ဒါပေမယ့် တို့ကို သူ ဘယ်တော့မှအလစ်ပေးမှာ မဟုတ်ဘူး။

ပန်းညို…

လှသူဇာမဆီမှာတွေ့ခဲ့တဲ့ ကောင်မလေးဆီကို တို့သွားဖို့ဆုံးဖြတ်လိုက်တာကို မင်းသိရင် စိတ်ဆိုးမှာလား။



လဆန်း ဆယ့်နှစ်ရက်ညရဲ့ လရောင်ဟာ ဒေစီကျိန်းရဲ့ အိမ်ဝရန်တာဆီကို ပြောက်တိ ပြောက်ကျား တိုးဝင်လာတယ်။

တရှူးရှူး အိပ်ပျော်သွားတဲ့ ဒေစီကျိန်း ခြေသလုံးတွေကို ဖြည်းဖြည်းချင်း နှိပ်ပေးနေရာက မင်းမင်း အသာရပ်လိုက်တယ်၊

ညနေက နန်းကြီးသုပ်ပွဲနှစ်ပွဲနဲ့ အောက်နန်းတစ်ပွဲ ဆက်တက်လိုက်ရတဲ့ အရှိန်နဲ့ ဒေစီကျိန်းတစ်ယောက် မောသွားသလို မူးလည်းမူးသွားတယ်၊ မူးတော့ မင်းမင်းကို ဂျစ်တယ်။ ဆိုတယ်၊ မွှေ့တား၊ဖက်တား၊ ယပ်ခတ်ပေး၊ နှိပ်ပေးနဲ့၊ အဖုံကြီးတို့၊ တင်တင်မြင့်တို့နှိပ်ပေးမယ်ဆိုတာ မရဘူး။ မင်းမင်းလက်ကမှ ပေါက်သတဲ့။ မင်းမင်းနှိပ်တာကမှ ထိသတဲ့။ တော်တော်ဆိုးတယ်။ အသက်လည်း ခြောက်ဆယ်တွင်း ရောက်ပြီ၊ ခုထိ ကလေးဆန်ချင်တုန်း။ လူချင်ပချင်

တုန်း၊ ကချင်ခုန်ချင်တုန်း။ နားသယ်စပ်တွေမှာ ဖြူဖွေးနေတဲ့ ဆံပင်တွေကို လရောင်အောက်မှာ အထင်းသား မြင်နေရတယ်။

ဒီအသက်အရွယ်နဲ့ ဒီလောက် ခုန်ပေါက်လှုပ်ရှားလာရတာ သူမောရှာမှာပေါ့လေ၊ ခုနစ်နှစ်ဆိုတဲ့ အချိန်ကာလရဲ့သံယောဇဉ် မင်းမင်းမှာ ရှိပါတယ်။ သူ့ကို အမေတစ်ယောက်လိုလည်း ချစ်ခဲ့ပါတယ်။ အစ်မကြီးတစ်ယောက်လိုလည်း ချစ်ခဲ့ပါတယ်။ ဇနီးမယားတစ်ယောက်လိုကတော့ ဘယ်တုန်းကမှ ချစ်လို့မရခဲ့ဘူး။ ဒါပေမယ့် မင်းမင်းဘဝကို အရှုပ်မကြီးကတော့ နားလည်မှာ မဟုတ်ပါဘူး။

အိမ်အောက်ကို မင်းမင်း အသာဆင်းခဲ့တယ်။ အိမ်ပေါ်ထပ်တံခါးကို စေ့ထားခဲ့တယ်။ အောက်ထပ်မှာ ဆေးလိပ်လေး တစ်တိုနဲ့ ငြိမ်ထိုင်နေတဲ့ ဗိုင်းကောင်းကျောက်ဖိ အဖုံကြီးကို လက်ဟန်ခြေဟန်ပြပြီး မင်းမင်း ထွက်ခဲ့တယ်။

မီးလုံးဝါ မှိန်ရိရီလေးတွေကြားထဲကို မင်းမင်း တိုးဝင်လိုက်တာနဲ့ အလွန်အကျွံ ဖြယ်သထားတဲ့ မိတ်ကပ်မျက်နှာများစွာက စောင့်ကြိုလို့နေတယ်။

မိန်းကလေးအစစ်နဲ့ ခွဲခြားလို့မရအောင် ဝတ်စားဆင်ယင်ထားတဲ့ မိန်းမလျာလေးတွေလေ။ ကနားတဲတန်းတွေကြားမှာ လိပ်ပြာကလေးတွေကို တချပ်ဖျပ် တောင်ပံခတ်ရင်း တစ်ညက ချစ်သူကို လိုက်ရှာနေကြလေရဲ့၊

သူတို့ဟာ မြွေမလေးတွေလိုပဲ သူတို့အသားကို စားဖူးတဲ့ သူရဲ့အနံ့ကို သိတယ်ထင်ပါရဲ့၊ မင်းမင်းကို မြင်တာနဲ့ "မ" သံမျိုးစုံ ပေးကြတယ်။ "မောင်ရေ" လို့ လှိုက်လှိုက်လှဲလှဲ ခေါ်လိုက်တာလည်း ရှိရဲ့၊ "အချစ်ရေ" လို့ ညုတုတုလေး ခေါ်လိုက်တာလည်း ရှိရဲ့။

ဖလိုင်းကာစ် အနမ်းပျံ့ကို အသံမြည်အောင်ပေးရင်း ဖိတ်ခေါ်တဲ့

မျက်လုံးလေးကို ဝင့်ပြသွားတဲ့သူလည်း ရှိတယ်။

တချို့ ခပ်ကဲကဲလေးတွေကျ လက်ဖမ်းဆွဲထားပြီး "သဲသဲကို မချစ်နိုင်တော့ဘူးလား မောင်"တဲ့။ "သဲမလှလို့လားဟင်" ဆိုပြီး ရှေ့တွေနောက်တွေ ကိုယ်ဟန်ပြနေလို့ အသာရုန်းပြီး ပြေးရတယ်။

လှသူဇာမတို့ ကနားတဲရောက်သည်အထိ မိန်းမတုလေးတွေက မင်းမင်းနားမှာ ရစ်ဝဲ ဆွဲဆောင်တုန်း၊ မောင်ရေ အချစ်ရေ ခေါ်တုန်း။

"ကဲ… ရှင်တော့ အဲဒါတွေပဲ ခေါ်သွားတော့။ ဗိုက်ဆာလည်း မကုန်ဘူး၊ ခေါက်ဆွဲကြော်လည်း တားရဦးမယ်"

လှသူဇာမေက မင်းမင်းကို ဆီးကြိုနှုတ်ဆက်တယ်။ ကနားတဲ ပေါ်မှာ လှသူဇာမေ တစ်ယောက်တည်းရယ်၊ ဘယ်သူမှလည်း မရှိ ဘူး။ ပိုးအိပ်စနီးကျဉ်းလေးကလည်း ငြိမ်သက်လို့။

"ဘယ်လိုလဲဗျ"

လှသူဇာမေက မိန်းမလျှာမျက်စောင်းကို အားကုန်ထိုးချလိုက် တယ်။

"ဩော်… ကိုမင်းမင်းရဲ့ အားလုံးကုန်ပြီရှင့်"

"ဟာဗျာ"

လှသူဇာမေက တအစ်အစ်နဲ့ လှောင်ရယ်ရယ်နေတယ်။

"သွားမယ်ဗျာ"

"နေပါဦး၊ ရော့ တစ်ခွက်တစ်ဖလား"

လှသူဇာမေဆီက ဖန်ခွက်ကိုယူပြီး မင်းမင်း မော့လိုက်တယ်၊

"ရေပါဘုရား"

လှသူဇာမေက ရေခွက်ကို ကမ်းပေးတယ်၊ လက်ဖက်အစ်ကို ထိုးပေးတယ်။

"ယူဦးမလား"

"တော်ပြီရှာ၊ ညနေတက်ပွဲမှာ သောက်ထားတာ များသွားတယ်"

"အတုတွေ သောက်ပြီးတော့များတော်၊ ရှင် ခုမြေနေပါပြီ။ ကျွန်မှာ အစစ်ရော..."

"တော်ပြီ... ရပြီ"

ပွဲဈေးတန်းဘက်ကို မင်းမင်း ထွက်ခဲ့တယ်။ တခြိမ့်ခြိမ့်တီးနေတဲ့ အောက်နန်းနှတ်ဆိုင်းသံတွေကြားကို ဖြတ်သန်းရင်း မူးယစ်ရီဝေလို့ လာတယ်။ နတ်ဒိုးသံ ကြမ်းကြမ်းရိုင်းရိုင်းဟာ သွေးကို ကြွစေတယ်။ မူးယစ်ရီဝေခြင်းနဲ့ ပေါင်းစပ်ထားတဲ့ နတ်ဒိုးသံကြမ်းကြမ်းရိုင်းရိုင်းဟာ အချစ်သွေးကိုလည်း ကြွစေနိုင်ပါလား။

မင်းမင်းခြေလှမ်းတွေက ရွာပြင်ဘက်ကို အလိုလိုဦးတည်တယ်။ ရွာပြင်ဘက် ဇရပ်ပျက်ကြီးပေါ်မှာ ပန်းညိုဆိုတဲ့ ချစ်စရာ ကောင်မလေးရှိတယ်။ သူကလေးကို မင်းမင်းချစ်လို့ ရနိုင်ပဲ့မလား။ တကယ်တော့ သူကလေးဟာ သီချင်းဆိုပြီး ပိုက်ဆံတောင်းရရှာတဲ့ ကောင်မလေး။ ချစ်ဖို့ထက် သနားဖို့ကောင်းတဲ့ ကောင်မလေးပါ။

မင်းမင်းခြေလှမ်းတွေက ဇရပ်ကြီးဆီကိုလည်း ဦးတည်နေတဲ့၊ အရက်နံ့ စူးစူးကို ဖားကွယ်ဖို့အတွက် ကွမ်းယာဝယ်စားဖို့ကိုလည်း မင်းမင်း သတိရတယ်။

ရွာပြင်ဘက်က မှောင်နေတာပဲ။ ဖယောင်းတိုင်မီး၊ မီးခွက် မီးအလင်းရောင်လေးတွေနဲ့ လူနှမ်းပါးတွေ သက်ဝင်လှုပ်ရှားနေတဲ့ ဇရပ်ကြီးကို အမှောင်ထဲကနေ လှမ်းမြင်နေရတယ်။

ဟင်းနံ့၊ ညှော်နံ့နဲ့ ရန်ဖြစ်သံ၊ ဆဲဆိုသံ၊ ကလေးငိုသံတွေ လုံးထွေး ပျံ့လွင့်လို့ နေတယ်။

ဇရပ်ကြီးပေါ်က မီးရောင်မှိန်မှိန်တွေထဲကို မှောင်ရိပ်ကနေ မင်းမင်း အသာတိတ်တိတ်လေး ကြည့်တယ်။ မီးရောင်မှိန်မှိန်အောက်

မှာ လူတွေ တော်တော်များများ ထပင်းစားနေကြတယ်။ ပန်းညို၊ မင်းလေး ဘယ်မှာလဲ။ တောင်ခြေထားတဲ့ မိန်းမသဏ္ဍာန်တစ်ခုဟာ မင်းများလား။ သီချင်းတွေ အများကြီးဆိုပြီး မောမောနဲ့ အိပ်ပျော်နေပြီလား။

ရုတ်တရက် မင်းမင်းရှေ့နားက လေချွန်သံ မပီမသလေးတစ်ခု ဖြတ်သွားတော့ မင်းမင်း ကြည့်လိုက်တယ်။ အငြိမ်မနေ လှုပ်ရှားလာတဲ့ ကောင်လေးတစ်ယောက်၊ ကောင်လေးက သူ့လက်ထဲက အထုပ်ကလေးကို အပေါ်မြှောက်ကစားလိုက်တယ်။ ဟာ… ဒီကောင် ပန်းညိုမောင်လေး၊ ဟိုကောင်လေးပဲ။

"ဟေ့ကောင်၊ ဘယ်က ပြန်လာတာလဲ"

မှောင်ရိပ်ထဲက မင်းမင်းထွက်လာတော့ ကောင်လေးက လန့်သွားတယ်။ ပြီးတော့မှ ဝမ်းသာအားရ အော်တယ်။

"ဟာ… အစ်ကို"

"ပန်းညိုတို့ရော ဘယ်မှာလဲကွ၊ အိပ်ပြီလား။ ငါက မင်းတို့ဆီ လာလည်တာ"

"မပန်းညိုတို့ မအိပ်သေးဘူး။ ဒီမှာ သူ့ဝယ်နိုင်းလို့ ကျွန်တော် အချဉ်ထုပ် သွားဝယ်ပေးရတာ"

"ဟုတ်လား၊ သူက အချဉ်ထုပ်ကြိုက်လား"

"ကြိုက်တာပေါ့။ ညအိပ်ခါနီးဆို သူက အချဉ်ထုပ်စားရမှ"

ကောင်လေးနဲ့တူတူ ဇရပ်ကြီးပေါ်ကို မင်းမင်း တက်ခဲ့တယ်။ ဆွေးမြည့်ဟောင်းနွမ်းနေတဲ့ ဇရပ်ကြမ်းပြင်တစ်လျှောက်မှာ သူ့နေရာလေးတွေသူ ပိုင်းခြားပြီး နေရာယူထားကြတဲ့ လူနွမ်းပါးတွေ။ တောင်ပြုန်းပွဲတော်ကို အကြောင်းပြုလို့ ငွေ၊ ကြေးစေလေးတွေ ရဖို့အတွက် အကြောင်းအမျိုးမျိုးနဲ့ ရောက်နေကြသူတွေ။

ဇရပ်ကြီးရဲ့ တစ်ဖက်အစွန်းနားမှာတော့ ဖယောင်းတိုင် 
အလင်းနဲ့ ဝင်းပချစ်စရာ ကောင်းနေတဲ့ သနပ်ခါးပါးကွ
ပိုင်ရှင်မလေး ပန်းညိုကို မင်းမင်း တွေ့လိုက်ရတယ်။

ခေါင်းပေါ်မှာ ဘာတဘက်မှ ဖုံးအုပ်မထားတဲ့ ပန်းညို ဆံ
တွေက ပခုံးပေါ်မှာ ဝဲပျံ့ကျလို့။ ဖိုပြီး ငယ်နသွားပြီး ဖိုပြီး 
ကောင်းနေတယ် ပန်းညို။

"ညှော်သည်လာတယ်လေ၊ ညှော်သည်"

မင်းမင်းကို မြင်တာနဲ့ ပန်းညိုမျက်လုံးလေး ဝိုင်းသွ
ဒါပေမယ့် အံ့ဩစရာ၊ ကျေကျေနပ်နပ် လှလှပပ ပြုံးလို့။

"ဒီနေရာကို သိသားပဲ"

"သိတာပေါ့"

"သိတာပေါ့ဟဲ့... ဒီနေရာများ ခက်လွန်းလို့"

ဝံ့ဘီးတဲ့ တောင်မလေးက ဝင်ပြောတယ်။ သူတို့တော
ဆေးလိပ်လေးနဲ့ မှိန်းငိုက်နေတဲ့ ပိန်ပိန်သေးသေး အဘွားအိုက 
တွေကို မေးကုပ်ကြည့်ရင်း နားကိုလည်း လက်တာ စွင့်တ

"အဘွားက နားလေးတယ်။ မျက်စိလည်း မှုန်တယ်၊ 
ရှစ်ဆယ် ရှိပြီ"

သူ့အဘွားအကြောင်းကိုလည်း ပန်းညိုပြောပြနေတာ စိတ်
ပါ၊ ပါးစပ်ထဲမှာလည်း အချဉ်ထုပ်က မြုံ့ရသေးတယ်။

"အဘွား၊ ဒါ မနေ့တုန်းက ကြက်သားကြော်တွေ၊ ပိုက်
ပေးလိုက်တဲ့အိမ်က အစ်ကိုလေ သိလား"

ပန်းညိုက အသံတိုးတိုးနဲ့ နူတ်သွက်လျှာသွက်မလေး ဖြ
တယ်။ အစ်ကိုတဲ့၊ သူက သူ့အဘွား မကြားတာကို ပြန်ပြေ
ရှက်ရယ် ရယ်လို့ချည်းနေတယ်။ စိတ်ကစားတတ်တဲ့ အရွ

မင်း ဘာဖြစ်နေတယ်ဆိုတာ သိပါတယ်။
ပန်းညိုတို့ကို မှန့်ကျွေးမလို့ ဝင်လာတာယ်။ ပွဲဈေးတန်း သွားစား
င်၊ လာ"
န်းညိုမျက်နှာက ခဏတော့ ဝင်းလက်သွားတယ်။ ပြီးတော့
ါတယ်။
ပန်းညိုတို့မှာ အဝတ်အစားကောင်းတာ မရှိဘူးရယ်။ ပြီးတော့
ာထဲကို ပန်းညိုတို့နဲ့ အစ်ကို သွားရဲလား"
ာလို့ မသွားရဲရမှာလဲ။ ဘာဆိုင်လဲ"
င်းမင်းရင်ထဲက သနားစိတ်မှန်သမျှကို ဒီကောင်မလေး အကုန်
ွားတော့မယ် ထင်ပါရဲ့။
ါ... လာ လာ၊ ညဘက်မှာ အဝတ်အစားကို လူမမြင်ပါဘူး။
ာ်ကြီးက တော်တော်လှချင်တယ်ကွာ"
န်းညိုက ပြုံးပြီး ခေါင်းငုံ့နေဆဲ။ မော်လုံးက မင်းမင်းကို
ပြီး...
ချွန်တော်ရော လိုက်ရမှာလား"တဲ့။ မင်းမင်းက ခေါင်းညိတ်ပြ
ာယ်။
ိုက်မှာလား မိပြုံး"
်းညိုက ဝုံတီးတဲ့ ကောင်မလေးကို မေးရင်း သူ့ အဘွားကို
ကြည့်ပြန်တယ်။ ဝုံတီးတဲ့ ကောင်မလေးက သူ့အဘွားနားကို
က်တယ်။
အဘွား... ပွဲဈေးတန်းမှာ မုန့်သွားဝယ်စားမလို့။ မုန့်... မုန့်..."
ါ သုံးခါ ထပ်အော်တော့မှ...
းညိုတို့အဘွားက ခေါင်းတညိတ်ညိတ်နဲ့ "မြန်မြန်ပြန်လာကြ"

"လာ... လာ... သွားမယ်"

မင်းမင်းနဲ့ မောင်လုံးက ရှေ့ကနေ ဆင်းနှင့်တယ်။ ပန်းညိုတို့ ဘေးနားက လူတချို့ကတော့ အိပ်ပျော်နေကြပြီ၊ တချို့ကတော့ ထမင်းမှုမှု ဟင်းမှုမှုကို ငုံ့လွေးကြတုန်း။

"အမေကြီး မသွားချင်ဘူးနော်"

စိုးရိမ်တဲ့ ပန်းညိုအသံတိုးတိုးကြောင့် မင်းမင်း လှည့်ကြည့်လိုက်တယ်။ ကြည့်စမ်း... ခေါင်းမှာ ပုဆိုးပိုင်းကြီး ပတ်လို့၊

"ဟာ... ဒါကြီးက ဘာလုပ်တာလဲ၊ ဖယ်စမ်းပါ"

ပန်းညိုခေါင်းပေါ်က ပုဆိုးပိုင်းကို မင်းမင်း ဆွဲယူဖယ်လိုက်တယ်၊

"အို... ပန်းညို မနေတတ်ဘူး။ လူဝေဟာထဲသွားရင် မျက်နှာကို အုပ်ထားမှ သွားရဲတာ"

မင်းမင်းဆီက ပုဆိုးပိုင်းကို ပန်းညိုက ပြန်ယူဖို့ ကြိုးစားတယ်၊ မင်းမင်းက လုံးထားတဲ့ ပုဆိုးပိုင်းကို မောင်ရိပ်ထဲကို လွှင့်ပစ်လိုက်တယ်။

"သွားပေရော့၊ နက်ဖြန်ကျ တဘက်အသစ်တစ်ထည် အစ်ကို ပေးမယ်"

ဆံပင်ရှည်တွေ ကပိုကရိုနဲ့ မနေတတ် မထိုင်တတ်ဖြစ်နေတဲ့ ပန်းညိုမျက်နှာလေးက ရှစ်ရှင်စရာလေး။ မောင်လုံးနဲ့ မပြူးဆိုတဲ့ ကောင်မလေးမပါရင် သိပ်ကောင်းမှာပဲ။ ရီဝေ ရီဝေ ဖြစ်နေတဲ့အရှိန်နဲ့ လူတွေကျပ်ညပ်နေတဲ့ ပွဲဈေးတန်းထဲမှာ ပန်းညိုလက်ကလေးကို အတင်းဆွဲထားမိတယ်။ အေးစက်တုန်ယင်နေတဲ့ လက်ကလေးတွေက မင်းမင်းလက်ထဲကနေ ဟန်ဆောင် ရုန်းထွက်တယ်။

ခုနေများ အရှပ်ကြီး ဒေစီဂျိန်းတစ်ယောက် တွေ့လိုက်ရင်

ဘယ်လိုများ ဖြစ်လေမလဲ၊ မင်းမင်း မတွေးရဲဘူး။ ဟင့်အင်း... မင်းမင်း မတွေ့ချင်ပါဘူး၊ သာယာနေတဲ့ဘဝလေးမှာ ခဏကလေး နေပါရစေဦး။

"ပန်းညိုဘို့ ဘာစားမှာလဲ ပြော။ လက်ဖက်ရည်နဲ့ ထပ်တစ်ရာ စားမလား၊ ခေါက်ဆွဲကြော် စားမလား"

မင်းမင်း ဘယ်လိုပဲခေါ်ခေါ် သုံးယောက်စလုံးက ဆိုင်ထဲကို ဝင်ဖို့ အတင်းငြင်းကြတယ်။ မဝင်ရဲရှာကြဘူး၊ လမ်းဘေးက ဆိုင်လေးတွေမှာပဲ မုန့်တီစားမယ်တဲ့၊ သူတို့ မုန့်တီစားနေတဲ့အချိန်မှာ မင်းမင်းက သုံးလေးဆိုင်ကျော်ကို ပြေးပြီး တစ်ခွက်တစ်ဖလား သွားမော့တယ်၊ ပြီးတော့ ကွမ်းယာဆိုင်ဝင်တယ်၊

"ဟဲ့... မင်းမင်း"

ရုတ်တရက် မင်းမင်း လန့်သွားတယ်၊ ဘုရား... ဘုရား၊ ငွေခင်... ငွေခင်၊ တော်သေးရဲ့၊ ခုနက မုန့်တီဆိုင်မှာ မတွေ့လို့၊

"ဟိုဟာပကြီး မူးအောင် တိုက်ထားခဲ့ပလားဟဲ့၊ နင် ဘယ်သူနဲ့ ချိန်းထားလဲ၊ ငါ့ကို ပြော"

"ပြဿနာမရှာစမ်းပါနဲ့ဗျာ။ ကျုပ်ဟာကျုပ် ပျင်းလို့ ထွက်လာတာ။ ခင်ဗျားသာ ဒီအရွယ်ကြီးနဲ့ အရှာအဖွေထွက်နေ သလား"

"ထွက်တယ်ဟေ့ ထွက်တယ်။ အချစ်ဆိုတာ အိုသည်မရှိ၊ အစဉ်နုပျိုနေသော ဗို့နတ်ကတော်ဟဲ့။ အေး... ဘယ်သူငယ်မှ မတွေ့ရင် နင်ပဲ လိုက်ခဲ့၊ နင့်ခေါ်သွားမယ်"

"သွားစမ်းပါ"

ငွေခင်ကို အသာတွန်းပစ်ခဲ့ပြီး မင်းမင်း အသာလစ်ပြေးခဲ့ရတယ်။ မလွယ်ဘူး... မလွယ်ဘူး။ ဒီနားမှာ ကြာကြာနေရင် အန္တရာယ်ရှိနိုင်တယ်၊ ဩော်... အရှုပ်မကြီးရဲ့စက်ကွင်းက လွတ်ပဲ မလွတ်နိုင်ပါ

လာခဲ့နော်။

"မြန်ကြစို့၊ အသွားနောက်ကျနေလိမ့်မယ်"

မင်းမင်းကို မြင်လိုက်တာနဲ့ ပြောလိုက်တဲ့ ပန်းညိုအသံ တိုးတိုးလေးကို ဒီတစ်ခါ မင်းမင်း ကျေးဇူးတင်မိတယ်။ ဒီနေ့အဖို့ရိုက်မှာ မင်းမင်းတို့ ကြာကြာနေလို့ မဖြစ်ဘူး။

"ဘာစားဦးမလဲ ပန်းညို၊ ဝဖြိုလား၊ အချဉ်တုပ် စားဦးမလား"

"ဟင့်အင်း... တော်ပြီ၊ ဝပါတယ်"

အပြန်လမ်းမှာ ပန်းညိုတို့သုံးယောက် နောက်ကနေ မင်းမင်းက မသိမသာ စပ်စွာစွာလိုက်တယ်။ မျက်နှာရောင်စုံနဲ့ မိန်းမတွေလေးတွေ ထဲမှာ ဒေစီဂျိန်းကို သိတဲ့သူတွေ အများကြီး ပါနိုင်တယ်ဆိုတာ မင်းမင်း မေ့ထားလို့ မဖြစ်ဘူး။

"ပန်းညိုတို့ကို မှန့်ဝယ်ကျွေးရတာ အစ်ကို ပိုက်ဆံတွေ အများကြီး ကုန်တာပေါ့"

"မကုန်ပါဘူး ပန်းညိုရယ်"

အစရေးထဲမှာမှ စကားနည်းမလေးက မင်းမင်းကို စကားပြောချင် နေရှာတယ်။ ရွာပြင်ဘက်ကို ရောက်အောင် မြန်မြန်လျှောက်ပါမှ။

"နက်ဖြန်ကျရင် အစ်ကိုတို့အိမ်မှာ ပန်းညို သီချင်းလာဆိုပြပါ့မယ်။ ဟိုသီချင်းလေ"

"ဘယ်သီချင်း"

"သက်ဆိုင်သူသို့လေ"

ကြော်... သနားစရာ ကောင်မလေးရယ်၊ မင်းမင်း ရုတ်တရက် ရှိသဲ့သဲ့ပြောလိုက်တဲ့ သီချင်းကို သူ မှတ်ထားရှာတယ်၊ မင်းမင်းက မေ့နေပြီ။

"ပန်းညိုက သီချင်းတွေ အများကြီးရတယ်နော်။ ဘယ်ကနေ

ရတာလဲ၊ ဘယ်သူ သင်ပေးလဲ"

"ငါးသာနေရာပါလို့ ပန်းညိုရတာပါ၊ ဓာတ်စက်ဖွင့်တဲ့ဆီကတို့၊ ကက်ဆက်ဖွင့်တဲ့ဆီကတို့ လိုက်ဆိုရင်းပေါ့"

ရွာပြင်ဘက်က လေကလေးက ကန္တားထဲတွေဆီက နုတ်ပန်းနံ့တွေကို သယ်ဆောင်လာတယ်။ နုတ်ပန်းနံ့နဲ့ နုတ်ဒိုးသံသဲ့သဲ့ဟာ စိတ်ကို လှုပ်ရှားစေတယ်။ ပြီးတော့ ကောင်မလေးရဲ့ မိန်းမနံ့၊ အင်း... မိန်းမပစ်စစ်အနံ့ဟာ မင်းမင်းစိတ်တွေကို ပိုလို့ လှုပ်ရှားစေတယ်။

"ပန်းညိုတို့က မောင်နှမ ဘယ်နှယောက်လဲ"

"သုံးယောက်၊ အခု ဒီသုံးယောက်လေ"

"ပန်းညိုက အကြီးလား"

"ဟုတ်တယ်"

"ပန်းညိုတို့ အဖေ၊ အမေတွေကရော"

ပန်းညိုက ခဏလေး ငြိမ်သွားတယ်။

"အဖေနဲ့အမေက ကွဲသွားကြတာ၊ အမေက ပန်းညိုတို့နဲ့ ခဏနေသေးတယ်၊ နောက်တော့ ထွက်သွားတာ ပြန်မလာတော့ဘူး"

"ဪ... ဒီအလုပ်ကို ပန်းညိုလုပ်ချင်မှာ မဟုတ်ဘူးနော်"

"မသိပါဘူး၊ သီချင်းဆိုရတာတော့ ပန်းညို ပျော်ပါတယ်။ ဟို... ရွာမှာတော့ ဒီအလုပ်ကို ပန်းညိုတို့ မလုပ်ပါဘူး၊ အဝတ်လျှော်တာတို့၊ ယာကူလီတို့လုပ်တာ၊ ပွဲတော်တွေမှာပဲ ဒီအလုပ်ကို လိုက်လုပ်တာ။ ပန်းညို သီချင်းတွေ ဘာတွေ မဆိုတတ်ခင်တုန်းကဆို အသွားက မလုပ်နိုင်ပါဘူး။ ပန်းညိုတို့ကို အသွားက သူများအိမ်မှာ နိုင်းတာလုပ်ပြီး ရွာကျွေးလာတာ"

သူများအိမ်မှာ နိုင်းတာလုပ်ပြီးတဲ့။ မင်းမင်းရင်ထဲမှာ ကျင်ခနဲ ဖြစ်တယ်။ လောကကြီးထဲမှာ မရှိတော့တဲ့ မင်းမင်းရဲ့အမေဟာလည်း

မင်းမင်းတို့ မောင်နှမတွေကို သူများအိမ်မှာ ခိုင်းစားလုပ်ပြီး ရှာကျွေးခဲ့ရရှာတာလေ။

"ဒီအလုပ်က ဗိုက်ဆံတော့ရတယ် မဟုတ်လား"

"ရတယ်။ ပန်းညိုကို သနားပြီး ပေးကြတာတွေပေါ့"

"ဟုတ်တယ်၊ ပန်းညိုက သနားစရာကောင်းတယ်"

ဇရပ်နားမရောက်ခင် မှောင်ရိပ်မှာ မင်းမင်းက ရပ်လိုက်တယ်။ မောင်လုံးနဲ့ မိပြုံးက ဇရပ်နားကို ရောက်သွားကြပြီ။

"ချစ်စရာလည်း ကောင်းတယ်"

ပန်းညိုကိုယ်လုံးကလေးကို မင်းမင်း ဆွဲဖက်လိုက်တယ်။ မှုးယစ်တဲ့အရှိန်က မင်းမင်းကို တွန်းအားပေးနေတယ်။ ဒီကောင်မလေးကို ဒီည ရနိုင်ပါ့မလား။ ထိတ်လန့်တုန်ယင်နေတဲ့ အပျိုမလေးပါးပြင်ကို မင်းမင်းက အတင်းနမ်းတယ်။

"အဲလိုမလုပ်နဲ့... မလုပ်ပါနဲ့"

မပီမသ ကြောက်ကြောက်လန့်လန့်ထွက်လာတဲ့ အသံတိုးလေးက နှစ်ထင်မှေ့မျောသွားတော့မလိုဘဲ။ ရုတ်တရက် သနားစိတ်က ပန်းညိုကို လွှတ်ပြောက်သွားစေတယ်။

နောက်ဆုတ်သွားတဲ့ ပန်းညိုတစ်ကိုယ်လုံး တုန်ယင်နေတယ်။

"ချစ်လို့ပါ ပန်းညိုရယ်"

ပန်းညိုလက်ကလေးကို မင်းမင်း ဖျတ်ခနဲ လှမ်းဆွဲလိုက်ပြန်တယ်။

"အရက်တွေ သောက်ထားတယ်"

ပန်းညိုအသံ တုန်နေပြီး ငိုသံပါနေတယ်။

"နည်းနည်းလေးပါကွာ။ ညနေတက်ပွဲတုန်းက ကိုကြီးကျော်က ဇွတ်တိုက်လို့။ ပန်းညို အစ်ကိုကို ချစ်တယ်မဟုတ်လားဟင်"

ကောင်မလေးက မင်းမင်းလက်ထဲကနေ သူ့လက်တွေကို မရုန်းပါလား။ ဒီကောင်မလေးကို ရတော့မယ်ဆိုတာ အတွေ့အကြုံပေါင်းများစွာအရ မင်းမင်း သိလိုက်ပြီ။ ကောင်မလေးကို ဆွဲဖက်ပြီး ပါးကလေးကို နောက်တစ်ကြိမ် နမ်းလိုက်တယ်။

"နတ်ကတော်ကြီးနဲ့ အစ်ကိုနဲ့က ဘာတော်တာလဲဟင်"

ကောင်မလေးရဲ့ အသံတိုးလေးဟာ မင်းမင်းနားထဲမှာ ပြင်းထန်လှတဲ့ ဗုံးတစ်လုံး ပေါက်ကွဲသံလိုပဲ။ ကောင်မလေးကိုယ်ပေါ်က မင်းမင်းလက်တွေ အလိုလို ပြေလျော့သွားတယ်။

မှောင်ရိပ်ထဲက မင်းမင်းအဖြေကို စောင့်နေတဲ့ ရိုးသားတဲ့ မျက်နှာလေးကို မင်းမင်း မြင်လို့ရနေတယ်။

"ဦးဘစိုးက အစ်ကိုတော်တယ်။ အရင်းတော့ မဟုတ်ဘူး။ နှစ်ဝမ်းကွဲ တွေ့မျိုးပေါ့"

"အစ်ကိုက သူ့ဆီမှာ ဘာလုပ်ရလဲဟင်"

ကောင်မလေးရဲ့ အသံတိုးလေးတွေက မင်းမင်း အသားထဲကို အပ်ချားလေးတွေ စိုက်ဝင်သွားကြသလိုပဲ။

"မန်နေဂျာပေါ့။ သူ့မန်နေဂျာလေ။ သူ့ပွဲကိစ္စတွေ ဘာတွေညာတွေအားလုံး စီစဉ်ပေးရတာပေါ့"

"ဪ..."

ခေါင်းညိတ် ယုံကြည်နေရှာတဲ့ ကောင်မလေးကို ဖြေရင်း မင်းမင်း ဝမ်းနည်းလာတယ်။ ပြီးတော့ သူ့လက်တွေကို အားကိုးတကြီး ဆုပ်ကိုင်ထားတဲ့ ကောင်မလေးနဲ့ အိမ်ထောင်အစစ်တစ်ခုကို ထူထောင်ပြီး လူ့လောကကြီးကို ရဲရဲရင့်ရင့် ရင်ဆိုင်ချင်တဲ့စိတ်တွေ မဝင်စဖူး ဝင်လာနေတယ်။ ကောင်မလေးကို ညင်ညင်သာသာ နမ်းရှိုက်လိုက်တယ်။

"ချစ်တယ်"

ဒီတစ်ခါစကားဟာ ရင်ထဲကပဲ ပြောပေမယ့် ကိုယ
ပြောမိတာပါ။ မိန်းမလျာတွေ၊ မိန်းမစစ်တွေကို အခါများစွာ
တဲ့ "ချစ်တယ်"နဲ့ ဘယ်လိုမှ မတူဘူးဆိုတာ ယုံပါ ပန်း



# ယုန်ထိုး
## ဝါခေါင်လဆန်း ၁၃ ရက်

ူ… ဒီနယ်မြေဟာ မင်းနှစ်ပါးက ဖန်ဆင်းပေးထားတဲ့ လပ်မှု နယ်မြေတွေ။ ဒီနယ်မြေမှာ ဒီခုနစ်ရက်မှာ လူတွေရဲ့ ကို အစွမ်းကုန် လွှတ်လပ်ခွင့်ပေးသနားတော်မူထားတယ်။ တွေ၊ လူမှုရေးတွေ၊ ဒေါသ၊ လောဘ၊ မောဟတွေနဲ့ ခဲ့ လူတွေရဲ့ စိတ်ကလေးတွေဟာ သနားစရာကောင်း အောင် သိပ်ကို မွန်းကျပ်ပိတ်လှောင်ခံထားရတာ။ ဟဲ… လေးတွေကို လွှတ်ပေးလိုက်ကြစမ်း။ အနားပေးလိုက်ကြ တော်တို့ အမိန့်ပေးတော်မူတယ်။ စိတ်လွတ်ကိုယ်လွတ် ကြစမ်း။ စိတ်လွတ်ကိုယ်လွတ် ပျော်နိုင်တယ်ဟေ့"

ပြာရောင် စီကော ပိုးပြောင်ရုပ်လက်ရှည်၊ ရေမ်းပြာရောင်

ပိုးဝေယာမှုဆို။ လည်ပင်းမှာ ရေမ်းနုရောင်ပဝါ မရို့တရို့ ချည်နှောင်ထားပြီး၊ အသားဖြူဖြူ ဝိန်ဝိန်သွယ်သွယ်၊ ချောချောလှလှမျက်နှာလေးမှာ မိတ်ကပ်တွေ ဖုံနေတဲ့ တက်သစ်စ နတ်ကတော် မိန်းမလျာလေး သင်းကြိုင်ရဲ့ စကားအတွေးအဆန်းတွေကို လက်ဟောင်းနတ်ကတော်ကြီး ဒေဝီကျိန်းတစ်ယောက် ငေးမောနားထောင်နေရတယ်။

ဘာတွေလဲဟဲ့၊ စာစကား ပေစကားတွေနဲ့ ခေတ်ဆန်လိုက်တာ၊ နားမလည်ပေါင်တော်။ သင်းက တတ်မှာပေါ့။ ဘွဲ့ရပညာတတ်မကိုး။ အသက်ကလည်း သုံးဆယ်ကျော်ရုံ ရှိသေးတာ။ ဒီတစ်နှစ်၊ နှစ်နှစ်အတွင်းမှာ "နတ်မင်းသားလေး သင်းကြိုင်၊ သင်းကြိုင်"နဲ့ လျှမ်းလျှမ်းတောက် ဖြစ်လာတဲ့သူပေါ့။ ဒေဝီကျိန်းတို့ရဲ့ "နတ်လောကရဲ့ လင်းစာနည်ဇော်ကလေး"ပေါ့။ သူ့နန်းကလည်း ငါးခန်းတွဲ၊ ခြောက်ခန်းတွဲတလောက်တော့ ရှိမယ်။ အိမ်ဝိုင်းတစ်ခုထဲမှာ တဲကြီး အကြီးကြီးတစ်လုံး ထိုးနိုင်ပြီး ငှားလိုက်တာပေါ့။

ဒီကောင်မ ရုပ်ဝေးတာပည့်တာပန်းတွေကလည်း မနည်းပါပဲလား။ အိပ်သူအိပ်၊ ထမင်းစားသူစား၊ တန်တော့ပွဲမြင်တဲ့သူ မြင်နဲ့၊ သူ့တေးနား နတ်မေးတဲ့သူတွေကလည်း မေးနဲ့၊ ကိုယ်ရောက်တာတောင် ဒီကောင်မ "မာမီ... ခဏနေဦးနော်" ဆိုပြီး လက်အုပ်ချီ ထိုင်ခိုင်းပြီး နတ်ဆက်ပေးနေရတယ်။

သူ့လင်ကလေးကတော့ လက်ဖက်ပွဲတွေ၊ မုန့်ပွဲတွေနဲ့ လာဧည့်ခံထားတယ်။

ကောင်လေး တော်သားပဲ၊ ရုပ်ကလေးကလည်း ချောရတယ်၊ နုတ်ခမ်းမွေးကလေးနဲ့ ကုလားမင်းသားလေးလိုပဲ။ ဟိုကောင်မ သင်းကြိုင် မှာထားတယ် ထင်ပါရဲ့။ ကိုယ့်နား လာမထိုင်ရဲဘူး၊ စကားမပြောရဲဘူး။ တခြားအလုပ်တွေပဲ လျှောက်လုပ်နေတယ်၊

သူ့မျှားလင်တွေများ တော်ပျံ၊ သူ့မျှားအိမ်ကဟာမြင် ကိုယ့်အိမ်ကဟာ မလိမ္မာတော့ ကိုယ့်မယ် အသက်ကြီးတောင့်ကြီးမားကျမှ အမူမပြတဲ့ ယုမေ ဖြစ်ရတယ်။ မနေ့ညက ကိုဟိုဒင်းလေး သုံးနှစ်ရှိလောက်မှ ပြန်လာတယ်။ ရု မနက်လင်းတာနဲ့ တားသောက်ထွက်သွားလိုက်တာ။ ကိုယ့်မယ် စည့်သည်တွေနဲ့ ရှုပ်ယှက်ခတ်တဲ့ကြားက လင်ပျောက်ရှာ မိုတော် ဖွင့်ရတယ်။ မုန့်သာမြိုင် ကရဦးမယ်။ ကျိန်းစာခွန်းမကြီးတို့ သိပြီလေ။ ဒါလောက်ဆို သိပြီ။ ဒီခြေလှမ်းမျိုးဟာ ဘာဆိုတာ သိပါ တယ်။ သိလို့ တားခဲ့ရပေါင်း။ လိုက်ခဲ့ရပေါင်းတွေ များလှပြီ။ လင်ဝိတ်ကိုး။ ငယ်ထိပ်တက်တာကိုး။ ကိုယ်ကချစ်တော့ မပစ်နိုင်တော့ ဖတ်သီဖတ်သီနဲ့ မုန့်သာမြိုင် ကဟဲ့... ကဟဲ့... ခုဆို သင်းသွားတတ် တဲ့ ကနားတဲတွေ စုံပြီ၊ လှသူ့တာမေတို့ ကနားလည်း ရောက်ခဲ့ပြီ။ အကျိုလည်ဟိုက်မပဲဆိုတာ အမြဲဝတ်ပြီး ကြွေကလပ် အနီမုံလေးကို ကုန်းကုန်ချီး ကြွေခေါက်နတ်ပေဟာတဲ့ ပိန်းမစိန်နတ်ကတော် မခင်ဖွေး ကနားလည်း ရောက်ခဲ့ပြီ။

ကိုယ်နိုင်တဲ့ဟာတွေဆိုတော့ ဆဲဆို ကြမ်းခဲ့ရမ်းခဲ့တယ်၊ သူတို့ ကာထားတဲ့ နောက်ထဲကိုတောင် ဝင်မွှေပစ်ခဲ့တယ်၊ လှူတိုက်နတ် တိုက်ဖုံအောင်ကို လုပ်ပစ်ခဲ့တယ်။

ဟိုကောင်မ ငွေခင်ဆီလည်း ရောက်ခဲ့တယ်၊ စောစောစီးစီး ဘယ်လေလွှင့်နေတယ် မသိဘူး၊ မတွေ့ခဲ့ရဘူး။ တစ်ကနားဝင် တစ်ကနားထွက်နဲ့ လှုလည်း မောလို့။ သင်းကြိုင်ကနား ဝင်ဝင်ချင်း ဘီလပ်ရည်တစ်လုံး ငါ့ပေးစမ်းဟဲ့ဆိုပြီး တောင်းသောက်ရတယ်၊ ခြောက်... ဝင်ရှိုသမျှ ခံရုံရှိတာပေါ့။ ဘာတတ်နိုင်မလဲ။

"သူတော်မဟုတ် သူယုတ်မာတွေနဲ့ ပေါင်းတော့ နင် လှူလိမ်ခံရ တာပေါ့။ နင် ထုံးသမျှ ရွှံ့သမျှ ပြုရအောင် ကိုယ်တော်လုပ်ပေးရင်

ကျေနပ်တယ် မဟုတ်လား၊ ရော့... လိမ်တဲ့ လူ့အပေါ် မေ့နိုင်အောင်လို့ ဒီပဝါ အမြဲဆောင်ထား"

တယ်ဟုတ်ပါလားဟဲ့၊ ဒါမျိုးတွေကြောင့် ဒီကောင်မ နာမည်ကြီးပေတာပဲ၊ သင်းကြိုင်ပေးတဲ့ ပဝါလိမ္မော်ရည်ကို တရိုတသေယူနေတဲ့ မိန်းမနဲ့ စီးကရက်ကို ဟန်ပါပါခဲထားတဲ့ သင်းကြိုင်ကို ဒေစီရှိန်းက တစ်လှည့်စီ ကြည့်ရင်း စီးကရက်ငိုးတွေကြားကနေ အစိမ်းရောင်ပါတဲ့ မျက်လုံးကို ဒေစီဖျိန်းဆီ လှမ်းပစ်တယ်၊

"ဟော့... ဒီဇနဲ့ ဘာနေ့လဲကွ"

"ယုန်ထိုးနေ့ပါ ဘုရား"

"အေး... ကိုယ်တော်ကြီးတို့အတွက် ယုန်ထိုးရတဲ့နေ့ ယုန်လိုက်ရတဲ့နေ့၊ ယုန်ထိုးနေ့၊ ကိုယ်တော်ကြီးနှစ်ပါးဟာ နတ်ဘဝကနေ လူ့ယောင်ဖန်ဆင်းပြီး ဟောဒီတောင်ပြန်းရွာက ထန်းတောမှာ ထန်းရည် လာလာသောက်တော့ တစ်နေ့မှာ ထန်းသူကြီးက ယုန်သားကင်ကို အမြည်းအဖြစ် ဆက်တာကိုး၊ အဲဒီမှာ ယုန်ကင်ကို မြည်းတော့ အင်မတန် အရသာရှိလွန်းတော့ ထန်းသူကြီးကို ခေါ်ပြီ ဟဲ့... မောင်မင်း၊ ဒါ ဘာသားလဲဟဲ့၊ အမြန်လျှောက်တင်စမ်း ဆိုတော့မှ ယုန်ကင်ဖြစ်ကြောင်း သိရတဲ့အခါ လူ့အသွင်က နတ်အသွင်ဖန်ဆင်းပြီး တောင်ပြုန်း မင်းညီနောင် ကိုယ်တော်နှစ်ပါးကြွလာတိုင်း ယုန်ကင်ဆက်စေ" အမိန့်တော် ချမှတ်လိုက်တယ်၊

"အဲလိုနဲ့ မင်းနှစ်ပါးကြွလာတိုင်း ယုန်ကင်ဆက်ဆက်နဲ့နေတုန်း တစ်နေ့ကျတော့ မင်းနှစ်ပါးအတွက် ဆက်ဖို့ယုန်ကို မိန်းမကြီးတစ်ယောက်က ရှောင်အိမ်ကနေ လွှတ်ပစ်လိုက်တော့ မင်းနှစ်ပါး ကြွလာတော့ ဆက်ဖို့ ယုန်ကင်မရှိဘူး၊ အဲဒီတင် မင်းနှစ်ပါးက စိတ်ဆိုးပြီး တစ်ခါတည်း ဆုပ္ပကြိမ်းမောင်း၊ အစွမ်းကုန် ဆဲဆိုသတဲ့၊

အဲဒီတုန်းက မင်းနှစ်ပါးက ငယ်လည်း ငယ်သေးတဲ့အရွယ်တွေ မဟုတ်လား။ အဲဒီဆဲတာကို အကြောင်းပြုပြီး မင်းနှစ်ပါး ပွဲတော်ကျင်းပတဲ့အခါ ဒီနေ့ လဆန်း၊ ဆယ့်သုံးရက်နေ့ကို ယုန်ထိုးနေ့လို့ သတ်မှတ်ပြီး ယုန်ကင်ဆက်ရတဲ့ ရွာက ယုန်ကင်များကို လာဆက်သရတယ်။ ဆက်သဖို့အတွက် လာရာလမ်းတစ်လျှောက်မှာ ယုန်ကင်ဆက်သူများက မည်သူ့ကိုမဆို ကြိုက်သလို အဆဲမျိုးစုံနဲ့ ဆဲဆိုနိုင်တယ်။ ဆဲဆိုခံရသူများကလည်း စိတ်မဆိုးဘူး။ ဆဲဆိုသူများရော၊ ဆဲဆိုခံရသူများရော ဒီနေ့ ဒီရက်မှာ အစွမ်းကုန် ဆဲဆိုနိုင်လေ၊ အစွမ်းကုန် ဆဲဆိုခံရလေ ဒီနှစ်အဖို့ လာဘ်လာဘ ပေါများပြီး စည်းစိမ်ဥစ္စာ တိုးတက်လေပဲ။ မကြာခင်မှာ နန်းကြီးနားကို ယုန်ဆက်သူတွေ ရောက်တော့မယ်။ သွားပြီး အဆဲခံချည်ကြ၊ ဟိုနားက မောင်းမကြီးရော အဆဲခံဖို့ မသွားဘူးလား။ ဂျိန်းဆိုတဲ့ မောင်းမကြီး"

ကြည့်... ကြည့်... သင်းကြိုင်... သင်းကြိုင်၊ ဂျိန်းစဘွန်းကို လှမ်းလှပ်တာ သူက။

"မှန်ပါ... လေကို မကြိုက်၊ လက်တွေ့ကိုသာ ကြိုက်ကြောင်းပါ ဘုရား"

ကဲ... မှတ်ကရော။ ရှမှ နင့်မျက်လုံးပြူးမသွားနဲ့ နတ်လင်းဇာနည်ဖော်မ၊ ငါ့အကြောင်းလည်း နင်သိတယ်။ ငါ ငယ်ငယ်က ယုန်ထိုးတဲ့နေ့ ဘယ်လိုလုပ်တယ်ဆိုတာ နတ်ကတော်တိုင်း သိတယ်။

အို... ငယ်ငယ်ကတော့ ဂျိန်းစဘွန်းမပီပီ သောင်းကျန်းသလားလည်း မမေးနဲ့၊ ယုန်ထိုးတဲ့နေ့ဆို ပျော်လွန်းလို့ နန်းကြီးနားက သွားစောင့်တာ။ ယုန်ကင်ဆက်တဲ့သူတွေ လာပြီဆို ရှေ့နားကနေ အတင်းသွားရပ်တာ။ ယုန်ကင်ဆက်တဲ့ သူတွေက ယောကျ်ား၊ မိန်းမ၊ ငယ်သူရော၊ ကြီးသူရော အဘိုးကြီး၊ အဘွားကြီးတွေရော ဆိုင်ရာပိုင်

ရား ရှိးရာရှိသူတွေ အကျန်လိုက်ရတာကို။ အဘိုးကြီး အဘွားကြီးတွေဆို သိပ်ရယ်ရတာပဲ။ လူငယ်လူရွယ်တွေလို အော်ဟစ်မဆဲရဲတော့ ပါးစပ်ကလေးတွေ လှုပ်လှုပ် လှုပ်လှုပ်နဲ့ပဲ အသံမထွက်ဘဲ ဆဲနေကြတာ။ ကျိန်းစွန်းတို့နဲ့တွေ့တော့ အဲဒီအဘိုးကြီးတွေကို လိုက်စတာ။ အတင်းအော်ဆဲနိုင်တာ သိပ်ရယ်ရတာပဲ။ လူငယ်လူရွယ်တွေ မကြားဝံ့ မနာသာဆဲတဲ့ အဆဲမှန်သမျှကိုလည်း ကျိန်းစွန်းမကော အကုန်လက်ခံတဲ့အကြောင်း ပြန်အော်တာ။ ကျိန်းစွန်းမကို အားလုံးက ဩချီးယူရတယ်။

စရိုက်လောက်ဆို နန်းကြီးအစကနေ နတ်အုတ်မင်းတို့၊ မိဖုရားကြီးတို့၊ ဝန်ကြီးလေးပါး၊ အမတ်ချုပ်ကြီး၊ သိုးတောင်း၊ တောင်းဆောင်းတွေအားလုံး ယှန်ကြိုနေကြလောက်ပြီပေါ့။ တကယ်ဆို တောင်းတစ်တောင်းဖြစ်တဲ့ ဒေဝီကျိန်းလည်း သွားရမှာပဲ။ ဒီမှာ လင်မူမြူနေရတာနဲ့ ဘယ်သွားနိုင်လို့တုန်း။

"ဩော်... လာဟဲ့၊ ရှေ့တိုးစမ်း၊ တေဝီရီယိုဆိုမလို့ ဆိုတဲ့ဟာလေးလား"

နတ်မေးတဲ့ အုပ်ထဲကနေ ရှေ့တိုးလာတဲ့ ကောင်မလေးဆီက နစ်ရာတန်ငါးရွက်ကို သင်းကြိုင်တို့က ဖျတ်ခနဲဆွဲယူပြီး နဖူးထိပ်မှာကပ်ပြီး လက်အုပ်ချီလိုက်တယ်။

"အနုပညာသည်ပါ ဘုရား၊ ရုပ်ကိုလည်း လှူပါတယ်။ အသံကိုလည်း လှူပါတယ်ဘုရား။ မျက်နှာမြင် ချင်ခင်ပါစေ၊ အသံကြား သနားပါစေ၊ ပြိုင်သူတိုင်းကို နိုင်ရပါစေ ဘုရား"

လှုပ်လိုက်ပြန်ပြီ။ နတ်မင်းသားလေးတို့ကတော့ ဆုတောင်းရာယူမှုများ သူ့အတွက် မိုးရှည်းမယ်မှုပဲ။ သင်းကော ငယ်ငယ်လေးကတည်းက တောင်းဘီတိုလေးနဲ့ နတ်လိုက်ထင်ပေးနေတဲ့ အာဇာနည်မပဲ။

ဒါလောက်တော့ အသာလေးပေါ့၊ သင်းက မျိုးနဲ့ရိုးနဲ့ နတ်ကတော်မ၊ သင်းဦးလေးအရင်းက နတ်ကတော်လေး၊ မိန်းမလျှာမပဲ၊

မိန်းမလျှာဖြစ်တာကလည်း မျိုးနဲ့ရိုးနဲ့ပဲ၊ ကျောင်းစနေတဲ့ အရွယ်လောက်ကတည်းက အိမ်ကအလစ်မှာ ပြေးပြေးပြီး ဦးလေးလုပ်သူ နတ်ပွဲမှာ ဝင်ဝင်ကတာ၊ အိမ်က ရိုက်နက်ဆုံးမ၊ အမျိုးမျိုး ဆူပူကြိမ်းမောင်းလည်း မရ၊ ဘယ်ရမှာတုံး၊ ဒီလိုင်းက ဝင်မိရင် သွားတာပဲ၊ လိုင်းဝင်သွားလို့ကတော့ သွားပြီသာမှတ်၊

ဒီကောင်မက စန်းကလေးကတော့ ရှိတယ်၊ သူ့ဦးလေး နတ်ပွဲတစ်ခုမှာ ကိုကြီးကျော်ပူးနေတုန်း သူရောက်သွားတော့ ကလေးဆိုတော့ ဘာမသိ ညာမသိ နတ်ဝင်ပူးပြီး ဝင်ကပစ်လိုက်တော့ နတ်ပရိသတ်တွေလန့်ပြီး သူ့ကို ယုံတာ၊ နတ်ပွဲမှာ ကိုကြီးကျော်ဆိုတာ မိန်းမျှိုင်း သူပူးနေတုန်း ဘယ်နတ်မှ ပူးရတာ မဟုတ်ဘူး၊ ကိုကြီးကျော်ပူးနေတုန်း ဝင်ပူးရဲတဲ့ နတ်ဆိုတာ ရှားမှရှားကိုး၊ အဲဒီထဲက သူ့ကို တော်တော်ယုံသွားကြတာ၊ သူ့နတ်တွေ လိုက်တင်ပေးတော့ ရှစ်တန်းရှိသေးတယ်၊ ခေါင်းဘီတိုလေးနဲ့၊

သူ့ နတ်ပွဲကတော ပြောပြတာများ ရယ်လည်း ရယ်ရတယ်၊ ကောင်မက အပြောလည်း စပ်ကောင်းကောင်း၊ မာဃီရယ်… ကုသိုလ်ကံဆိုတာ ဆန်းကြယ်တယ်တဲ့၊ ဗိုလ်ချုပ်ဈေးက အလှပြင်ဆိုင်တစ်ခုမှာ ကိုယ်က တကယ်တော့ သူငယ် သွားငင်းတာ၊ ဒါပေမယ့် ဟိုမှာ ဘာတွေ သွားတွေ့လဲဆိုတော့ မိုးကုတ်က ကျောက်ကုန်သည်မတွေနဲ့ သွားတွေ့တယ်တဲ့၊ သူတို့မှာ တော်တော်အဖိုးတန်တဲ့ ကျောက်တစ်လုံးက ဘယ်လိုမှ ရောင်းမထွက် ဖြစ်နေတယ်၊

နည်းတွေလည်း စုံနေပြီ၊ နောက်ဆုံး နတ်မေးဖို့ လုပ်နေတုန်း ကိုယ်နဲ့သွားတွေ့တာတဲ့၊ အလှပြင်ဆိုင်က သူငယ်ချင်းမတွေက နတ်

ကတော်ကြီးတွေဆီ မသွားနဲ့၊ ပိုက်ဆံကုန်တယ်။ ဟောဒီကောင်မက နတ်ထပ်တယ်။ အောင်မြင်မှပေး၊ မေးဆိုပြီး လုပ်ကြတော့ ကိုယ်က လည်း ဟောချပစ်လိုက်တယ်တဲ့။ ဟဲ့... ပစ္စည်းကို မူလက လာတဲ့ အရပ်မှာ ပြန်ရှောင်း။ ဒါမှ ရှောင်းရမယ်။ ဒီမှာ ဘယ်လိုလုပ်လုပ် မရဘူးလို့ ဟောချလိုက်တယ်။

ပြီးတော့ အေး... အောင်မြင်ရင် နတ်ပွဲ၊ ပျော်ပွဲသုံးရက် ကနား ပေးရမယ်ဆိုတော့ ပေးပါမယ်တဲ့။ အဲဒါ သူတို့က မန္တလေးပြန်သွားပြီး မန္တလေးမှာ အရောင်းအဝယ်လုပ်တာ ချက်ချင်းရောင်းရရော။ ကတိ တည်ပါတယ်။ သူတို့က ရန်ကုန်ပြန်လာပြီး သုံးရက်ကနားအတွက် ငွေနှစ်သောင်းအပ်တယ်တဲ့။ အဲဒီအချိန်က သုံးရက်ကနားတစ်ပွဲကို ရှစ်ထောင်လောက်ပဲ ကုန်တဲ့အချိန် နှစ်သောင်းဆိုတာ ဘယ်နည်းမလဲ။ အဲဒီတော့ ပျော်ပြီး တစ်သောင်းကို ဦးလေးနတ်ကတော်လက်ထဲအပ်၊ အကုန်စီစဉ်ပေးပါပေါ့။ ကျန်တဲ့တစ်သောင်းကိုတော့ ငါးပြား တစ်စေ့ မကျန်အောင် အဝတ်အစားတွေ ဝယ်ချပစ်လိုက်ရော။ နတ်ပွဲစမယ့်နေ့ ရောက်တော့ ဦးလေးလုပ်သူက ရက်မှားပြီး မဏ္ဍပ်လည်း လာမထိုး ဘူး။ လူလည်း မလာဘူး။ ကနားစီးအသစ်မယ် ဖိုရတာပေါ့။ ကျောက် ကုန်သည်မတွေကတော့ ရပါတယ်ပေါ့။ ကလေးသုံးပစ်လိုက်လို့ ပိုက်ဆံတွေ ကုန်သွားလည်း သူတို့ ကျေနပ်ပါတယ်ပေါ့။

ဒါနဲ့ နောက်နေ့ကျတော့မှ လင်းတာနဲ့ ဝုန်း...ဝုန်းဆို မဏ္ဍပ် ကားကြီး ဆိုက်လာပြီး မဏ္ဍပ်တွေထိုး၊ ပွဲတွေပြင်နဲ့ ဦးလေးလုပ်သူက လာလုပ်ရော၊ အဲဒီမှာ စားတော်စာတွေအတွက် ဦးလေးလုပ်သူက လုပ်မလာတော့ ရော့...သွားပေါင်ဆိုပြီး လက်စွပ်ချွတ်ပြီး၊ ငါးရာနဲ့ ပေါင်၊ စားတော်စာလုပ်၊ ပြီးတော့ ဂျိန်း...ဂျိန်းဆို ပူးချလိုက်တယ်။ ပူးတာကတော့ လွယ်တာပေါ့၊ ဒါပေမယ့် သူ့မှာ ပရိသတ်က မရှိ၊

ဘာမရှိ မလုပ်တတ် လုပ်တတ်နဲ့ အားငယ်နေရတဲ့အထဲ ကျောက်ကုန်သည်မတွေနဲ့ အဖော်လိုက်လာတဲ့ မန္တလေးသူဌေးတွေက နတ်ပွဲမကာ ဖြစ်ဘူးဆိုပြီး ရထားလက်မှတ်ယူထားတော့ အဲဒီနေ့ ပြန်ကြတာ။ သူ့ နတ်ကနေတုန်း ဘူတာဆင်းကြတော့ တစ်ခါတည်း သူကလည်း စွတ်ရွတ်ပြီး "ဟေ့…နေဦး။ နင်တို့ ဘယ်လိုမှ သွားမရဘူး။ ငါ့ဆီကို နင်တို့ ပြန်ကို ပြန်လာရမယ်။ ဒီနေ့ မန္တလေးကို နင်တို့မပြန်ရဘူး" လို့ ဟောပစ်လိုက်တယ်။

သွားပြီး ခဏလောက်လည်းနေရော မကွာပ်ရှေ့ကို ကားကြီးဝေါခနဲ ပြန်ဆိုက်လာတယ်။

သူတောင် လန့်သွားတယ်တဲ့။ အဖြစ်က ဒီမှာနေခဲ့တဲ့ ကျောက်ကုန်သည်မတွေဆီ သူတို့သော့တွဲ မေ့ကျန်နေခဲ့လို့ ပြန်လာရတာ။ အဖြစ်က…။

ဒါပေမယ့် သင်းကြိုင်တို့ဟောချက် မှန်လေခြင်း ဖြစ်ပြီလေ။ အဲဒီသူဌေးတွေက တောက်လျှောက် ကိုးကွယ်တော့တာပေါ့။

ဒီကောင်မ အဲဒီပွဲပြီးကတည်းက ကနားစီးဖြစ်တော့တာပဲ။ နတ်မင်းသားလေး သင်းကြိုင်… သင်းကြိုင် ဖြစ်တော့တာပဲ။ ခေတ်အလိုက်၊ ခေတ်အကြိုက်ကို ယုတ္တိယုတ္တာနဲ့လည်း သူက ပြောတတ်၊ ဟောတတ်၊ ရှင်းတတ်လင်းတတ်တာကိုကလည်း သူများ နတ်ကတော်တွေထက် တစ်ပန်းသာတယ်။ ခေတ်ပညာတတ်တွေကို သူက စည်းရုံးနိုင်တယ်။ သူ့မှာ အလွှာအသီးသီးက နတ်တပည့်တွေ ရှိတယ်။

"နတ်ဆိုတာကတော့ အငွေ့အသက်နဲ့ ကပ်တယ်၊ ပူးတယ်၊ တုန်တယ်။ ဒါပေမယ့် သတိလစ်သွားတာတော့ မဟုတ်ဘူး။ မူးမေ့သွားတာတော့ မဟုတ်ဘူး။ မေ့ပြီး ဘာမှ မမှတ်မိတော့ဘူးဆိုတာ လိမ်တာ။ နတ်က သိတယ်။ လူ့ပူးတာပဲ၊ မသိဘဲ နေမလား"

အဲ... အဲဒါမျိုးတွေပေါ့၊ အလှည့်အပတ်ကလေးတွေနဲ့ ပြောတဲ့ နေရာမှာတော့ မတွေ့ဘူးလား။ နတ်မေးတဲ့အုပ်ထဲက နတ်ဇာဟုသုတ ရှာသူတစ်ယောက်ဟာ ခေါင်းတညိတ်ညိတ်နဲ့ ဖြစ်နေတယ်။

"နတ်ပူးတယ်ဆိုတာ လိမ်တာ။ နတ်ကတော်တွေက လူတွေကို လိမ်စားတာ။ ဟောဒီ တောင်ပြုန်းပွဲကြီးဟာ နတ်ကတော်တွေ လိမ် စားတဲ့ပွဲဆိုပြီး မင်းတုန်းမင်းတရားကြီး လက်ထက်မှာ တောင်ပြုန်း ပွဲကြီးကို ပိတ်ကို ပစ်လိုက်တာ ကြားဖူးမှာပေါ့။ မင်းတုန်းမင်း တရားကြီးလက်ထက်ကစပြီး သီပေါမင်းလက်ထက်ထိ တောက် လျှောက်ပိတ်ထားတာ ဘယ်အချိန်ကျမှ ပြန်ဖွင့်တာလဲဆိုတော့ အင်္ဂလိပ်အစိုးရလက်ထက်ကျမှ ပြန်ဖွင့်တာ။ အဲဒီပြန်ဖွင့်တဲ့အချိန် ကစပြီး ဒီနေ့ထိ တောင်ပြုန်းပွဲကြီးဟာ တစ်နှစ်ထက်တစ်နှစ် စည် ကား၊ စည်ကား လာနေတယ်။ နတ်ကိုးကွယ်သူတွေ များများလာ တယ်။ အဲဒါ ဘာကြောင့်လဲ၊ လူဆိုတာ ကိုယ့်ဘဝ လူမှုရေး၊ စီးပွား ရေး အဆင်မပြေတော့ဘူးဆိုရင် ကိုးကွယ်ရာ တိုင်တည်ရာ သိပ်ရှာချင် တဲ့ လူစားမျိုး မဟုတ်ဘူးလား၊ အင်္ဂလိပ်အစိုးရ တောင်ပြုန်းပွဲ ပြန်ဖွင့် တာကိုက ရည်ရွယ်ချက်ရှိတယ်။ ပြည်သူပြည်သားတွေ ပျော်ပါစေ တော့၊ ပါးပါစေတော့ဟဲ့ ဆိုတဲ့ ရည်ရွယ်ချက်လို့များ မထင်နဲ့၊ အဲဒီစေတနာ တစ်ပြားသားမှ မပါဘူး။ မြန်မာတွေ သူ့ကျွန်ဘဝနဲ့ ဝမ်းနည်းအားငယ်နေတဲ့အချိန်၊ ကျွန်ပြုသူ အင်္ဂလိပ်ကို အမုန်းကြီးမုန်း။ စိတ်နာနေတဲ့အချိန်မှာ တမင်တကာ အာရုံပြောင်းသွားအောင် လုပ်တာ။ ပွဲကြိုက်တဲ့ အပျော်အပါးကြိုက်တဲ့ မြန်မာတွေကို ပွဲလမ်းသဘင် အပျော်အပါးတွေနဲ့ အာရုံပြောင်းပေးတာပေါ့။ ပြီးတော့ အချိန်ကလည်း အံကိုက်လေ။ ကိုယ့်အရှင်သခင်နှစ်ပါး ပါတော်မူသွားလို့ တိုင်းပြည် က လွမ်းနေကြတဲ့အချိန်ဆိုတော့ တောင်ပြုန်းမင်းညီနောင် အရှင်နှစ်ပါး

ကိုပဲ အတိုးချပြီး ချစ်ကြ၊ ကိုးကွယ်ကြတော့တာပေါ့။ လူတွေ အချိန်အကြာကြီး ခေါ်ချင်နေခဲ့တဲ့ အရှင်နှစ်ပါး၊ အရှင်နှစ်ပါးဆိုတာကို အဲဒီကျမှ အားရပါးရ ခေါ်ရတော့တာကိုး။ လူတွေလွမ်းနေခဲ့တဲ့ နန်းတော်ကြီးတို့၊ မိဖုရားကြီးတို့၊ ဝန်ကြီးတို့၊ အိမ်ဖန်တောင့်တို့ဆိုတဲ့ ဝေါဟာရ အသုံးအနှုန်းတွေကို တောင်ပြုန်းပွဲမှာ ဖြိန်ရေရှက်ရေ သုံးကြတာကိုး။ အင်္ဂလိပ်အစိုးရက တိုင်းသူပြည်သားတွေရဲ့ရင်ထဲက အမုန်းစိတ်တွေကို လျော့အောင် လုပ်တဲ့ပွဲမှာ နတ်ကတော်တွေက တန်ဆာခံတွေပါနော်။ နတ်ကတော်တွေ လိမ်စားဖို့ တောင်ပြုန်းပွဲကို ဖွင့်ပေးတာမှ မဟုတ်ဘဲ။ တိုင်းပြည်ကို သူတို့လိမ်စားဖို့ တောင်ပြုန်းပွဲကို ဖွင့်တာ။ အေး... ဒါပေမယ့် နတ်ဆိုတာတော့ ရှိတယ်။ နတ်ကတော်ဘာတဲ့ သင်းကြိုင်တို့ရဲ့ မာမီကျိန်းရဲ့ လက်သုံးစကား နတ်ကတော်ဆိုတာ ငရဲအိုးနှုတ်ခမ်းပတ်ပြေးနေတဲ့ သူတဲ့ ဟုတ်ရဲ့လား"

နောက်သလို ပြောင်သလို လုပ်ချလိုက်တဲ့ သင်းကြိုင်ကို ဒေဗီလိုန်းက အသံမထွက်တဲ့နည်းနဲ့ ဆဲလိုက်တယ်။ ဒီကောင်မဟာ တတ်သလောက် စကားလည်း များသလား မမေးနဲ့။ ငမင်း သဲလွန်စသင်းဆိုကများ ရမလားလို့ ကောဝင်မိတာ သင်းစောင့်နေရတာပဲ မပြီးနိုင်ဘူး။

"ခုနပြောတဲ့ ယကြာက ဘယ်ဘုရားမှာ ချေရမှာလဲ ကိုသင်းကြိုင်"

"ဆုတောင်းပြည့်ဘုရားမှာ ချေရမယ်၊ ကန်တော့ပွဲ သုံးပွဲနဲ့ နင်းဆီအနီရဲရဲ တစ်စည်း။ ရှိရဲ့လား၊ အိမ်အနီးအနားမှာ ဆုတောင်းပြည့်ဘုရား၊ မရှိရင်လည်း ဒီမှာလုပ်။ ဗိုတောင်ကောင်းသေးတယ်၊ ဒီတောင်ပြုန်းစေတီဟာ ဆုတောင်းပြည့်စေတီပဲ။ လုပ်မလား၊ လုပ်မယ်ဆို ကန်တော့ပွဲဖိုး ငါးရာ့ငါးဆယ်ထားခဲ့။ ကျူပ်ပဲ မနက်

စောစောထပြီး လုပ်လိုက်မယ်"

ပိုက်ဆံအိတ် နစ်တောင်လောက်ရှိတဲ့ အမျိုးသမီးကြီးဆီက ငါးရာ့ငါးဆယ်ကို သင်းကြိုင်က အရေးမစိုက်လေဟန် ကန်တော့ပွဲထဲ ထိုးညှပ်လိုက်ပြီး ဒေစီရှိန်းဆီ ထလာတယ်။

"သွားမယ်... ကိုသင်းကြိုင်"

"ဟုတ်ကဲ့၊ ကောင်းပါပြီ။ အားလုံးစိတ်ချပါ"

မိန်းမလျှာ နှာသံကြာသံ မှုန့်နွဲ့နွဲ့လေးနဲ့ ယဉ်ကျေးဖွယ်ရာ လုပ်နေတဲ့ နတ်လင်းဇာနည်ဇော်မနားကို ဒေစီရှိန်းက အသာကပ်လိုက်တယ်။

"နောက်နေ့ မနက်ကျ ဆုတောင်းပြည့်ဘုရားကို နင် အစောကြီး ထသွားမှာပေါ့ ဟုတ်လား"

သင်းကြိုင်က မိန်းမလျှာမျက်စောင်းကို အားပါးတရ ထိုးလိုက်တယ်။

"အားအားယားယား မာမီပဲသွား။ ကျုပ်က ဘယ်တုန်းကများ မနက်စောစောထတဲ့ ကောင်မို့လို့လား၊ ပြောပါဦး"

နှစ်ယောက်သား လက်ဝါးချင်းရိုက်ပြီး တဟားဟား ရယ်လိုက်ကြတယ်။

"ကဲ...ပြော၊ မာမီ ဘာစားဦးမလဲ။ ဘာလုပ်ပေးရမလဲ၊ ဖိုးချစ်ရေ... ငါ့ကို ပက်စီတစ်လုံး ယူခဲ့"

"ဩော်... ငါ့ရှေ့မှာ ဖိုးချစ်ရေ လုပ်ပြန်ပြီ၊ ပျော်နိုင်သူတွေ ပျော်ကြပါ။ ဒီမှာ ငါ ဘာမှလည်း မစားချင်ဘူး၊ မသောက်ချင်ဘူး သင်းကြိုင်။ နင် ငါ့ကို ဘာမှလည်း လုပ်မပေးနိုင်ဘူး။ ငါ တစ်ခု နစ်ခုမေးတာပဲ နင်ဖြေ"

"လင် မဟုတ်လား။ လင်ကိစ္စ မဟုတ်လား"

"အေး...ဟုတ်တယ်။ ဒီနေ့မနက် ဒီဘက်လာတာ နင် မြင်

သလား၊ မနေ့ညကကော ဘယ်မှာမြင်လဲ၊ ဘာသတင်းကြားလဲ။ သိရင်ပြောစမ်း ငါ့ကို"

သင်းကြိုင်က အိုက်တင်အပြည့်နဲ့ စီးကရက်ဖွာရင်း လက်ဝါးလေး တစ်ဖက်နဲ့ ဒေစီကျိန်း နလုံးသားနေရာကို ယပ်ခတ်ပေးတယ်။

"နလုံးသားတွေ ပူလောင်လှပါတယ် မာမီရယ်။ သူ့ဟာသူ ဘယ်ကိုသွားသွား၊ ဘာတွေပဲ လုပ်လုပ်ပေါ့၊ အချိန်တန် ပြန်လာမှာပေါ့၊ အလုပ်ပျက် အကိုင်ပျက် လိုက်နေရောလား"

"လိုက်မယ်... လိုက်ရမယ်။ အမှုတကာ့ အမှုထဲမှာ ဒီအမှုဟာ ဘာနဲ့မှတူတာ မဟုတ်ဘူးဟဲ့။ ညည်းတို့က မပွဖူးတော့ ကိုယ်ချင်း ဘယ်စာတတ်မလဲ"

"အို... အလိုတော်၊ ကျုပ်လည်း ပွဖူးပါတယ်။ မိန်းမလျှာမှန်ရင် ပွဖူးတဲ့သူ ရှည်းပဲ"

"အေး... ပွဖူးရင် မပြောနဲ့၊ သွားမယ်၊ ညည်း ဘာမှမသိဘူး မဟုတ်လား။ ငွေခင်ကို သွားရှာရဦးမယ်"

"နေပါဦး မာမီကလည်း... မာမို့ငွေခင်ကို ဖိုးချစ် သွားရှာနိုင်း လိုက်မယ်လေ၊ လိုက်မနေပါနဲ့"

"အို... တော်ပြီ။ ကြာတယ်၊ ငါဟာငါ သွားမယ်"

ဒေစီကျိန်းက ဘောက်ဆတ် ဘောက်ဆတ်နဲ့ စိတ်မြန် လက်မြန် ထွက်လာတယ်။ ငွေခင် လေလွင့်ရှက်ဝါမကို ဘယ်များ ရှာရပါ့မလဲ၊ လူတွေပြည့်ကျပ်နေတဲ့ လမ်းကြားလေးတွေထဲမှာ တိုးရင်း ဝှေ့ရင်း စိတ်က အလိုလို တိုလာတယ်။ မေင်းမောင်... နင့်ကို ခုချိန် တွေ့ လိုက်လို့ကတော့ ပါးအရင်လှမ်းရိုက်မယ်၊ ပြီးတော့မှ နင့်ခေါင်းကို ငါ့ခြေထောက်နဲ့ နင်းပြီး ငါ့ပစ္စည်းတွေ အကုန်ချွတ်ယူမယ်၊ ငါ့ကို နင် ဒုက္ခပေးနေတာ၊ မသေသေအောင် သတ်နေတာ။

"ဟဲ့... ဂျိန်းစဘွန်းမ၊ လင်ပျောက်ပြန်ပလား"

ပေဟာ... ဟို လေလွင်မရဲ့ မထီတရီ ပေါ့ပျက်ပျက်အသံ။ ကောင်မက သူများ ကနားတဲ့ပေါ်မှာ ပါတီတစ်ရပ်အကျိုတွေ ဘာတွေနဲ့ စီးကရက်ခဲလို့။

"ဟဲ့... ငွေခင် လာခဲ့စမ်း။ နင့်ကို ငါ လိုက်ရှာနေတာ။ နင့်ကို မေးစရာရှိလို့"

ငွေခင်က အေးစက်စက်မျက်နှာနဲ့ ပျင်းမှုပျင်းရော ထလာတယ်။ ဒေစီဂျိန်းက "ဖဖ" တစ်ခွန်း တုတ်လိုက်ပေမယ့် ငွေခင်က နည်းနည်းမှ ဣနြေ့မပျက်ဘူး။

"နင့်ဟာလေးအကြောင်း ငါ့မမေးနဲ့၊ လေကုန်တယ်။ နောက်ထပ် လိုချင်ရင်သာပြော။ ငါ ဝယ်ပေးမယ်။ ကောင်လေးတစ်ယောက် တွေ့ထားတယ်။ ဈေးမဆိုးဘူး။ ပိုက်ဆံထားခဲ့၊ ငါဝယ်ပေးမယ်"

"တော်ပါပြီ အမေရယ်။ အမေသာ သုံးဆောင်လိုက်ပါ။ မိုဝဲလိုက်ပါ။ ကဲ... ငါ့ကို ပြောစမ်း။ မင်းမင်းအကြောင်း နင် ဘာကြားလဲ။ ညကရော မတွေ့မိဘူးလား"

ငွေခင်က သူမှုပိုင်ဟန်အတိုင်း မထုံတက်သေးနဲ့ ငြိမ်နေတယ်။

"ဩော်... ငါ့ကို နင်လှုပ်နေပြီ။ နင်သိရင်ပြောပါ ငါ့ကို၊ မယ်မင်းကြီးမရယ်... တစ်ဆိတ်ကလေး ပြောပါ"

"ငါပြောတော့လည်း ဘာထူးမှာလဲ။ နင့်ဟာနင် မနိုင်တာ ကြာလှပြီပဲ၊ အချိန်တန်တော့ နွားမကြီးရဲ့ချည်တိုင် ပြန်လာမှာပေါ့"

"နင် ငါ့အကြောင်း သိရက်သားနဲ့နော် ငွေခင်၊ ပြောမှာသာ ပြောစမ်း။ အဲဒီကောင် ဘယ်တဲမလဲ ပြော။ (...) တွေပါတဲ့ ကနားတဲ မှန်သမျှ နင်သိတယ်"

"အေး... ငါသိတဲ့ ကနားတဲမှန်သမျှမှာ နင့်ဟာလေး မရှိဘူး၊

နင့်ဟာလေး ခြေပုန်းခုတ်နေတာက မိန်းမကောင်း၊ မိန်းမပျက် မဟုတ်ဘူး။ ဘယ်သူ့ရယ်လို့တော့ မမေးနဲ့၊ ငါ မသိဘူး။ မနေ့ညက ငါလည်း ခပ်လှမ်းလှမ်းက လှမ်းတွေ့လိုက်တာ၊ ဒါပဲ သိပြီလား"

အပိုင်အနိုင်ချိုးပြီး ပြောချလိုက်တဲ့ ငွေခင့်စကားတွေက ဒေစီဂျိန်းကို နှုတ်လှန်မထိုးနိုင်ဘဲ ငိုင်သွားစေတယ်၊ တောင်ပြုန်းပွဲရဲ့ လမ်းလယ်ကောင်မှာ နတ်ကတော်ကြီး ဒေစီဂျိန်းကို ဒိန်းဒလိန်းနတ်ကတကယ်ဝင်လို့ ပူးကပ်နေခဲ့ပြီ၊ ဆောက်တည်ရာမရ တုန်ယင်လှုပ်ရှားခဲ့ရပြီ၊

"ငွေခင်... ဘယ်သူ ဘယ်ဝါမှန်း နင် နည်းနည်းလေးမှ မသိဘူးလား၊ နင်သိတဲ့ထဲက မဟုတ်ဘူးလား"

"ခြော်... ဒုက္ခ၊ မသိပါဘူးဆို"

"နင့် နတ်သတ်"

"သတ်... သတ်"

"ဘယ်အရွယ်လောက်လဲ၊ အသက်ကြီးသလား၊ ငယ်ငယ်လေးလား"

"ငယ်ငယ်လေး၊ ဆယ့်ခွန်၊ ဆယ့်ရှစ်ထက် မပိုဘူး၊ ဘယ်အရွယ်ဆိုတာ နင် မေးနေစရာကို မလိုဘူး၊ အသက်ခြောက်ဆယ်ကြီးနားကပ်နေရတဲ့ကောင်က ဆယ့်ခြောက်၊ ဆယ့်ခွန်နဲ့ပဲ ဖောက်မှာပေါ့ဟဲ့"

ဒေစီဂျိန်းရဲ့အပူဒေါသအားလုံး ငွေခင့်အပေါ် စုပြုံကျသွားတယ်၊ အခွန်းပေါင်း မရေတွက်နိုင်အောင် ဒေစီဂျိန်း ဆဲသမျှကို ငွေခင်ကတော့ အေးစက်စက်မျက်နှာပေးနဲ့ ခံရင်း ဒေစီဂျိန်း နာသာခံစက်ဖြစ်စေမယ့် စကားလုံးတွေကိုပဲ ဂရုတစိုက် ရွေးချယ်ပြီး ပစ်လွှတ်နေတယ်။

"ငါ့မဆဲနဲ့၊ နင့်ကိုယ်နင်လည်း ပြန်နမ်းကြည့်ဦး။ ကရမက်စော်ကနံနေပြီ"

ဒေစီကျိန်းကတော့ တွင်တွင်သာဆဲရင်း ငွေခင့်နားက လှည့်ထွက်တယ်။

"ဟဲ့…နေဦးလေ။ ငါ့ကို သဘောင်းပေးခ ပိုက်ဆံပေးခဲ့ဦး"

"နင်တောင်းတိုင်း ကူးတို့ခကို ငါက ပေးရမှာလား၊ ပေးလိုက်ရမယ် နင့်ကို"

ငွေခင်က တဟားဟား ရယ်ကျန်ခဲ့တယ်။ ဆို့နစ်လောင်မြိုက်နေတဲ့ ဒေစီကျိန်း တစ်ယောက်ကတော့ ဘောက်ဆတ် ဘောက်ဆတ်နဲ့ ကနားတဲတန်းကြားတွေကို အလျှင်အမြန် ဖြတ်လို့နေတယ်။ ကနားတဲတွေက လှမ်းနှုတ်ဆက်ကြတာတွေကိုလည်း ပြန်ကြည့်မနေတော့ဘူး။

မင်းမောင်… မင်းမောင်၊ နင် ငါ့ကို ဘယ်နှကြိမ်မြောက်မှန်း မသိတော့ဘဲ ဝေဒနာကို ပေးပြန်ပြီပေါ့။ နင့်ကို ငါ အမျိုးမျိုး ပြောခဲ့တယ်။ အကြမ်းနည်းနဲ့ရော အနုနည်းနဲ့ရော နည်းပေါင်းစုံသုံးပြီး ပြောခဲ့ပါတယ်။ ငါ့အပေါ်မှာ သံယောဇဉ်လေး နည်းနည်းတော့ ရှိလိမ့်မယ်လို့ ငါ ထင်ခဲ့တာ၊ ခုတော့ ရင်ဝကို စုံကန်ပစ်ခဲ့ဖို့ နင် ကြံနေပြီပေါ့။

"ကျိန်း"

ရုတ်တရက် ဒေစီကျိန်းလက်ကို လူတစ်ယောက်က ဖမ်းဆွဲလိုက်တယ်၊ မျက်ရည်ကျချင်နေတဲ့ ဒေစီကျိန်းတစ်ယောက် လန့်သွားပြီးတော့မှ ဩော်… ဘယ်သူလဲလို့။

"နတ်မောင်"

ဒေစီကျိန်းနှာခေါင်းထဲကို အရက်နံ့က စူးစူးရှရှ ဝင်လာတယ်။ အင်္ကျီနွမ်းဖတ်ဖတ်၊ ပုဆိုးအကွက်မပေါ်၊ မျက်လုံးတွေက နီရဲပြီး မျက်နှာက ဖောင်းအစ်အစ်၊ ဆံပင်နီကြောင်ကြောင် ပွယောင်းယောင်းနဲ့ အရက်သမား မိန်းမလျှာမ နတ်မောင်ဘခင်။ သူ့ခေတ်အခါတုန်းက

ရုပ်ချောအပြောကောင်း။ မိန်းမတွေ ဝိုင်းဝိုင်းလည်ခဲ့တဲ့ ရုပါဝတား နတ်မောင်သခင်က ဒေစီဂျိန်းလက်ကို မလွှတ်တမ်းဆွဲထားရင်း မိတ်ကပ်ဝနေတဲ့ ဒေစီဂျိန်းလက်ချောင်းတွေပေါ်က လက်စွပ်များစွာကို ပွတ်သပ်လိုက်တယ်။

"ဂျိန်း... သူဌေးမကြီးရယ်၊ သိပ်လှတာပဲ။ နတ်မောင်ကို ဗိုက်ဆာပေးခဲ့ဦးနော်၊ နတ်မောင် ထမင်းမစားရသေးဘူး အချစ်ရယ်"

ခုကွပါပဲ။ အရေးထဲမှာမှ ဟိုတုန်းက နတ်မောင်သခင် အိုက်တင်နဲ့ ညှုနေပြီ။ ဒီအညှုတွေနဲ့ နတ်မောင်သခင်တို့ ကတော်မကြီးတွေ၊ သူဌေးမကြီးတွေကို ချူခဲ့ရှိုင်ခဲ့တာပေါ့။ မှန်တာပြောရရင် ကိုယ်တောင်ကြိုက်မိသေးတယ်။ ဟုတ်တယ်။ သူ နတ်လောကထဲ ဝင်ခါစက မိန်းမလျာ မဖြစ်သေးဘူး။ အရပ်မြင့်မြင့်၊ အသားဖြူဖြူ၊ ချောချော၊ ဘောင်းဘီရှည် အမြဲဝတ်တာ၊ ဘောင်းဘီအဖြူဆို အကျီအဖြူ၊ ဘောင်းဘီအညိုဆို အကျီက အညို၊ တော်တော်ကို ကြည့်လို့ကောင်းတာ၊ နတ်မောင်သခင်... နတ်မောင်သခင်နဲ့ မိန်းမတွေဆိုတာ သူကနားတဲ့ပေါ်မှာ အုံခဲနေတာ။ မိန်းမ၊ ဖဲ၊ အရက်၊ မူးယစ်ဆေး အကုန်စုံလုပ်တော့ သင်း ခုကွဖြစ်တာပေါ့။ နောက်ဆုံးတော့ သစ္စာရှုးတာပါပဲ။ သစ္စာမရှိ၊ စည်းမရှိနဲ့ ဖြစ်ချင်ရာတွေ အကုန်ဖြစ်တော့ ပြဿနာတွေဖြစ်၊ နာမည်တွေကျ၊ နောက်ဆုံး မိန်းမလျာဖြစ်၊ အရက်သမားကြီးလုံးလုံးဖြစ်ပြီး လမ်းဘေးရောက်သွားတာပဲ။

ဟိုကနားတဲ့ လိုက်လက်ဖြန့်၊ ဒီကနားတဲ့ လိုက်လက်ဖြန့်ရတာနဲ့ သောက်စားပြီး တွေ့ရာကြုံရာ ထိုးအိပ်၊ စိတ်လည်း မကောင်းပါဘူး။ သင်း ဒီလိုနဲ့ သေမှာပါပဲ။

"ကဲ... ရော့ ရော့၊ ငါ့မလည်း များများမပါဘူး။ သွားမယ်။ အိမ်မှာ အလုပ်တွေ ပစ်ထားခဲ့ရတာ"

ဆယ့်ငါးကျပ်တန်တစ်ရွက် သူ့အိတ်ထောင်စုတ်ထဲ ထိုးထည့်လိုက်ပေမယ့် နတ်မောင်သခင်က ဒေစီဂျိန်းလက်ကို မလွှတ်သေးဘူး။

"ဟင့်အင်း… နေဦး၊ နတ်မောင် နမ်းဦးမယ်"

"ဟဲ့… တော် တော်၊ မနမ်းပါနဲ့ ဖယ်ပါ။ ကျုပ် သွားပါရစေ နတ်မောင်သခင်ရယ်၊ ချမ်းသာပေးပါ"

သူ့ထုံးစံအတိုင်း ရစ်ပြီး ညှာနေတဲ့ နတ်မောင်သခင်ကို ဒေစီဂျိန်း အတင်းရုန်းပြီး ပြေးရတယ်။

နတ်မောင်လိုဘဝမျိုး ရောက်ရမှာများ ကြောက်လိုက်တာ၊ ဝဋ်တွေ၊ ဝဋ်တွေ။ မိန်းမလျာဘဝဟာ တော်တော် ဝဋ်ကြီးပါတယ်။ မင်းမောင်ရယ်… နင့်ဝဋ်တွေကို ဒီဘဝမှာပဲ ငါ အကုန်အကျေ ဆပ်ချင်ပါပြီ။ ဒီတစ်ဘဝတည်းနဲ့ပဲ ကျေပါတော့။

အိမ်ခြံဝင်းတံခါးကို ဒေစီဂျိန်းဖွင့်လိုက်တာနဲ့ "ဟော… လာပြီ… လာပြီ" တဲ့။ ဒေစီဂျိန်းရဲ့ နတ်ချစ်သူပရိသတ်တွေ။ ညှိသည်တွေ မနည်းပါလား။

"ကဲ… ဘယ်တုန်းက ရောက်နေတာတုံး ပြောကြ၊ လာကြ"

ပရိယာယေသန ဝမ်းစာရေးအတွက် အပူရှပ်ကို ဟန်လုပ်ရဦးမယ်၊ ဒိုချင်လျက်နဲ့လည်း ရယ်ရဦးမယ်။

"ဟိုသူဌေးမ နတ်ခမ်းကြီး ရှုမနေနဲ့၊ ကိုယ်တော်တို့အတွက် ပါရဲ့လား ပုဆိုးအုပ်။ မနစ်က သေချာပြောလိုက်တာနော်"

ကြော်ရင်း လှော်ရင်း အိမ်ပေါ်လှေကားအတက် မီးဖိုအဝက အဖုံကြီးပေါ်လာတယ်။ ဖွန်းတစ်ချောင်းကိုင်ထားတဲ့ အဖုံကြီးက အိမ်ပေါ်ကို လှမ်းတက်ပြီး မျက်ပေစ် မေးငေါ့ပြတော့ ဂျိန်းစဘွန်းကြီး ရင်ထဲ ထိတ်ခနဲ ဖြစ်တယ်။ သင်း အိမ်ပေါ်မှာပေါ့။ ပြန်ရောက်ပြီပေါ့။ ပြန်လာတယ်ပေါ့။

"ဟုတ်ကဲ့... ဟုတ်ကဲ့ခင်ဗျ။ ပြောပြပါ့။ သူ လုပ်ပေးပါလိမ့်မယ်။ လာပါပြီ ခင်ဗျ"

ဂျိန်းဇွန်းမကြီးရဲ့ရင်ကို တစ်သက်လုံး ကိုင်လှုပ်ခဲ့တဲ့ အသံချိုချိုကို ကြားလိုက်ရတယ်။ အိမ်ပေါ်က နတ်ပရိသတ်ကို လိမ်လိမ်မာမာ ကျွမ်းကျွမ်းကျင်ကျင် ထိန်းထားတဲ့အသံ။

အိမ်ရှေ့ခန်းကို ဒေစီဂျိန်း ဝင်လိုက်တယ်။

"ဟောဒီမှာ ဒေစီဂျိန်းက စောင့်နေကြတာ၊ ကြာလှပြီ"

သူက ဘာမှမဖြစ်သလို ဝတ်စားထားတာကလည်း ကြော့လို့၊ မော့လို့၊ နလို့၊ ဖတ်လို့ ရွှေကိုယ်တော်ကလေး။

"ကဲ... ပြောကြ၊ ဘာတွေတုံး ပြောကြ။ မြန်မြန်ပြောကြ။ သားပုကိစ္စ သွားရ၊ လာရတာ ကျုပ် အမောဆို့လာတယ်"

ဒေစီဂျိန်းအကြောင်းသိ နတ်ပရိသတ်ကတော့ ဝါးခနဲ ရယ်လိုက်ကြတယ်။ ကိုမင်းမောင်တို့ကတော့ ဘာမှမသိသလို မျက်နှာလေး ပြုံးပြုံးနဲ့ ဒေစီဂျိန်းကို ပိုက်တပ်ပြီးသား ဖျော်ရည်ဘူးလေးကို လာပေးတယ်။

"ဒါတွေကြောင့် ကျုပ် ဒုက္ခတွေ ဖြစ်နေရတာပေါ့"

ဒေစီဂျိန်းပရိသတ်က ရယ်ကြပြန်တယ်။ ရွှေကိုယ်တော်က ဒေစီဂျိန်းကို မျက်လုံးနဲ့ လှမ်းသတိပေးတယ်။ ပေါက်ကရတွေ လျှောက်ပြောမနေနဲ့။ ကိုယ့်အလုပ် ကိုယ်လုပ်တော့ ဆိုတဲ့သဘောလေး။ လုပ်ပါ့မယ်၊ လုပ်ပါ့မယ်၊ ငါ လုပ်ပါ့မယ်။ နင် ဝတ်နိုင်၊ စားနိုင်၊ မိန်းမတွေနဲ့ ပျော်နိုင်ပါးနိုင်ဖို့ ငရဲအိုးနှုတ်ခမ်းကို ငါ ပတ်ပြေးပါတော့မယ်။

"ကဲ...ပြော၊ ဘာနေ့သားနဲ့ ဘာနေ့သမီးတုံး"

"အင်္ဂါသားနဲ့ ကြာသပတေးသမီး"

"ဟဲ့… စိန်ပန်းမိတ်ဖက်၊ စီးပွားဖက်တဲ့။ ဥဿာစိန်ပန်း၊ ဒန်းလှကို ရှာဆိုတာ ကြားဖူးတယ် မဟုတ်လား။ ဥစ္စာစီးပွား၊ ဒီရေအလား တက်ဦးမှာ။ မှန်လှပါ… ဘိုးဘိုးကြီး၊ ဘိုးဘိုးလေးတို့ကို ကျေးတော်မျိုး ကျွန်တော်မျိုး အင်္ဂါသားနဲ့ ကြာသပတေးသမီးက ပန်းဖိုး၊ မှန်ဖိုး၊ နို့သာဖိုး၊ ဝတ်လဲတော်ဖိုးများ အချက်ကျ ဆက်သပါတယ် ဘုရား။ မြေတော်ရင်း ဆံခင်းပါတယ်၊ မြေတော်ရုံ ဆံပုံပါတယ်ဘုရား။ ဝအောင်လည်း ကျွေးလိုက်ပါ၊ လှအောင်လည်း ဆင်လိုက်ပါ၊ ရအောင်လည်း ပေးလိုက်ပါ၊ ယနေ့ ယခုကစလို့ ကျန်းမာရေး၊ စီးပွားရေး၊ လူမှုရေး၊ မိသားတစ်စု အားလုံး အားလုံး အဆင်ပြေအဆင်ချောလို့ အမောပြေအောင် မ တော်မူပါ ဘုရား"

"အရောင်းအဝယ်တစ်ခု ဆိုင်ထားတယ်။ တစ်ပတ်အတွင်း ဖြစ်မလား။ လုပ်ပါဦး"

"အေး… အရောင်းအဝယ် စကားပြောရင် စိန်းပန်းခက်နဲ့ အောင်သပြေဆောင်ပြီး စကားပြော၊ ဖြစ်စေရမယ်၊ ဖြစ်ရင် နောက်နှစ်တက်ပွဲတစ်ပွဲ ပေးရမယ် ကြားလား"

"ပေးပါ့မယ်၊ စိတ်ချပါ"

"အေး… မင်းမှာသစ္စာ လူမှာကတိနော်။ ဟုတ်ကဲ့လား။ ပြော… ညည်းကတော့ ဘာနေ့သားနဲ့ ဘာနေ့သမီးတုံး"

"နှစ်ယောက်စလုံး တနင်္ဂနွေပဲ။ သားတွေက စနေရယ်၊ သောကြာရယ်၊ တနင်္လာရယ်၊ စီးပွားရေးကောင်းအောင်၊ ကျွန်မလည်း ရာထူးတက်အောင်၊ သားတွေ စာမေးပွဲအောင်အောင်၊ ကားလေး ဘာလေးလည်း စီးနိုင်အောင် ဆုတောင်းပေးပါ"

"အေး…အေး၊ တော်တော်တရားကျဖို့ ကောင်းတယ်။ လိုချင်တာတွေကတော့ အများကြီး။ နတ်ကို ဆက်တော့ လေးဆယ့်ငါးကျပ်တန်

တစ်ရွက် ဟုတ်လား"

"ကိုးနဝင်းကျော်အောင်လို့ပါ ဒေဇီရိန်းရဲ့"

"ဩော်... ဒါလောက် ကိုးနဝင်းကျေရျင်ရင် ကိုးဆယ်တန် ကိုးရွက်ဆက်ပေါ့။ ရော့... ညည်းလေးဆယ့်ငါးကျပ်တန်၊ ထုတ်... ကိုးဆယ်တန် ငါးရွက်"

"ပေးပါ့မယ်၊ စိတ်ချ"

ပြောလိုက်ဆိုလိုက်၊ကြော်လိုက်လှော်လိုက်နှင့် ရွှေပြန်ပြေလာတဲ့ ဒေဇီရိန်းဘေးနားကို ယပ်တောင်လေကလေး ဝင်လာတယ်။ ဘယ်သူ ရှိမှာလဲ၊ အညာအရွဲကောင်းတဲ့ မောင်မောင်ပေါ့။ စုလိုသာ ဘေးနားမှာ တစ်ဖဝါးမခွာ၊ ကြည်ကြည်နူးနူး နေစမ်းပါ။ မမောနိုင်၊ မပန်းနိုင် လုပ်ကိုင်ကျွေးပါ့မယ်တော်။

"ကဲ... နောက်နှစ်ကို အောင်မြင်ရင် မမေ့နဲ့နော်၊ မင်းမှာ သစ္စာ လှူမှာကတိ။ ကဲ... သွားလမ်း လာလမ်းများ ချောပါစေ၊ အောင်ပါ စေ၊ အေးပါစေ"

အိမ်ပေါ် ညှော်သည်တစ်သုတ် ရှင်းသွားတယ်။ ဒေဇီရိန်းက ကြိမ်ခေါင်းအုံးလေးပေါ် စိတ်မော လူမော လှဲချပစ်လိုက်တယ်။ ကိုမင်းမောင်တို့ကတော့ ကန်တော့ပွဲထဲက ပိုက်ဆံတွေကို တဖျတ်ဖျတ် ရေတွက်သိမ်းဆည်းပြီ။

"ခင်ဗျားက ဘယ်ပျောက်သွားနေတာလဲ။ ဒီမှာ ညှော်သည်တွေ က စောင့်လို့"

အလို... သူ့မိုးက လူလူဟာစ်။ သူက မျက်နှာထားနဲ့။ ညှော်သည် တွေ ရှေ့တုန်းကကျ တစ်မျိုး၊ ကွယ်ရာကျ တစ်မျိုး၊ ဒေဇီရိန်းက ဒေါသနဲ့ လှူးလဲထတယ်။ လာမစနဲ့နော်။ ဒီနေ့ဟာ ယုန်တိုးနေ့။

"ဟဲ့... နင် အလေလိုက်တာကို ငါ လိုက်ဖမ်းတာ။ ငါက

ဘယ်ကိုမှ လျှောက်သွားစရာ အကြောင်းမရှိဘူး။ နင်သာ မနေ့ညက ရော၊ ဒီနေ့မနက်ရော ဘယ်ကောင်မနဲ့ သွားပြီးတော့"

"အို... တော်စမ်းပါ။ ပေါက်ရတွေး ကျုပ်ဘာကျုပ် ကိစ္စရှိလို့ သွားတာ။ ခင်ပျား ဘယ်သူက ပြောလဲ၊ ပြော"

"မြင်တာပဲ... မြင်တာ။ နင့်ကို မျက်လုံးနဲ့ တပ်အပ်မြင်လိုက်တဲ့သူက ပြောတာ။ ငွေခင်က နင်တို့ကို သေချာမြင်လိုက်တာ"

"ဟာ... အဲဒီကတည်းက သွားပြီပေါ့။ ခင်ပျား သွားပြီပေါ့၊ ငွေခင်စကား ခင်ပျား ယုံတယ်ပေါ့။ ငွေခင့်စကားဆို သုံးခွက်တစ်ခွက် တင်ကျိုဟဲ့ဆိုတာ ခင်ပျားပဲ ပြောပြောနေတာလေ"

ဒေစီဂျိန်းမျော ငြိမ်သွားရှာတယ်။ ဟုတ်တော့လည်း ဟုတ်သားပဲ။ ငွေခင့်စကားဟာ သုံးခွက်တစ်ခွက်တင်ပဲ။ ကောင်မက ငါ စိတ်ဆင်းရဲအောင် လုပ်ချင်လုပ်လိုက်မှာ။ စိတ်က မွှန်နေတော့ ကိုယ်ကလည်း အကျိုးသင့်အကြောင်းသင့် မစဉ်းစားနိုင်တော့ဘူး။ အင်း... ထူးတော့ မထူးပါဘူး။ ငွေခင်နဲ့ မင်းမောင်နဲ့ကလည်း သိပ်မထူးပါဘူး။ သူလည်း ငါ့ကို ညာခဲ့ပေါင်းတွေ များပြီပဲ။

ညတက်ပွဲအတွက် ဖားတော်စာတွေကို စနစ်တကျ ပြင်ဆင်နေတဲ့ မင်းမင်းကို ကြည့်ရင်း ဒေစီဂျိန်းမျက်နှာ ကြည်လင်လို့တော့ လာတယ်။

အိမ်ပေါ်ကို စည်သည်တစ်သုတ် တက်လာပြန်တယ်။ ယုန်ထိုးတဲ့ဆီက ကြည့်လာခဲ့ပြီး အဆဲအဆိုတွေကို တအံ့တသြ ပြောဆိုရယ်မောလာကြတယ်။

"အဆဲ တော်တော်ခံခဲ့ရတယ်ပေါ့ ဟုတ်လား။ မကောင်းဘူးလား အဆဲခံရတာ"

ဒေစီဂျိန်း နှုတ်ဆက်စကားကို အုပ်စုထဲက အပျိုမလေးတွေက ရက်အော် အော်လိုက်ကြတယ်။

"ဟဲ့... ဒါ ရက်စရာမှ မဟုတ်ဘဲ၊ ဒီနေ့ဒီရက်ဆိုတာ ဘယ်လောက်ဆဲဆဲ၊ ဘယ်လောက်ဆိုဆို ကိုယ်တော်နှစ်ပါးက ခွင့်လွှတ်တယ်။ များများဆဲခံရလေ များများလာဘ်ရွှင်လေပဲ"

မျက်မှန်တဝင်းဝင်း၊ စိန်နားကပ်တဝင်းဝင်းနဲ့ မိန်းမကြီးတွေက ဦးဆောင်ပြီး အုပ်စုတစ်စုလုံး၊ ဒေစီကျိန်း၊ ဖောင်းနဲ့ နတ်စင်ကို ရိုရိုသေသေ ရှိုးကန်တော့ကြတယ်၊

"ဒေစီကျိန်းရေ... အရှင်နှစ်ပါးကို ပင့်ပါဦး"

မိန်းမဝဝကြီး ဆက်တဲ့ ကိုးဆယ်တန်ငါးရွက်ကို ဒေစီကျိန်းက နဖူးမှာကပ် တွတ်တွတ် တွတ်တွတ် ဆုတောင်းပြီး ကန်တော့ပွဲထဲ ညှပ်လိုက်တယ်။ ပြီးတော့ လက်အုပ်ချီပြီး တတွတ်တွတ် ရွတ်ဖတ်ပင့်ဖိတ်ရင်း လက်အုပ်ချီ လက်အစုံက နဖူးကို တဆတ်ဆတ်ရိုက်ခတ်တုန်ယင်လို့ လာတော့တယ်၊

"ဟဲ့... မောင်းမတွေ၊ ကိုယ်တော့်နားကို စားဟဲ့။ အမြေကြီးတဲ့ စနေသမီးကြီး၊ ကိုယ်တော့်ထံ မပျက်မကွက် အစေား ရောက်တယ် ပေါ့"

"မှန်ပါ... ရောက်ကြောင်းပါ ဘုရား"

ဒေစီကျိန်းခန္ဓာကိုယ်က ထိုင်လျက် အလိုက်သင့် ယိမ်းယိုင်နေသလို မျက်လုံးတွေကလည်း ရီဝေဝေဖြစ်လို့နေတယ်။

"ဟော့... ညီဖွား၊ အဖွားတော်ဆက်ဟော့"

မင်းမင်းက စီးကရက်နှစ်လိပ်မှူး၊ အဖွားတော်ဆက်တယ်၊ အရက်ရည်တစ်ဘူးကိုလည်း အဆင်သင့်ဖွင့်ပြီး ဆက်တယ်။

"ဟောဒါက လိပ်ပြာရှင်ရဲ့ အသည်းစွဲ ညီဖွားလေး"

လုပ်ပြီ။ ဒေစီကျိန်း ထုံးစံအတိုင်း ညွှဲသည်တွေထဲက ကောင်မလေးတွေရယ်တော့ မင်းမင်းက ရှက်ရပြီ။ ရှက်လို့ ဝေးဝေးသွားထိုင်လို့

လည်း မရ။

သူနားကို ခေါ်ပြန်ဦးမယ်၊ တော်သေးတယ်၊ အချိုရည်သောက်တဲ့ နတ်ဝင်လို့၊ အရက်သောက်တဲ့နတ်ဆို မင်းမင်း ဗိုစိတ်ညစ်ရဦးမယ်။

"ဟော့… ကိုယ်တော် မ နေတာ သိတယ်မဟုတ်လား ဟော့"

"မှန်ပါဘုရား။ ဒီထက်ဗိုပြီး မပါဦး ဘုရား။ ကိုယ်တော့်တို့ဆီကို ကားအသစ်နဲ့ လာချင်တာ ဘုရား။ ဒီနှစ် အရောင်းအဝယ်အေးလို့ ကားအသစ်မလဲနိုင်ဘူး ဘုရား"

"ဟော့… ဒီကာအပြန် လဲရရင် မကျေနပ်ဘူးလား"

"ကျေနပ်ပါတယ် ဘုရား"

"အေး… လဲရမယ်၊ ဟုတ်ကဲ့လား။ လဲရရင်သာ ကိုယ်တော့်ကို မမေ့နဲ့။ ဝတ်လဲတော် ပုဆိုးနှစ်အုပ်၊ ခေါင်းတော် ခြောက်ပိုင်ဆက်ရမယ် ကြားလား"

"မှန်ပါဘုရား"

"ဟော့… ညီဖွား၊ ကိုယ်တော်ကို ယပ်တော်သွင်း"

"ညီဖွားမှလား ကိုယ်တော်ရဲ့၊ နမကြီး ယပ်တော်သွင်းပါ့မယ်"

မိန်းမကြီးတစ်ယောက်က မင်းမင်းလက်ထဲက ယပ်တောင်ကို နောက်ပြီး ယူမယ်လုပ်တာနဲ့ ကိုယ်တော်ကြီးက ကြမ်းပြင်ကို လက်ဝါးနဲ့ ဖြန်းခနဲ ချလိုက်တယ်။

"မလိုချင်ဘူး ညီဖွားပဲဟော့"

ဧည့်သည်တွေက တဝါးဝါးရယ်ကြတယ်။ မင်းမင်းက ယပ်ခပ်ပေးရင်း အလိုက်သင့် ပြုံးနေဆဲ၊ ကိုယ်တော်ကြီး လိပ်ပြာမှုးကာပ်နေတဲ့ လိပ်ပြာရှင်ဒေစီဂျိန်းက ချစ်စနိုး မျက်စောင်းကို ထိုးလို့ အချိုရည်ဘူးကို မော့သောက်လို့ နေဆဲ။

*သက်ဆိုင်သူသို့ ပို့မေတ္တာ… ဝေးလွှာဝေ… ဘေးဘယာတွေ*

*ဝေးကွာစေ... ဧလျော့... ငွေခရမှမသွေ ယခုပြုတယ်လေ... မေ့မေ့လျှာ... မေ့မေ့လျှာ... သောက်ကာသုံး ပြုံးရွှင်စေ"*

ခြံဝင်းအပြင်ဘက်ကနေ ဝင်ရောက်လို့လာတဲ့ သနားစရာ အသံချို နွဲ့နွဲ့ကလေးက ယပ်သွင်းနေတဲ့ ညီဖွားကို တုန်သွားစေတယ်။ ကိုယ်တော်ကြီး ဒေစီကျိန်းကတော့ အချိုရည်ဘူးကို မာန်ပါပါမြှောက်လို့ နတ်ဆက်ပေးဖို့ ပြင်တယ်။

*"သက်ဆိုင်သူရေ... မေ့အသံအား မှတ်မိပါရဲ့လားလေ"*

ကိုယ်တော်ကြီးရဲ့ညီဖွားက ယပ်တောင်ကို ဖျတ်ခနဲ ပစ်ချလိုက်တယ်။ သူ... သူ ဒီတိုင်းပဲ မျက်စိမှိတ်ပြီး ဆက်ပေးနေပါစေ ပေးနေပါစေ။

*"ရက်တွေ... လတွေပြောင်း ပေါင်းသော် မမေ့... ချစ်ငွေ့ တဝေဝေ သက်ဆိုင်သူ မောင့်ကိုပဲလေ"*

ကိုယ်တော်ကြီး ဒေစီကျိန်း မျက်စိမှိတ် အာရုံယူ ပေးနေရာက မျက်လုံးတွေကို ပြန်ဖွင့်လိုက်တဲ့အချိန်မှာ ကိုယ်တော်ကြီးရဲ့ညီဖွား အနားမှာ မရှိတော့ပြီ။ ဘယ်သွားတာပါလိမ့်။ အရေးကြီးတဲ့ ဧည့်သည် များ လာလို့လား။

"ကိုယ်တော် ဒီအင်္ဂါသမီးလေးက ရှေ့လထဲ နိုင်ငံရပ်ခြားမှာ အလုပ်ဝင်ဖို့ရှိတယ်။ သေချာပွဲမလား။ နိုင်ငံရပ်ခြားသွား ကိန်းရှိလား"

"အေး... အင်္ဂါသမီး ဟုတ်လား"

ကိုယ်တော်ကြီးက နတ်ပေးဖို့ အားယူရင်း ထိုင်ရာက ရုတ်တရက် ထလိုက်တယ်။

*"အမြဲမျှော်ကာသာ... အမြဲမျှော်ကာ စောင့်ကြိုပါတယ်လေ..."*

သီချင်းဆုံးသံနဲ့ ထွက်လာတဲ့ လက်ခုပ်သံတွေကို ကိုယ်တော်ကြီး ဒေစီကျိန်း ခုမှ ကြားတယ်။

"ဟဲ့… ဘာနေ့သမီး၊ အဲ… အင်္ဂါသမီး နိုင်ငံရပ်ခြား သွားချင်တယ်ပေါ့"

စီးကရက်ကို ဟန်နဲ့ပန်နဲ့ ဖွာရှိုက်လိုက်ရင်း ကိုယ်တော်ကြီး ဒေစီဂျိန်း မျက်လုံးထဲ အရင်တန်းဝင်လာတာက အဆိုတော် ကောင်မလေးရဲ့ ခေါင်းပေါ်မှာ ခြုံလွှမ်းထားတဲ့ စကပ်ပဝါနီရဲရဲ၊ ပြီးတော့ အနားကနေ ပြုံးကြည့်နေတဲ့ ကိုယ်တော်ကြီးရဲ့ညီဖွား၊ ဒေစီဂျိန်းရဲ့ မင်းမောင်။

ကိုယ်တော်ကြီး ဒေစီဂျိန်းရဲ့ ခန္ဓာကိုယ်က ခုမှပိုပြီး တဆတ်ဆတ်တုန်ယင်လာခဲ့တယ်။ သိပြီ ငါသိပြီ။ မင်းမောင် အားလုံး ငါသိပြီ။ ငွေခင်ဟာ ငါ့ငယ်ပေါင်း၊ အရေးအကြောင်း ဆို ငါ့အကျိုးကိုပဲ လိုးလာတာ။ ငွေခင် ငါ့ကို မညာဘူး။ ညာတာက နင်။ ထွီ… နင်ဟာ မိန်းမစစ်ဆိုရင် ဘာကိုမှ မရှောင်ပါလား။ သူဌေးမ ဒေစီဂျိန်းသားက အဆင့်မရှိတဲ့ မိန်းမနဲ့မှ ဖြစ်ရတယ်လို့၊ နင် တော်တော်ကြိုက်တယ်ပေါ့လေ။ ငါ ငယ်ငယ်တုန်းက စည်းတဲ့ စကပ်ပဝါကိုတောင် နိုးပြီး ပိုးကြေးပန်းကြေးပေးရတဲ့ထိ ကြိုက်တယ်ပေါ့လေ၊ ထွီ… ငါ့ပဝါ သနလိုက်တာ။

ဣန္ဒြေမပျက် ယိမ်းယိုင်နေတဲ့ ကိုယ်တော်ကြီး ဒေစီဂျိန်းရဲ့ စိတ်တစ်ပိုင်းက ထိန်းချုပ်ထားပေမယ့် မနာလို ဝန်တိုခြင်းနဲ့ လောင်မြိုက်နေတဲ့ ဒေစီဂျိန်းရဲ့ ပင်ကိုမူလ စိတ်တစ်ပိုင်းကတော့ အိမ်ပေါ်ကနေ ခုန်ဆင်းပြေးပြီး ကောင်မလေးရဲ့ခေါင်းပေါ်က ပဝါကို ဆွဲယူ အပိုင်းပိုင်း ဆုတ်ဖြဲပစ်ဖို့ တောင်းဆိုနေတယ်။

"ကိုယ်တော် အင်္ဂါသမီးက နိုင်ငံရပ်ခြားသွားရမှာလားတဲ့"

ပြတင်းပေါက်ဝကနေ ကိုယ်တော်ကြီး ဒေစီဂျိန်းတစ်ယောက် အသာအယာ ယိမ်းယိုင် ပြန်လှည့်လိုက်တယ်။

*"နှစ်ကိုယ်တူ... လက်ချင်းဆက်လို့အသက်ချင်းဆက်ကာရယ်..."*

ကိုယ်တော်ကြီး ပစ်ပေါက်လိုက်တဲ့ အရျိုရည်ဘူးက အိမ်နံရံကို မြန်းခနဲ သွားမှန်တယ်။

ပြီးတော့ ကြမ်းပြင်ပေါ်မှာ ကိုယ်တော်ကြီး ခေစီဂျိန်းက ပစ်လှဲ လူးလိမ့်ရင်း အော်တယ်။

"မကြားချင်ဘူးမကြားချင်ဘူး။ သီချင်းဆိုတဲ့ မိန်းမကို ငါ့ခြံဝင်းထဲက မြန်မြန်ဆွဲထုတ်ပစ်လိုက်ကြ"



## ထိန်ရုတ်
## ဝါခေါင်လဆန်း ၁၄ ရက်

ဆယ့်လေးရက်လရဲ့ပြည့်ဝန်းစလရောင်ဟာ တောင်ပြုန်းရှာပြင် ဇရပ်ပျက်ကြီးပေါ်ကို ဖြာကျလင်းလက်စေပေမယ့် သစ်ပင်အောက်က မှောင်ရိပ်သူ နှစ်ဦးဆီကိုတော့ ရောက်အောင် မသွားနိုင်ခဲ့ပါဘူး။

ပန်းညိုလက်ကလေးကို မင်းမင်းက ဆုပ်ထားတယ်။ ပြောက်ကျို ပြောက်ကျား လရောင်အလက်မှာ ပန်းညိုလည်ပင်းက ပိုးပဝါလေးက တစ်ချက်တစ်ချက် ရဲခနဲ လက်လို့သွားတယ်။ သူ သိပ်ကြိုက်ရှာတာပဲ။ သူ ဒါမျိုး တစ်ခါမှ မရခဲ့ဖူးဘူးတဲ့။

"ဒီထိန်သားလေးကို ဆောင်ထားရင် ပန်းညိုတို့ ပိုက်ဆံတွေ အများကြီး ရမှာပေါ့နော်"

"ဒါပေါ့... စီးပွားဖြစ်တယ်ပေါ့၊ စီးပွားရေး ကောင်းတယ်ပေါ့"

"ဟင်… ပန်းညိုတို့မှာ စီးပွားရေးမှ မရှိဘဲ"

မင်းမင်း ရယ်လိုက်တယ်၊

"ပန်းညိုတို့သီချင်းဆိုတာ စီးပွားရေးပဲပေါ့ ပန်းညိုရဲ့"

ပန်းညိုက သွားလက်ကလေးထဲ ဆုပ်ထားတဲ့ ထိန်သားလက်တစ်ဆစ်လေးကို လရောင်အရိပ်မှာ ထောင်ကြည့်ပြန်တယ်၊

"မနှစ်က ထိန်ခုတ်တာကို ပန်းညိုတို့ မြင်ဖူးတယ်၊ အဝေးကြီးက ကြည့်ရတာပါ၊ လူတွေက တအားဝင်လုကြတာပဲနော်။ ဓားတွေနဲ့ ယမ်းနေတာကို ဝင်လုကြတာပဲ၊ အခု အစ်ကိုလည်း လူတွေထဲ ဝင်လုလာတာလားဟင်"

"အစ်ကိုတို့က လုစရာမလိုဘူး၊ နတ်အုပ်မင်း ခုတ်ယူလာပြီး အရှင်နှစ်ပါးကို ဆက်တဲ့ ထိန်ကိုင်းကနေ ခွန့်လိုက်တာ၊ ဒီထိန်သားကို လူတွေက ပိုတောင် လိုချင်သေးတယ်၊ ဝိုပြီး စီးပွားဖြစ်တယ်တဲ့"

"ဘာဖြစ်လို့ ထိန်ခုတ်ရတာလဲဟင်"

"ဩော်… အခု အရှင်နှစ်ပါးရဲ့ ဘိုးတော်က အနော်ရထာမင်းတဲ့၊ အနော်ရထာမင်းက ထိန်ပင်စောင့်နတ်ရှိတဲ့ ထိန်ပင်တစ်ပင်ကို ခုတ်ပစ်မိတယ်၊ ဒါကို ထိန်ပင်စောင့်နတ်က မကျေနပ်ဘဲ ကျွဲယောင်ဆောင်ပြီး အနော်ရထာမင်းကို ဝတ်တော့ အနော်ရထာမင်း နတ်ရွာစံရောတဲ့၊ ဒါကြောင့် ဘိုးတော်နဲ့မြေးတော်တွေက ထိန်ပင်ကို မြင်ရင် စိတ်နာတယ်။ ထိန်ပင်ကို မုန်းတယ်၊ ဒါကြောင့် ပွဲတော်မှာ ထိန်ခုတ်တဲ့နေ့ဆိုတာ သတ်မှတ်ပြီး အဲဒီနေ့ကျရင် နန်းတော်ပတ်လည်မှာ ထိန်ပင်ဆိုပြီး ထိန်ကိုင်းကြီးတွေ စိုက်ပေးရတယ်၊ အဲဒါကို နတ်အုပ်မင်းက နတ်ဝင်ပြီး အကုန် အပိုင်းပိုင်းအတစ်တစ် ခုတ်ရတယ်။ ခုတ်ပြီးသား ထိန်ကိုင်းကို နတ်အုပ်မင်းက အရှင်နှစ်ပါးကို ဆက်သရတယ်။ နတ်အုပ်မင်း ထိန်ခုတ်နေတဲ့အချိန်မှာ ဝင်လုကြလို့ ဓားနဲ့ယမ်း

မိရင် အပြစ်မရှိဘူး။ လူတွေကတော့ မကြောက်ကြဘူး။ စီးပွားရေး ကောင်းတယ် ဆိုပြီး အတင်းဝင်လုကြတာပဲ"

"ဟုတ်တယ်နော် ကြောက်စရာကြီး"

ပန်းညိုက လည်ပင်းက ပဝါလေးကို ဆွဲဖြုတ်ပြီး ပဝါစွန်းမှာ ထိန်သားလေးကို ဂရုတစိုက် ချည်တယ်။ ပြီးတော့ ပဝါလေးကို လည်ပင်းမှာ သေချာပြန်ချည်ပြန်တယ်။ သူ့မှာ ကစားစရာလေး တစ်ခုရသလို သိပ်သဘောကျနေတော့တာပဲ။ ဟိုအရှုပ်မကြီး ပြောတာ သာကြားရင် သူ ဘယ်လိုနေမလဲ။ သူ့ပဝါနဲ့ ပန်းညိုနဲ့ မတူဘူးတဲ့။ မတန်ဘူးတဲ့။ သူ့ရဲ့ခေတ်မရှိတော့တဲ့ ဟိုးရှေးပဝေသဏီက ပဝါဟာ ပန်းညိုအသားနဲ့ထိလို့ သနသွားပြီတဲ့။ ပြောလိုက်ဆိုလိုက်တာ။ ယုန် ထိုးညကတော့ တောင်းဆောင်းကြီး ဦးဘစိရဲ့ အဆိုအဆဲမျိုးစုံနဲ့ ပီပြင် လိုက်သလား မမေးနဲ့။ မင်းမင်းမှာ ယုတ္တိယုတ္တာတွေ၊ အညှာအချဲ့တွေ၊ အပဒ်နီးအပေဟာက်တွေနဲ့ နည်းမျိုးကို စုံရော။ အရှုပ်မကြီးကို ငြိမ်အောင် လုပ်ရတာ။ ယုံအောင် လုပ်ရတာ။

ဘာဖြစ်သလဲပေါ့။ ကောင်မလေးဟာ သနားစရာလေးမို့ သီချင်း ဆိုကောင်းလို့ ပိုက်ဆံပေးတာ၊ ထမင်းဟင်းပေးတာ၊ ဒေစီဂျိန်းဆိုတဲ့ သူဌေးမကြီး သေတ္တာအောက် ထိုးထားတဲ့ အပေဟာင်းအမြင်း ပဝါလေး တစ်ထည်ပေးတာ ဘာဖြစ်သလဲပေါ့။ ကောင်မလေးကို ကြိုက်ဖို့ လည်း မဟုတ်ဘူး။ ချစ်ဖို့လည်း မဟုတ်ဘူး။ မယုံရင်နေပေါ့။

တကယ်တော့ မင်းမင်း ဖြီးလုံးတွေကို အရှုပ်မကြီး သိပ်တော့ ယုံဟန်မတူဘူး။ မင်းမင်း သိတယ်။ ဒါပေမယ့် အဲဒီည တစ်ညလုံး ဘယ်မှမထွက်ဘဲ နေလိုက်ပြီး ဒီနေ့ တစ်နေ့လုံးလည်း အိမ်မှာ ကုပ်နေ လိုက်တော့ သူ ကြည်သွားပြီ။ ကြည်သွားပြီ ဆိုပေမယ့် မင်းမင်းကို လုံးဝ အလစ်မပေးသေးဘူး။ ဒါပေမယ့် ညဘက် အောက်နန်းတက်ပွဲ

တစ်ပွဲ ပြီးတာနဲ့ ဧည့်သည်တွေ ရှုပ်နေတုန်းမှာ ဘာဖြစ်လို့ ဒီဘက်ကို ထွက်လာခဲ့မိတာလဲ။ အရှုပ်မကြီး အောက်နန်းတက်ပွဲက ကိုကြီးကျော် အရိုန်နဲ့ မူးတော့နေပါတယ်။ မူးရင် သူ အိပ်တတ်တယ်။ သူ အိပ်ပျော်သွားပါစေ။

"ဒီနေ့ နေ့ခင်း အစ်ကိုတို့ဘက်တောင် မရောက်တော့ဘူး။ ကနားတဲတစ်ရက လူတွေက သီချင်းတွေ အများကြီး ဆိုဗိုင်းနေလို့၊ ဗိုက်ဆံတွေလည်း အများကြီးပေးတယ်။ ထမင်းဟင်းတွေလည်း ပေးတယ်"

"ဗိုက်ဆံတွေ အများကြီးရတော့ အစ်ကို့ဆီ မလာတော့ဘူးပေါ့လေ"

"မဟုတ်ပါဘူး။ မနေ့က အစ်ကိုပဲ ပြောပြီးတော့။ နောက်နေ့ အစ်ကိုတို့ဘက် မလာခဲ့နဲ့ဆို။ အစ်ကို့အစ်ကို နတ်ကတော်ကြီးက သူ နတ်ဝင်နေတုန်း သီချင်းလာဆိုရင် မကြိုက်ဘူးဆို"

"အေးပါ... အေးပါ၊ ဟုတ်ပါတယ်"

သိပ်သနားဖို့ ကောင်းတာပဲ၊

ဟောဒီ ကောင်မလေးကို သနားစရာ အပြစ်ကင်းစင်သူကလေးဖို့ မင်းမင်း ငြိမိတာပါ။

"နတ်ကတော်လုပ်ရတာ ကောင်းတယ်နော် အစ်ကို"

"ဘာရယ်"

"နတ်ကတော်လုပ်ရတာ ကောင်းတယ်လို့၊ ပန်းညိုက နတ်ကတော် ဖြစ်ချင်တာ"

"ဟောရှာ... ဒီကောင်မလေးဟာ ဘယ်လို ကောင်မလေးလဲ"

"ဟုတ်တယ်၊ နတ်ကတော်ဆိုတာ သနပ်ခါး ခြေဆုံး ခေါင်းဆုံး လိမ်းပြီး ဇိမ်လေးနဲ့ နေရတာ။ ဘာမှ ပင်ပင်ပန်းပန်း မလုပ်ရဘူး။

ပန်းညိုတို့ကျ နတ်တွေက မကောက်ဘူးနော်။ ဝိုက်ဆံမရှိလို့လား မသိဘူး၊ ဟုတ်လား"

"မဟုတ်ပါဘူးကွာ"

"ဟုတ်ပါတယ်။ ဟောဒီ တောင်ပြုန်းရွာထဲက နွားနို့ထမင်းရောင်းတဲ့ အစ်မကြီး တစ်ယောက်ကလည်း ပြောတယ်။ သူလည်း နတ်ကတော်ဖြစ်ချင်တာတဲ့၊ နို့ထမင်း မရောင်းချင်ဘူးတဲ့၊ ဒါပေမယ့် နတ်တွေက သူတို့ကျ မကောက်ဘူးတဲ့၊ နတ်တွေက ရုပ်ချောတဲ့လူတွေကိုပဲ မ တာပါတဲ့"

"ဘာတွေ လျှောက်ပြောနေတာလဲ။ ဒီကောင်မလေး"

ပန်းညိုက အသံကိုးတိုးလေးနဲ့ ရယ်ပြီး မင်းမင်းပခုံးပေါ် ခွေ့မှီနေတယ်။

"နက်ဖြန် တစ်ရက်ပြီးရင် ပွဲပြီးပြီနော်"

"အင်း"

"အစ်ကိုတို့က ဘယ်ကို ပြန်ရမှာလဲဟင်။ ပန်းညိုတို့ နောက်နှစ်ကျမှ"

"အစ်ကို လာမယ်"

ပန်းညိုက မင်းမင်းဆီက ခေါင်းခွာပြီး မှောင်ရိပ်ထဲမှာ မင်းမင်းမျက်နှာကို မယုံသလို ကြည့်တယ်။

"ပန်းညိုနဲ့ အစ်ကို တူတူနေမှာလားဟင်"

သနားစရာ ကောင်မလေးရယ်။ ပန်းညိုလက်ကလေးတွေကို သနားလှစွာ ဆုပ်ထားမိတယ်။

"ဟင်... ပန်းညို အစ်ကိုနဲ့ တူတူနေရမှာလား"

"နေရမှာပေါ့။ ပန်းညိုနဲ့ အစ်ကိုနဲ့ တူတူနေမှာပေါ့"

ဒီစကားတွေကို ဘာဖြစ်လို့ ပြောမိသွားတယ်ဆိုတာ ကိုယ့်ဟာ

ကိုယ်လည်း မသိတော့ပါဘူး ပန်းညိုရယ်၊ ဝန်ခံရရင် ဒီစကားတွေကို ပြောဖို့ ရည်ရွယ်ချက် ကိုယ့်မှာ တကယ်မရှိခဲ့ပါဘူး။

"အစ်ကိုကို ချစ်တယ်"

ရိုးသားလှိုက်လှဲနေတဲ့ အသံလေးကို ရက်မိပါရဲ့ ပန်းညိုရယ်။ မရိုးသားနိုင်တဲ့ ကိုယ့်ဘဝကိုလည်း ဝမ်းနည်းမိပါရဲ့။ ပန်းညိုလက်ကလေးတွေကို ညင်ညင်သာသာ နမ်းရှိုက်လိုက်တယ်။ နမ်းရှိုက်လိုက်တဲ့ ခဏမှာပဲ...

"ဟော့... မင်းမောင်"

လရောင်နဲ့ သစ်ရွက်ကလေးတွေကိုတောင် ထိတ်လန့်တုန်ခါသွားစေတဲ့ အသံ။

ပန်းညိုလက်ကလေးကို မင်းမင်း လွှတ်ချလိုက်မိတယ်။

"ဟော့...မင်းမောင်၊ ဘယ်မှာလဲ... ထွက်ခဲ့စမ်း"

သူ လိုက်လာပြီ။ နောက်ဆုံးတော့ မင်းမင်းဘဝကို အစွမ်းကုန် ခြေမွဖျက်ဆီးပစ်ဖို့အတွက် သူ လိုက်လာခဲ့ပြီ။

"မင်းမောင်၊ ငါ ခေါ်နေတာ နင် မကြားဘူးလား"

သူ ကျွေးတာစား၊ သူ ပေးတာယူ၊ သူ ခိုင်းတာလုပ်၊ သူပြုသမျှ နရတဲ့ ငါးရာတန် ငွေဝယ်ကျွန်တစ်ယောက်အနေနဲ့ သူ့အမိန့်ကို နာခံရတော့မလား။

"ဟဲ့... ဒါလောက် အော်နေတာတောင် နင့်မှာ အရှက် မရှိဘူးလား။ အရှက်နည်းလှချည်လားဟင်။ ထွက်ခဲ့၊ သူများလင်ခိုးတဲ့ ဟိုမိန်းမနဲ့ ဘယ်ချောင်မှာ အိပ်နေလဲ"

ဝုန်းခနဲ မင်းမင်း မတ်တတ်ရပ်လိုက်တယ်။ တဆတ်ဆတ် တုန်ယင်နေတဲ့ ပန်းညိုကို အသာတွန်းဖယ်လိုက်ပေမယ့် ကောင်မလေးက မင်းမင်းလက်ကို အတင်းဆွဲထားတယ်။

"အစ်ကိုက... အစ်ကိုကနတ်ကတော်ကြီးရဲ့..."

မပီမသ သွေးရူးသွေးတန်း ထွက်လာတဲ့အသံတိုးလေးက မင်းမင်းခန့်ဘကိုယ်ထဲကို ကြောက်မက်ဖွယ်ရာ စိမ့်ဝင်သွားခဲ့တယ်။

"ဟော့... မင်းမောင်"

"သွားတော့ ပန်းညို၊ သွားတော့..."

မှောင်ရိပ်ထဲကနေ မင်းမင်းထွက်တယ်။ ဇရပ်ပျက်ကြီးပေါ်က လူနွမ်းပါးတွေလည်း လှုပ်လှုပ်ရှားရှား ဖြစ်ကုန်ကြပြီ။

"အရပ်ကတို့ရေ... ယောက်ျားကြီးတန်မဲ့နဲ့ မိတ်ကပ်တွေ လိမ်း နှုတ်ခမ်းနီတွေဆိုးပြီး ပင်ပင်ပန်းပန်း ရှာဖွေကျွေးတဲ့ ထမင်းကိုလည်း အရှက်မရှိ စားသေးတယ်။ ကြက်ဖလားထဲက ဗိုက်ဆံနှိုက်ပြီးတော့ လည်း မိန်းမတွေနဲ့ အလေလိုက်ချင်သေးတယ်။ စဉ်းစားလည်း ကြည့် ကြပါဦး"

အရှက်ခွဲခြင်းဆိုတဲ့ ပညာမှာ တစ်ဖက်ကမ်းခတ်အောင် တတ် မြောက်လှတဲ့ ဒေစီဂျိန်းရဲ့ မိတ်ကပ်မဖျက်ရသေးတဲ့ ဒေါသမျက်နှာ ကြီးကို လရောင်က ဆလိုက်ထိုးပေးထားသလိုပဲ၊ ဆံထုံးဖြေ မဖြီးရသေးတဲ့ ဆံပင်တွေက ထိုးထိုးထောင်ထောင်၊ ခါးတောင်အကျီ ငွေဇာဖျင်ပေါ်က ပုလဲပုတီးအရှည်ကြီးကလည်း တယမ်းယမ်းနဲ့ မျက် တောင်တုတွေ မဖြုတ်ရသေးတဲ့ မျက်လုံးအစုံက ပြူးကျယ်ပြီး ဝင်းဝင်း တောက်နေတယ်။

"ဟဲ့... ထွက်ခဲ့ဆိုတာ မထွက်သေးဘူးလား။ အဆင့်မရှိတဲ့မိန်းမနဲ့ နေတော့မယ်ဆိုလည်း ငါဆင်ထားတဲ့ ပစ္စည်းတွေ ချွတ်၊ အကုန်ချွတ် ပေးလှည့် မင်းမောင်"

"ခင်ဗျားပါးစပ်ကို ပိတ်ထားစမ်း"

ရုတ်တရက် လက်ကို ဆောင့်ဆွဲတာ ဒေစီဂျိန်း ခံလိုက်ရတယ်။

ဇောနဲ့ မျက်စိက မှုန်မှုန်နဲ့ မင်းမင်း အနားရောက်လာတာကို မမြင်ဘူး၊

"ခင်ဗျား ပါးစပ်မပိတ်ရင် ကျုပ် ထိုးမှာနော်"

"ဟင်... နင်ကလား၊ ငါ့ကို ထိကြည့်စမ်း။ ငါ့ပါးစပ် ငါပိတ်ချင်မှ ပိတ်မယ်။ ကဲ... အော်တယ်ဟေ့ အော်တယ်၊ ဟောဒီမှာ အရပ်ကတို့..."

မင်းမင်းက ဒေစီဂျိန်းပါးစပ်ကို ပိတ်ပစ်လိုက်တယ်။ ပြီးတော့ လက်တွေကို ချုပ်ပြီး အတင်းဆွဲထုတ်လာတော့ တရွတ်တိုက်ပါလာတယ်။ တအားမောနေတဲ့ ဒေစီဂျိန်းရဲ့ အသက်ရှူသံပြင်းပြင်းနဲ့အတူ ဇရပ်ပေါ်က နာကျင်နေတဲ့ ရှိုက်သံလေးက မင်းမင်းနောက်ကို လိုက်လာတယ်။

အရက်တွေ၊ ဒေါသတွေ၊ နာကျင်တာတွေနဲ့ သတိလက်လွှတ်ဖြစ်နေတဲ့ မင်းမင်းလက်တွေက မိန်းမလျှာမကြီးကို ဘယ်လောက်များ မညှာမတာ ဆွဲခဲ့မိတယ် မသိဘူး။ အိမ်ပေါ်ကို ရောက်တော့ ခြောက်ဆယ်တွင်း မိန်းမလျှာမကြီး ပုံလဲသွားခဲ့တယ်။

နုနယ်လှတဲ့ မိန်းမအသားအရေကို ပိုင်ဆိုင်ထားတဲ့ ဂျိန်းဇွန်းမကြီးရဲ့ လက်ကောက်ဝတ်တွေ နီရဲမှန်းပဲ့နေပြီး ပခုံးက ငွေဇာချင်အကျီက စုတ်ပြဲလို့ ဆံပင်တွေ ဦးရေတွေလည်း ကျိန်းနေသလိုပဲ။ ဘုရား... ဘုရား၊ သူ ဆံပင်တွေကိုရော ဆွဲခေါ်ခဲ့သလား။ လမ်းတစ်လျှောက်လုံး ဘာမှမသိပါဘူး၊ မသိတော့ပါဘူး။ မောလွန်းလို့ အသက်ကို မနည်းရှူပြီး ပါလာခဲ့ရတာပါ။

"ရေ... ရေ... ငါ့ကို ရေတိုက်ကြပါ"

ကိုဘစီကို ချစ်တဲ့ သစ္စာရှိ လှူယုံမကြီး အဖုံကြီးကပဲ ရေခွက်လေးနဲ့ ရောက်လာတယ်။

သူကတော့ တစ်ချက်ကလေးမှ လှည့်မကြည့်ခဲ့ပါဘူး။

အံ့တကြိတ်ကြိတ် လက်သီးတပြင်ပြင်နဲ့။

"မောလိုက်တာ၊ ငါ သေလိမ့်မယ်ထင်တယ်။ ငါ့ကို သတ်တာ၊ ငါ့ကို သေအောင်သတ်တာ"

"ဘာချ"

မင်းမင်းက ဝုန်းခနဲ လှည့်ကြည့်တယ်။

"ခင်ဗျားက ကျုပ်အရက်ကို ခွဲ၊ ကျုပ်ဘဝပျက်အောင် လုပ်ရုံတင် အားမရသေးဘူးပေါ့။ ကျုပ်ကို ထောင်ထဲပါ ထည့်ချင်သေးတာပေါ့။ ဟုတ်လား။ အေးလေ.. ဒါ ဆန်းတော့ မဆန်းပါဘူး။ ခင်ဗျားတို့ မိန်းမလျာတွေရဲ့ အကျင့်ပဲ၊ လိုရင် ခြင်ထောင်ထဲ မလိုရင် ထောင်ထဲပေါ့။ ခင်ဗျားတို့ လုပ်နေကြတဲ့ လိုတဲ့အချိန်မှာ လိုသလိုသုံးမယ်။ မလိုတော့ဘူးဆိုတော့ ပစ္စည်းခိုးတယ်၊ သေကြောင်းကြံတယ်ဆိုပြီး ထောင်ထဲပို့"

"ခြော်... နင်က မိန်းမလျာတွေအကြောင်း တော်တော်သိတယ်ပေါ့"

ကိုဂျိန်းဘွန်းမကြီးရဲ့စိတ်ခါတ်နဲ့ မိန်းမလျာမကြီး လှူးလဲ ထထိုင်တယ်။

"နေပါဦး၊ မိန်းမလျာမတွေ မကောင်းဘူးဆိုရင် နင် ဘာဖြစ်လို့ မိန်းမလျာနဲ့ နေခဲ့တာလဲ။ မနေနဲ့ပေါ့။ မနေလို့ရတာဘဲ"

"ကျုပ် မသိခင်က နေခဲ့တာလေ။ သိတဲ့အချိန်ကစပြီး မနေချင်တာ ကြာလှပြီ"

"ခြော်... ဒီလိုဆို ခု မနေတော့ဘူးပေါ့။ အဆီစား အသားမျို လို့လည်း ဝပြီပေါ့။ သက်ကြားအိုကြီးကို ရင်ဝကန်ပစ်ခဲ့ပြီး နုနုထွတ်ထွတ် ဆယ့်ခြောက်နှစ်ကလေးနဲ့ သွားနေတော့မယ်ပေါ့"

"ဟုတ်တယ်။ ကျုပ် မိန်းမယူတော့မယ်။ အိမ်ထောင်ပြုတော့မယ်"

သူ တစ်ခါမှ မကြားဖူးခဲ့တဲ့ မင်းမင်းရဲ့ပြတ်သားလှတဲ့အသံကို ဒေးကြောင်နားထောင် နေမိရာက ဂျိန်းစဘွန်းမကြီးရဲ့ပါးပြင်ပေါ်မှာ မျက်ရည်တွေ တလိမ့်လိမ့် ကျလာခဲ့တယ်။

"မယူရဘူး၊ နင် မယူရဘူး။ ငါ့ကိုပဲ ချစ်ရမယ်။ နင် ငါ့ကို မချစ်တော့ဘူးလား"

ရုတ်တရက် မင်းမင်းနောက်ကျောကို ဒေစီဂျိန်းက ရှိုက်ကြီးတငင်နဲ့ သိမ်းဖက်လိုက်တယ်။

"နင့်ကို ငါ မခွဲနိုင်ဘူး။ နင်သွားရင် ငါသေမှာပဲ။ ငါ့ကို နင် သတ်သွားပစ်ခဲ့ပါ"

"ဖယ်စမ်းပါ၊ အဲဒါမျိုးတွေ ကျုပ်ကို မလုပ်နဲ့"

မိတ်ကပ်အနီတွေ၊ အပြာတွေ၊ အနက်တွေနဲ့ မျက်ရည်တွေနဲ့ ရောနှောလိမ်းကျံနေတဲ့ အရုပ်မကြီး ဂျိန်းစဘွန်းမျက်နှာကို မင်းမင်းက ကြည့်တယ်။

"ခင်ဗျား ကျုပ်ကို ချစ်တယ်ဆိုတာ အလကားပါ။ ကျုပ်ဘက်က နေပြီးတော့ ခင်ဗျား ဘယ်တုန်းကများ စဉ်းစားဖူးလဲ။ ခင်ဗျားဘက်ကပဲ ခင်ဗျား စဉ်းစားတာ။ ဒီမှာ ခင်ဗျားတို့ မိန်းမလျာဆိုတာကို လူတွေက ဘယ်လိုသဘောထားလဲ။ ရွံရှာကြတယ်။ စက်ဆုပ်ကြတယ်။ မိန်းမလျာကိုမြင်ရင် ရှောင်ချင် ကွင်းချင်ကြတယ်။ ဘယ်သူကမှ လိုလားတာမဟုတ်ဘူး။ ဆွေမျိုးကတောင် မကြည့်ဘူး၊ ဒါတွေကို သိလျက်နဲ့ အဲဒီမိန်းမလျာနဲ့ တွဲလျှောက်ဖို့တဲ့ ကျုပ်သတ္တိကို ကျုပ် ဘယ်လောက်မွေးထားရတယ် ထင်သလဲ။ ခင်ဗျား အော်သလို ကျုပ်ဟာ မိန်းမလျာထဘီနား ရိုစားနေတဲ့ကောင်ပါ။ ဟုတ်ပါတယ်။

ဒါပေမယ့် အချိန်တန် အရက်ကလေး တမြမြ၊ ဝတ်ကောင်းစားလှလေး တသသနဲ့ ညာစားနေတဲ့ကောင်မျိုး မဟုတ်ဘူး။ ကျုပ်စားနေရတဲ့ ထမင်းအတွက်၊ ကျုပ်ဝတ်နေရတဲ့ အဝတ်အတွက် ကျုပ် အလုပ်တွေ အများကြီး လုပ်ခဲ့ပါတယ်။ ခင်ဗျားအလုပ်ကို အများကြီး ကူခဲ့ပါ တယ်၊ ကျုပ် ထဘီတောင် ခေါက်ပေးတာပဲ။ ဒါ ဘာဖြစ်လို့လဲ။ ရှင်းရှင်းပြောရရင် ခင်ဗျားကို သံယောဇဉ်ရှိလို့ပေါ့။ သံယောဇဉ် ရှိတာနော်။ ချစ်တာတွေ၊ မေတ္တာတွေ၊ တဏှာရာဂတွေနဲ့ မဆိုင်ဘူး။ ကျုပ် မသိတတ်ခင်တုန်းက အဲဒါတွေ ရှိခဲ့တာပေါ့လေ။ အခု ကျုပ် သိတဲ့အချိန်မှာတော့ ခင်ဗျားဟာ ကျုပ်အစ်ကိုပဲ၊ ကျုပ် ဦးလေးပဲ၊ ကျုပ် အိမ်ထောင်ပြုချင်တယ်၊ ကျုပ် ဒီဘဝကြီးထဲကနေ ရုန်းထွက်ပါ ရစေတော့"

ထားရာနေ၊ စေရာသွား၊ ပြုသမျှ နုခဲ့ရတဲ့ သူ့ရဲ့ပေါက်ကွဲမှုကို မိန်းမလျာမကြီးကို အထိတ်တလန့်ကြည့်ရင်း ဆောက်တည်ရာမရ တတွတ်တွတ် ရေရွတ်တယ်။

"ငါ့မှာ ဘာအပြစ်ရှိလို့လဲ။ နင့်ကို ငါ ဘာတွေများလုပ်ခဲ့လို့လဲ"

"ဘာတွေလုပ်ခဲ့လို့လဲ ဟုတ်လား။ ခင်ဗျားပဲ ကျုပ်ကို အမြဲပြောတဲ့ စကားလေး၊ စိတ်ဆိုးအောင်လုပ်၊ စိတ်နာအောင် မလုပ်နဲ့ဆိုတာလေး။ စိတ်ဆိုးတာက ပြေတယ်။ စိတ်နာတာက ဘယ်တော့မှ မပြေတော့ဘူး တဲ့။ ခင်ဗျား ကျုပ်ကို စိတ်နာအောင် လုပ်ခဲ့တဲ့အကြိမ်တွေ မရေတွက် နိုင်တော့ဘူး ဦးဘစီရဲ့၊ လူရှေ့သူရှေ့တွေမှာ ခင်ဗျား အရှက်ခွဲခဲ့တာ တွေလေ။ ခင်ဗျားစိတ်ကလေး ထစ်ခနဲ မကျေနပ်တာနဲ့ နတ်ပွဲအလယ် ကောင်မှာ မအေ၊ နမကုန်အောင် ဆဲခဲ့တာလေ။ ပါးရိုက်ခဲ့တာလေ။ မဟုတ်ရပါဘဲနဲ့ မကောင်းတဲ့မိန်းမနဲ့ ပျော်ပါးနေပါတယ် ဆိုပြီး သူများကနားတဲပေါ်က အတင်းဆွဲချ၊ ပွဲခင်းတစ်ခုလုံး လည်ပြပြီး

အရက်ခွဲခဲ့တာလေ။ ဆိုက်ကားဂိတ်လို နေရာမျိုးမှာ သူခိုး၊ သူခိုးလို့ အော်ခဲ့တာလေးရော၊ ခင်ဗျား မေ့များသွားပြီလား။ ကျုပ်ကတော့ ကျုပ်အမေဆီ သွားစါနီးမှာ ဖြစ်တဲ့အဖြစ်မို့ တစ်သက်မမေ့ဘူး။ ဒီလက်စွပ်လေ၊ ဒီလက်စွပ်။ ကျုပ်အမေဆီကို သွားရင် လက်စွပ်ဝတ် မသွားရဘူးတဲ့။ ကျုပ်အမေ သူဆင်းရဲမကြီးက ယူလိုက်မှာစိုးလို့၊ ခိုးလိုက်မှာ စိုးလို့ပေါ့လေ။ ကျုပ်အသနားခံပြီး ခင်ဗျားကို တောင်းပန်ခဲ့ပါတယ်၊ လက်စွပ်လေးတစ်ကွင်းတော့ လူကြည့်ကောင်းအောင် ဝတ်သွားပါရစေ၊ ဘာမှမဖြစ်စေရပါဘူးလို့၊ ဒါပေမယ့် ခင်ဗျား လုပ်ခဲ့တာလေ၊ ခင်ဗျားအိမ်နားက ဆိုက်ကားဂိတ်မှာလေ၊ ဆိုက်ကား ပေါ်ရောက်နေတဲ့ ကျုပ်ကို လိုက်ပြီး အော်တာ၊ "ငါ မကျေနပ်ဘဲ ငါ့ပစ္စည်းယူရင် ခိုးတာပဲ၊ ငါအော်မှာနော်။ သူခိုး... သူခိုး။ လက်စွပ် သူခိုး" တဲ့၊ ကျုပ် အားလုံးမှတ်မိတယ်၊ ခင်ဗျား နာအောင်လုပ်တာတွေ အကုန်လုံး ကျုပ် မှတ်မိတယ်"

"အဲဒါတွေလုပ်တာ နင့်ကို ချစ်လို့ဟဲ့၊ ရှက်တော့၊ နာတော့မှ နင်က နောက် ငါမကြိုက်တာတွေ မလုပ်မှာပေါ့၊ ထားတော့။ ကဲ... စနောက်ပိုင်း နင့်ကို ငါ ဘာလုပ်သလဲ၊ အရာရာ နင့်သဘော၊ နင့် အစီအစဉ်၊ နင့်ကို ငါအကုန်ပုံထားတယ် မဟုတ်လား"

"ကျွန်ယုံတော်ပေါ့၊ ချွေတာသုံး၊ မစားရက် မဝတ်ရက် စုဆိုတဲ့ စည်းကမ်းဥပဒေကြီးနဲ့လေ၊ သုံးသမျှ စာရင်းဇယားနဲ့ ပြရတာလေ"

"အေး... အဲဒီတော့ နင်က လူမိုးလေးကိုး၊ စာရင်းဇယားမှာ မလိမ်တတ်ရှာဘဲကိုး၊ ငါ့ကို မှန်မှန်ကန်ကန် ပြရှာတာကိုး"

"အဲဒါလည်း ခင်ဗျားကြောင့် ဖြစ်လာတာလေ။ ကျုပ် လိမ်တတ်တာ၊ ရှုပ်တတ်တာတွေဟာလည်း ခင်ဗျားကြောင့် ဖြစ်တာပဲ"

"အေးအေး... ငါရှုံးပါပြီ။ ငါ ရှုံးပါတယ်၊ နင်သာ အနိုင်ယူပါ

တော့။ အနိုင်ယူပါတော့။ ငါ မကောင်းချည်းဘဲ ထားလိုက်ပါတော့"

"ခင်ဗျား မရှုံးပါဘူး။ ကျွန်တော့်အတွက် အရင်းက နည်းနည်းလေးပဲ၊ ငါးရာတည်းပါ"

"ဟဲ့… ငါ့အရင်းက အဲဒီငါးရာမဟုတ်ဘူး။ ငါ့အရင်းက နှလုံးသား။ ဟောဒီ နှလုံးသားနဲ့ ငါ ရင်းထားရတာ။ ဒီအရင်းရှုံးမှတော့ ငါ့ဘဝ ဘာအဓိပ္ပာယ် ရှိတော့မှာလဲ။ ငါ သေလိုက်ဖို့ပဲ ရှိတယ်"

ဂျိန်းစဘွန်းမကြီးရဲ့ ရှိက်သံက ဆွေးမြည့်နာကျင်လို့ နေတယ်။

"နင့်လိုသာ ပြောကြကြေးဆို ငါ ချစ်လို့ နင့်ကို ခွင့်လွှတ်ခဲ့ရတာတွေလည်း အများကြီးပါပဲ။ နင် ငါ့ကို မိန်းမကဲ့စွနဲ့ မျက်ခွက်ကို လက်သီးနဲ့ထိုးတာလေ။ မျက်လုံးထိပြီး အဲဒီကာစ မျက်စိတွေ မှုန်သွားတာ၊ ငါ့မျက်လုံးတွေ ခုထိ မကောင်းတော့ဘူး"

မင်းမင်း ငြိမ်သက်နေတယ်။ ဂျိန်းစဘွန်းမကြီးက မျက်ရည်တွေကို ခပ်ကြမ်းကြမ်း ပွတ်သုတ်ပြန်တယ်။

"ရပါတယ်၊ နင် အခု မိန်းမယူမယ် မဟုတ်လား။ ငါတို့ မိန်းမလျာဆိုတာ ဒီလိုအဖြစ်မျိုး ဘယ်နေ့များ ဖြစ်ပါ့မလဲ ဆိုတာကို တထိတ်ထိတ်နဲ့ စောင့်နေရတဲ့ဘဝ။ တစ်နေ့ကျ ရင်ခွင်ကို စွံကန်သွားမယ်ဆိုတာ မျက်ဖြူဆိုက်ပြီး ကျန်ခဲ့ရမယ်ဆိုတာ သိပြီးသားပဲ။ ငါ့ကိုလည်း နင် အိုစော်နံပြီ၊ မေတ္တာကုန်ပြီပဲ။ ကြွေသောရွက်ဝါ ပြန်မဆက်၊ လှသောအိပ်မက် ပြန်မမက်တဲ့။ ငါ နားလည်တယ်။ နင့်ကို ငါ ကျိုးစားဖြတ်ရမှာပေါ့။ သံမဏိဆိုတာ မီးနဲ့တိုက်မှ အရည်ပျော်တာ။ စိန်ကို စိန်ချင်းဖြတ်မှ၊ သံကို သံချင်းဖြတ်မှ၊ နှလုံးသားကို နှလုံးသားချင်း ဖြတ်မှ ပြတ်တာ။ ငါ ဖြတ်ပါ့မယ်။ ငါ့နှလုံးသား အကြေအမွှစ်ပြီး ငါ ဖြတ်ပါ့မယ်"

မျက်ရည်တွေက ဂျိန်းစဘွန်းမကြီး ပါးပြင်ပေါ်ကို စီးကျလာပြန်

"မနေ့ညကဆို ငါ တစ်ညလုံး အိပ်မပျော်ဘူး။ နင် ဘယ်လောက် လိမ်လိမ်၊ ကောင်မလေးနဲ့ နင်ဖြစ်နေပြီဆိုတာ ငါ သိတာပေါ့။ ငါ စဉ်းစားကြည့်တယ်၊ နင် မိန်းမယူမယ်ဆိုရင် ငါ ဖြတ်နိုင်မလား ဆိုတာ၊ တွေးလိုက်တာနဲ့ အို... ဟိုတုန်းက စားခဲ့၊ သောက်ခဲ့၊ ပျော်ခဲ့ပါးခဲ့၊ လှူခဲ့တန်းခဲ့တာတွေ ရုပ်ရှင်ပြသလို အကုန်ပေါ်။ ဖျားတော့နာတော့ ပြုစုတာတွေ၊ ခရီးသွားတဲ့အခါ ကြင်နာတာတွေ အကုန်ပေါ်။ မျက်ရည်တွေပဲ ့တွေတွေ တွေတွေကျပြီး အိပ်မပျော် တော့ဘူး။ တစ်ညလုံး လင်းအားကြီးမှ အရက်ထသောက်ပြီး အိပ်ပစ် လိုက်ရတာ"

"ဟိုတုန်းကဟာတွေဟာ ဟိုတုန်းကပဲလို့ ကျုပ် ပြောပြီးပြီပဲ။ တော်ပါတော့။ အရေးကြီးတာက ပြတ်သားရမှာက ကျုပ်တို့ရဲ့ ရှေ့ဆက်ရမယ့်ဘဝ"

"ဪ...နင်ကတော့ ဘယ်တွေးချင်ပါတော့မလဲ။ ဘယ်သတိရ ချင်ပါတော့မလဲ။ ရက်စက်နိုင်ပြီကိုး၊ ငါ့ကို မုန်းပြီကိုး"

"ခင်ဗျားကို ကျုပ် သံယောဇဉ်ရှိပါတယ်လို့ ပြောပြီးပြီ"

ဂျိန်းစသွန်းမကြီးက မျှော်လင့်တကြီးနဲ့ လင်သည်ကလေးကို ကြည့်ရှာတယ်။

"နင် ငါ့ကို သံယောဇဉ်ရှိတယ်ဆိုရင် ငါနဲ့ ဘာဖြစ်လို့ မနေနိုင်ရ တာလဲ၊ ဘာဖြစ်လို့ တစ်သက်လုံး မနေနိုင်ရတာလဲ"

"ဒီမှာ..."

မင်းမင်းဒေါ်သံက ဟိန်းထွက်လာတယ်။

"ခင်ဗျားက မိန်းမ မဟုတ်ဘူး။ ခင်ဗျားက မိန်းမစိတ်ပေါက်နေတဲ့ ယောကျ်ား။ ကျုပ်ကလည်း ယောကျ်ား။ ခင်ဗျားနဲ့ တစ်သက်လုံး ဘယ်လိုလုပ်နေရမလဲ။ ခင်ဗျားနားမလည်ပါဘူး။ ခင်ဗျားနားမလည်ဘူး"

"အေး... နားမလည်ဘူး။ ငါသိတာက ငါဟာ မိန်းမပဲ။ အရာရာ ငါ မိန်းမလိုပဲနေတယ်။ ပြောတယ်။ ရယ်တယ်။ ငိုတယ်။ အားလုံးကို မိန်းမလိုပဲ ငါခံစားတယ်။ ငါဟာ မိန်းမပဲ။ ငါ့ကိုယ်ငါတော့ မိန်းမပဲ"

"ခင်ဗျားဘာသာ သေအောင်ပြော။ ခင်ဗျား မိန်းမဖြစ်လို့ မရဘူး။ ခင်ဗျားအတုပဲ၊ နားလည်လား"

ဂျိန်းစဘွန်းမာန်ဝင်လာတဲ့ ဒေဇီဂျိန်းက မိန်းမဟန်အပြည့်နဲ့ ခါးကို ထောက်လိုက်တယ်။

"ဩော်... အေး အေး၊ ထားပါတော့ မိန်းမတုကြီးကို ရင်ဝကန် ခဲ့ပြီး နင်ယူမယ့် မိန်းမစစ်ကလေးက ဟိုတုန်းက ရည်းစားဟောင်း လား။ အခု အဆင့်မရှိတဲ့ မိန်းမလေးလား"

"ခင်ဗျား မိုက်မရိုင်းနဲ့။ စကားကို အဆင့်ရှိရှိပြော"

"ဟုတ်ကဲ့၊ အဆင့်ရှိသူကြီးရယ်၊ မေးတာလေး ဖြေပါဦး။ ဘယ်သူနဲ့များ စုလျားရစ်ပတ် မှာပါလိမ့်ရှင်"

"ခင်ဗျားအပူ မဟုတ်ပါဘူး။ ကျုပ် ပန်းညိုကို ယူမှာ"

"အဲဒီမိန်းမကိုပေါ့လေ ဟုတ်လား။ နေပါဦး။ သူ့ကို နင်ယူတော့ နင်က ဘာလုပ်ကျွေးမှာတုံး။ သူရှာတာကို ထိုင်စားမှာ လား"

"ကျုပ်မှာ ခြေရှိတယ်၊ လက်ရှိတယ်။ ကျုပ် ကူလီထမ်းကျွေး မယ်။ ဆိုက်ကားနင်းကျွေးမယ်"

"ဩော်... မြင်းမိုရ်တောင်ကိုပင် ကျော်လွှားနိုင်သော စွမ်းအင် တွေပေါ့လေ။ ဆိုက်ကား နင်းကျွေးမယ်။ ကူလီထမ်းကျွေးမယ်တဲ့။ ငါ ရယ်လိုက်ချင်တယ်။ ဒီမှာ မင်းမောင်"

ဂျိန်းစဘွန်းမကြီးက အောင်နိုင်သူမျက်နှာမျိုးနဲ့ နှုတ်ခမ်းတွေကို မဲ့လိုက်တယ်။

"ငါ လုပ်ကျွေးတာကို တစ်လျှောက်လုံး သက်သတ်သာသာ

ထိုင်စားလာတဲ့ နှင့်လိုဟာမျိုးက ကုလီထမ်းနိုင်မယ်များ ထင်သလား၊ ဝေးပါသေးတယ်”

“ခင်ဗျား စောင့်ကြည့်လိုက်ပေါ့။ ကျုပ်သွားမယ်။ ရော့.. ခင်ဗျား ပစ္စည်းတွေ”

ကြမ်းပြင်ပေါ်ကော်ဇောပေါ် မင်းမင်း ပစ်ချလိုက်တဲ့ ပစ္စည်းတွေကို ဒေစီဂျိန်းက မယုံသလို ကောက်ယူလိုက်တယ်။

“ဆွဲကြိုးတွေ၊ နာရီတွေ၊ ဟန်းချိန်းတွေ၊ လက်စွပ်တွေကို ပစ်ပြီး ကုလီသွားလုပ်မယ့် သူဟာ ဆိုက်ကားသွားနင်းမယ့် လူဟာ အရူးမို့လို့ ပေါ့”

“ကျုပ် မရူးဘူး။ ခင်ဗျားသာ ရူးနေတာ”

“ဟုတ်ပါတယ်။ ငါက အရူးမကြီးပါ”

တံခါးဝကို မင်းမင်းထွက်လိုက်တယ်။

“ကျုပ်... ခင်ဗျားဆင်ထားတဲ့ အဝတ်အစားတစ်စုံတော့ ဝတ် သွားမယ်”

“မင်းမောင်”

မင်းမင်းလက်ကို ဂျိန်းစဘွန်းမကြီး လှမ်းဆွဲတယ်။

“ကျုပ်လမ်း ကျုပ်သွားပါရစေ။ ခင်ဗျား ဖယ်”

“မဖယ်ဘူး”

“ဖယ်စမ်းဗျာ”

ဆောင့်တွန်းပစ်လိုက်ပြီး အိမ်ပေါ်လှေကားကနေ မင်းမင်း အပြေးဆင်းတယ်။

လဲကျကျန်ရစ်နေတဲ့ ဂျိန်းစဘွန်းမကြီးကို တစ်ချက်ကလေးမှ လှည့်မကြည့်ဘဲ အမှောင်ထုထဲကို ပြေးဝင်သွားတယ်။

ပန်းညှိုလေးရှေ့အစ်ကိုလာပြီ။ မင်းနဲ့ ထာဝရအတူတူနေဖို့အတွက်

လဲကျကျန်ရစ်နေတဲ့ ဂျိုန်းစဘွန်းမကြီးကို တစ်ချက်က
လှည့်မကြည့်ဘဲ အမှောင်ထုထဲကို ပြေးဝင်သွားတယ်။

ပန်းညိုလေးရေ၊ အစ်ကိုလာပြီ။ မင်းနဲ့ ထာဝရအတူ
အတွက် အစ်ကို မင်းဆီလာနေပြီ။



# ရွှေဘုံဆင်း
# ဝါခေါင်လဆန်း (၁၅) ရက်

မင်းနှစ်ပါးရဲ့ တောင်ပြုန်း ရွှေပွဲလာ နောက်ဆုံးနေ့။

မင်းနှစ်ပါးရဲ့ ရွှေဘုံဆင်းတဲ့နေ့။

ပွဲတော် နောက်ဆုံးနေ့ရဲ့ ထုံးစံအတိုင်း လူတွေက ကြိတ်ကြိတ်တိုး ဝြကားလို့ နေတယ်။

နန်းကြီးပေါ်မှာ မင်းနှစ်ပါးရဲ့ပုံတော်တွေကို ရွှေချဖို့ (ရွှေဘုံဆင်း) အတွက် မိဖုရားကြီးတွေ၊ အမတ်ချုပ်ကြီးတွေ၊ သိုးတွေ၊ တောင်းတွေ လုပ်ရှုပ်ကုန်ကြပြီ။ မင်းနှစ်ပါးပုံတော်တွေကို ချက်ချင်း ရွှေချရမယ်။ တော့ ဝတ်လဲတော်အသစ်၊ ဖောင်းအသစ် လဲလှယ်ဝတ်ဆင်တော် ဒိမ့်မယ်။

နန်းကြီးပေါ်က အရှင်နှစ်ပါးပုံတော်ကို ရွှေချနေတဲ့အချိန် ကနား

တဲတန်းက နတ်ကတော်တွေလည်း အလုပ်ရှုပ်ကြပြီ။ နောက်တစ်ပတ်ကြာရင် ကျင်းပမယ့် မင်းနှစ်ပါးက မယ်တော်ပုပ္ပားကို ပို့တဲ့ပွဲ၊ ရတနာဂူနတ်ပွဲကို ကူးဖို့အတွက် ပြင်ကြဆင်ကြရပြီ။

ပွဲတော် ခုနစ်ရက်မှာ ငွေထုပ်ပိုက်နိုင်သူ နတ်ကတော်နဲ့ သူဌေးနတ်ကတော်တွေက ရတနာဂူပွဲ ကူးဖို့နဲ့ ကြားတစ်ပတ်မှာ နေရေးထိုင်ရေးကို စိတ်အေးအေး စီစဉ်နေချိန်မှာ ငွေခင်အမျှုးပြုတဲ့ အချို့သောနတ်ကတော်တစ်သိုက်ကတော့ ပေါင်နှံရောင်းချရေး အစီအစဉ်ကြီးကို စတင်နေကြပြီ။

စရိတ်အတွက် ကြက်ဖလားပေါင်တဲ့ နတ်ကတော် ရှိတယ်၊

ပုံတော်ပေါင်တဲ့ နတ်ကတော်ရှိတယ်။ မားပေါင်တဲ့ နတ်ကတော်ရှိတယ်။ ဆဘီ၊ အကျီပေါင်တဲ့သူလည်း ရှိတယ်၊ ရောင်းတဲ့သူလည်း ရှိတယ်။

ဖဲရှုံးလို့ ပေါင်တယ်။ အရက်သောက်လို့ ပေါင်တယ်။ ပိုက်ဆံမရလို့ ပေါင်တယ်။ ပေါင်နည်းတွေက အမျိုးမျိုး။

တချို့ ရောင်းကျတဲ့ ကနားတဲလေးတွေက နတ်ကတော်၊ နတ်ပရိသတ်မရှိတဲ့၊ စနီးမရှိတဲ့၊ နာမည်မရှိတဲ့ နတ်ကတော်တွေဟာ တကယ့်ကို ပိုက်ဆံမရကြတာ။

ပေါင်ထားတဲ့ ပစ္စည်းတွေကို ရတနာဂူကျမှ ပြန်ရွေးကြမယ်လေ။ ပွဲစားငွေခင်တို့ ဒီအချိန်ဆို လက်မလည်တော့ဘူးပေါ့။ ကနားတဲတန်းမှာ ငွေခင်တို့က ဟိုကူးလိုက် ဒီသန်းလိုက်၊ နတ်ကတော်တွေနဲ့ ရှုတ်ရှုတ် ရှုတ်ရှုတ်ပေါ့။ ပစ္စည်းပေါင်၊ ပစ္စည်းရောင်းအပြင် မိန်းမလျာလင်အလဲအလှယ် အရောင်းအဝယ်ကလည်း ပါလိုက်သေး။ တစ်ယောက်နဲ့တစ်ယောက် လင်လဲကြ၊ ဟိုကောင်လေးကို ဝယ်ချင်တဲ့သူနဲ့ ဒီကောင်လေးကို ရောင်းချင်တဲ့သူနဲ့ အလုပ်ကို ဖြစ်လို့။

ပိုက်ဆံမရရှာတဲ့ ချောင်ကျကျ ကနားတဲလေးတွေမှာ နတ်ကတော်တချို့ ပွဲတော်ခုနစ်ရက်လုံး ဟန်ပြတင်ထားတဲ့ ဖုန်အလိမ်းလိမ်းနဲ့ ကြက်ကြော်ကို ထမင်းနဲ့ ရျစားနေရပြီ။ ဘယ်သူတွေ ဘာတွေပဲဖြစ်ဖြစ် ဘာကိုမှ ဂရုမထားနိုင်ဘဲ ပွဲတော်လာ လူအုပ်ကြီးထဲမှာ၊ ကနားတဲတန်းတွေကြားမှာ မင်းမင်းဆိုတဲ့ အချစ်ရူးကောင်လေးတစ်ယောက် အတင်းတိုးဝှေ့လျှောက်သွားလို့ နေတယ်။

အိပ်ပျက်မျက်လုံးအစုံက နေရာအနှံ့အပြားကို ရှာဖွေတဲ့ အကြည့်နဲ့ကြည့်တယ်။ ပန်းညို ဘယ်မှာလဲ။ ပန်းညိုတို့ ဘယ်မှာလဲ၊ နားကျင်စွေးမြည့်တဲ့ သီချင်းသံလေး ဘယ်ထောင့်ကများ ပေါ်လာမှာလဲ။

ဇရပ်ပျက်ကြီးပေါ်မှာ ပန်းညိုတို့ မရှိတော့ဘူး။

ပြီးတော့... ပြီးတော့ ဘယ်နေရာမှာမှ ပန်းညိုတို့ မရှိတော့ဘူး။

ပန်းညို ထွက်ပြေးသွားခဲ့ပြီ။

လူလိမ်လူညာ တစ်ယောက်ကို အမုန်းကြီးမုန်းပြီး ထွက်ပြေးသွားခဲ့ပြီ။

အလိမ်အညာခံရတဲ့ သနားစရာ ကောင်မလေးရယ်။ ဘယ်အရပ်ကို ရောက်နေရှာပြီလဲ။

ကလေးတစ်ယောက်သာ ဆိုရင်ဖြင့် တောင်ပြုန်းပွဲလယ်ကောင်မှာ ရှိုက်ရှိုက်ပြီး မင်းမင်း ငိုချလိုက်ချင်ပြီ။ ဝမ်းနည်းနာကျင်မှုနဲ့ ပင်ပန်းမှု၊ ပွဲတော်ကွင်းကို မင်းမင်း ဘယ်နပတ် ပတ်မိမှန်း မသိဘူး။ ပန်းညိုရေ လို့လည်း ဘယ်နခွန်း ခေါ်မိပါလိမ့်။

ကနားတဲတစ်တဲရဲ့ ရှေ့တိုင်အခြေမှာ မဟာန်နိုင်ဘဲ မင်းမင်း ထိုင်ချလိုက်တယ်။

ဖျားချင်နေပြီ။

မျက်စိမှိတ်ပြီး ခေါင်းယမ်းမိတယ်။

နုနယ်လှရှည်လား ကုလီထမ်းမယ့် သူကြီးရယ်၊ ဆိုက်ကားနင်းမယ့် သူကြီးရယ်။

ပန်းညိုရေ… မင်း ဘယ်မှာလဲ၊

"ဒေစီကျိန်း ကောင်လေး မင်းမင်းပါ၊ မူးနေတယ် ထင်တယ်"

ဘယ်သူလဲ ပြောတာ ဒေစီကျိန်းကောင်လေးဆိုတာ ဘယ်သူလဲ၊ မင်းမင်း ကိုင်ခြေကနေ ထရပ်တယ်။

မိန်းမလျာတွေ နင်တို့ကို ကြည့်ကို မကြည့်ချင်ဘူး။ ဦးဘစီရဲ့ စက်ကွင်းက လွတ်အောင် ကျုပ်ရှောင်မယ်၊ ကျုပ်ဟာကျုပ် ဘယ်လိုနေနေ ဘယ်လိုထိုင်ထိုင် ဘယ်သူနဲ့မှ မဆိုင်ဘူး၊ မင်းမင်းဟာ လမ်းပေါ်က လူ၊ လမ်းဘေးကလူ ဖြစ်သွားပြီ။

သူဌေးမကြီး ဒေစီကျိန်းရဲ့ လတ်လျားလတ်လျား လှမပါကြော့ လင်ကလေး မဟုတ်တော့ဘူး။ စားရမယ့် သောက်ရမယ့် လမ်းဘေး ကကောင် ဖြစ်သွားပြီ၊

ပန်းညို… မင်းနဲ့တွေ့ရင် မင်းတောင်းထားတဲ့ထမင်း ကိုယ်တောင်းစားရမှာ။ ကျွေးမှာလား၊ ကိုယ့်ရင်တွေ သိပ်ဟာနေပြီ၊

တစ်နေရာရာမှ ထိုးအိပ်မှဖြစ်တော့မယ်၊ လျှောက်ရင်း လျှောက်ရင်းနဲ့ မင်းမင်း အဖျားတက်စပြုပြီ၊ နတ်ဆိုင်းသံတွေက နားထဲမှာ မစဲသာအောင် ဆူညံလာတယ်၊

ပန်းညို နက်ဖြန်ကျရင် မင်းကို တစ်ခါရှာဦးမယ်၊ နက်ဖြန် လပြည့်ကျော်တစ်ရက်မှာ ဆုတောင်းပြည့်ဘုရား ဘုန်းကြီးဆွမ်းလောင်းပွဲ ရှိတယ်၊ ထပ်ပွဲဆိုတာလည်း ရှိတယ်၊ ဘုရားကို လာပို့ကြတဲ့ ဆွမ်းတော်ပွဲ ငှက်ပျောဖီးတွေကို အချင်းချင်း ထပ်ပြီး ဘုရားက ပြန်ပေးတဲ့ ပွဲပေါ့။

အဲဒီဆွမ်းလောင်းပွဲကို ဟိုအရှုပ်မကြီးက နှစ်တိုင်းလောင်းတာ

ပေါ့၊ ပန်းညိုရယ်… အဲဒီဆွမ်းလောင်းပွဲကို တောင်းတဲ့ လူတွေလေ အများကြီး လာကြတယ်။ ဆွမ်းကြီးလောင်းပွဲကို တော့ သနားစရာ ကောင်မလေး ထွက်လာရှာမှာပါ။

တစ်နေရာရာကို သွားအိပ်ချင်တယ်။ မင်းမင်းခြေလှမ်းတွေကို မသိစိတ်က တစ်နေရာရာကို သယ်ဆောင်သွားနေတယ်။

မင်းမင်းသိတဲ့ တစ်နေရာရာကို သယ်ဆောင်သွားနေတယ်။

ကနားတဲတန်းလေးတစ်ခု၊ ပြီးတော့ ဒီဘက်ကွေ၊ ဝင်းထရဲ့ အရှည်ကြီးကို လျှောက်၊ စက္ကူပန်းနီတွေနဲ့ ခုံးကလေး လုပ်ထားတဲ့ တံခါး၊ ခြေလှမ်းတွေက အလိုလိုသွားနေတယ်။ မျက်လုံးတွေက မဖွင့်ချင်တော့လောက်အောင်ပဲ။

စက္ကူပန်းခုံ တံခါးဝအရောက်မှာ ခြေလှမ်းတွေက အလိုလို ရပ်တယ်။ ပြီးတော့ စိတ်လျှော့လိုက်သူတစ်ယောက်လို တံခါးဝမှာ မင်းမင်း ပုံလဲသွားခဲ့တယ်။

ဘာကိုမှ မသိတော့ပါဘူး။

"မင်းမောင်"လို့ ဘယ်သူခေါ်လိုက်တာလဲ။

စိုးရိမ်တကြီးနဲ့ ခေါ်တာ ပန်းညိုပေါ့။

မငိုပါနဲ့ ပန်းညိုရယ်၊ ပန်းညိုရင်ခွင်ထဲမှာ အစ်ကို ဖျားချင်တယ်။



တောင်ပြုန်းလမ်းခွဲကလေးပေါ်မှာ ပွဲတော်ပြန် ကားတန်းရှည်ကြီး တအိအိ ရွေ့လျားနေပုံဟာ လွမ်းစရာကောင်းနေသေးတော့တယ်။

ဝါဆို ဝါခေါင်လေကလေးကလည်း ကားတန်းရှည်ကြီးကို ခွဲခွာဖို့ အတွက် နှုတ်ဆက်လို့ နေတယ်။

ပွဲတော်ကွင်းက ထွက်ခါစ ဟိုင်းလပ်အဖြူလေးတစ်စီးရဲ့ ရှေ့ခန်းမှာ ကိုယ်ပူရှိန်နဲ့ နွမ်းဖျော့မှေးမှိန်နေတဲ့ လင်သည်ကလေး မင်းမောင်ကို

ဂျိန်းစဘွန်းမကြီးက စိုးရိမ်တကြီး ပွေ့ဖက်လို့ ထားတယ်။

ဘုရားစာတွေကို တတွတ်တွတ်ရွတ်ရင်း အရှင်နှစ်ပါးကိုလည်း တတွတ်တွတ် တိုင်တည်လာတယ်။ နေကောင်းပါစေ၊ ရောဂါဝေပ်သိမ်းငြိမ်းပါစေ၊ သေမယ့်ရောဂါ ကျေးတော်မျိုး ကျွန်တော်မျိုးကို ကပ်ပါ။ ကျေးတော်မျိုး ကျွန်တော်မျိုးကြီးက အသက်ကြီးပါပြီ။ သေဘက်နီးပါပြီ။

ကားက ဖြည်းဖြည်းချင်းလေး ရွေ့နေရာက တုံ့ခနဲ ရပ်လိုက်တယ်။ ရထားလမ်းကူး ဂိတ်တံခါး ပိတ်ထားပြီ။

ကားနောက်ခန်းက ပစ္စည်းတွေနဲ့ အဖုံကြီးတို့ဆီကို ဂျိန်းစဘွန်းမကြီး လှည့်ကြည့်ရပြန်တယ်၊ ပစ္စည်းတွေ စိတ်ချရရဲ့လား။

ဩော်... သူ့သာဆို ဘာမှရမလဲ။ ကားနောက်ပြီးကို မှီပြီး ပစ္စည်းတွေ ကြည့်လိုက်တာ။ ဒေဗီဂျိန်းတို့ ကားရှေ့ခန်းကနေ စတိုင်လ်နဲ့ လိုက်ရုံပဲပေါ့။

ဂျိန်းစဘွန်းမကြီးက မိန်းမတစ်ယောက်ရဲ့ မှုပန်ပုံအကြည့်နဲ့ မင်းမင်းမျက်နှာကို ကြည့်ပြန်တယ်။

ရုတ်တရက် ရထားဥသြသံကြောင့် မင်းမင်း ဆတ်ခနဲတုန်သွားတော့ ဂျိန်းစဘွန်းမကြီး ပျာယာခတ်ရပြန်ပြီ။

အိပ်... အိပ်... ပြန်အိပ်၊ ဘာမှမဖြစ်ဘူးဟဲ့။

လူတွေနဲ့ နတ်ပုံတော်တွေ ရောနှောပြည့်လျှံနေတဲ့ တောင်ဖြူန်း- မန္တလေး မီးရထားက တဖြည်းဖြည်းချင်း ဖြတ်မောင်းလို့ နေတယ်၊

အပြာရောင် မီးရထားက တချက်ချက် မြည်ဟည်းလို့ ကားလမ်းဂိတ်တံခါးကို တအိအိနဲ့ ဖြတ်ကျော်တယ်၊

*"သက်ဆိုင်သူသို့... ဗိုလ်မေတ္တာ...ဝေးလွှာဝေ"*

ရထားသံ၊ လူသံတွေကြားကနေ နားကျင်စေ့အောင်ပြည့်နေတဲ့ သီချင်း

သံလေး တစ်သံက စူးစူးရှရှ ထွက်ပေါ်လာခဲ့တယ်။

မင်းမင်းတစ်ကိုယ်လုံး တုန်သွားတယ်။ ရီဝေဝေမျက်လုံးတွေ မျက်ခနဲ ပွင့်လာကြတယ်။ ခြောက်သွေ့တဲ့ နှုတ်ခမ်းအစုံက "ပန်းညို" တဲ့။

*"...မေ့မေ့ကွာ... မေ့မေ့ကွာ... သောက်ကာသုံး... ပြုံးရွှင်စေ..."*

ဂျိန်းစဘွန်းမကြီး လက်ထဲကနေ မင်းမင်း ရုန်းထွက်လိုက်တယ်။

"သူ... ရထားပေါ်မှာ"

တုန်နေတဲ့ မင်းမင်းကို ဂျိန်းစဘွန်းမကြီးက တင်းတင်းကျပ်ကျပ် ဖက်ထားတယ်။ မဟုတ်ပါဘူးတဲ့။ ဘာတွေ လျှောက်ပြောနေတာလဲ တဲ့။ နေမကောင်းလို့ စိတ်ထင်တာပါတဲ့။ အိပ်လိုက်... အိပ်လိုက်တဲ့။

စိတ်ထင်တာလား။ ပန်းညိုရယ် မင်းအသံလေး မဟုတ်ဘူးလား။

ဝမ်းနည်းအားလျော့စွာနဲ့ မျက်လုံးတွေကို မင်းမင်း မှိတ်လိုက်တယ်။ အဲဒီအချိန်မှာပဲ လွင့်ပျံလာတဲ့ သီချင်းသံလေးကို သေသေချာချာ သိလိုက်တဲ့ ခဏမှာပဲ နာကျင်နေတဲ့ သီချင်းသံကလေးက မင်းမင်းနဲ့ အဝေးကြီး ဝေးကွာလို့ သွားခဲ့ပြီ။

*"သက်ဆိုင်သူရေ... မေ့အသံအား... မှတ်မိပါရဲ့လားလေ..."* တဲ့။



**နုနုရည်အင်းဝ**